စိတ်ကူးချိုချိုအနုပညာ



# ဗုဒ္ဓအမြင်

## ဆန်းထွန်း

(ဟိန္ဒီဘာသာဖြင့် ရာဟုလာသံကိစ္စည်းရေးသားသော
ဗောဒ္ဓဒဿနကို မြန်မာဘာသာဖြင့် ဆန်းထွန်းက ပြန်ဆိုပြီး
**ပါရဂူ** ထပ်မံဖြည့်စွက်ထားသော မှု)

တတိယအကြိမ်

အခြားသော တိုးတက်ပွင့်ကားမှုများကဲ့သို့
အမြင်၏ တိုးတက်ပွင့်ကားမှုကိုလည်း
တစ်သတ် တစ်သတ်စီ အဆက်ဖြတ်ထားပါက
ကောင်းမွန်မှန်ကန်စွာ သိနိုင်မည်မဟုတ်ပေ။
ထို့ကြောင့် ဗုဒ္ဓအမြင် တိုးတက်ပွင့်ကားမှုကို သိရှိရန်၊
ထို့ပြင် ကမ္ဘာ့အမြင်တွင် ဗုဒ္ဓအမြင်၏ အရေးကြီးမှုကို သိရှိရန်၊
အရှေ့တိုင်း အနောက်တိုင်းဆိုင်ရာ
ရှေးဟောင်းနှောင်းသစ် အဘိဓမ္မာများကို
သိရှိ ထားဖို့လိုအပ်သည်။
ယခုစာအုပ်တွင် ရာဟုလာသံကိစ္စည်း သည်
ဗုဒ္ဓနှင့် ဓမ္မကိတ္တိ၏အမြင်(အဘိဓမ္မာ)များကို
ကျယ်နိုင်သမျှ အကျယ်တဝင့်ရေးသားခဲ့၏။

စိတ်ကူးချိုချိုစာအုပ်

# ဆန်းထွန်း

## မုဒ္ဒအမြင်

## ပါရဂူ

## ထပ်မံပြည့်စွက်ပြန်ဆိုထားသည့်မူ

၂၀၀၇ ခုနှစ်၊ မတ်လ
တတိယအကြိမ်

# မာတိကာ



♠

# မူရင်းပထမအကြိမ်ရိုက် နိဒါန်း

"ဗုဒ္ဓအမြင်သည်" သည် ကျွန်ုပ်ရေးသားအပ်သော "အဘိဓမ္မာစံပြ" ကျမ်း၏ အပိုင်းတစ်ပိုင်းဖြစ်၏။ တတိယ ပရိစ္ဆေဒ(နာဂသေနအကြောင်း)ကို ယခုရှိရင်းထက်ပို၍ အကျယ်တဝင့်ရေးသားရန်လိုအပ်ပါ၏။ သို့သော် ဤ(ပထမ) အကြိမ်ရိုက်စာအုပ်တွင် အကျယ်တဝင့်ရေးသားရန် ကျွန်ုပ်တွင် အချိန်မရှိပေ။ ဒုတိယအကြိမ်ရိုက်စာအုပ်တွင် အဆိုပါလိုအပ်ချက်ကို ဖြည့်စွက်နိုင်လိမ့်မည်ဟု မျှော်လင့်ပါ၏။ သို့သော် ဗုဒ္ဓနှင့် ဓမ္မကိတ္တိ၏အမြင် (အဘိဓမ္မာ)များကို ကျယ်နိုင်သမျှ အကျယ်တဝင့်ရေးသားခဲ့၏။ ထိုမျှဖြင့် "ဗုဒ္ဓအမြင်" အဘယ်နည်းဟု သိရှိနားလည်ရေးတွင် စာဖတ်သူအား တစ်စုံတစ်ရာအနှောင့်အယှက် ရှိလိမ့်မည်မဟုတ်ပေ။

အခြားသော တိုးတက်ပွင့်ကားမှုများကဲ့သို့ အမြင်၏ တိုးတက်ပွင့်ကားမှုကိုလည်း တစ်သတ်တစ်သတ်စီ အဆက်ဖြတ်ထားပါက ကောင်းမွန်မှန်ကန်စွာ သိနိုင်မည်မဟုတ်ပေ။ ထို့ကြောင့် ဗုဒ္ဓအမြင် တိုးတက်ပွင့်ကားမှုကို သိရှိ ရန်၊ ထို့ပြင် ကမ္ဘာ့အမြင်တွင် ဗုဒ္ဓအမြင်၏ အရေးကြီးမှုကို သိရှိရန်၊ အရှေ့တိုင်း အနောက်တိုင်းဆိုင်ရာ ရှေးဟောင်းနှောင်းသစ် အဘိဓမ္မာများကို သိရှိထားဖို့လိုအပ်သည်။ ထိုလိုအပ်ချက်အတွက် "အဘိဓမ္မာစံပြ"ကျမ်းကို မုချ ဖတ်ရပေမည်။

၈၊ ၁၂၊ ၁၉၄၃ ရာဟုလသံကိတ္စာယန

ပယာဂ

## မူရင်းဒုတိယအကြိမ်ရိုက် နိဒါန်း

တစ်ဖန်တုံ၊ ဒုတိယအကြိမ်ရိုက်စာအုပ်၌ ကျွန်ုပ်သည် ၁၉၃၂ ခုနှစ်တွင် ရေးသားထားခဲ့သော မိမိ၏အရေးအသား တစ်ခု (ဂေါတမဗုဒ္ဓ၏ မူလသဘောတရားများ)ကို ပထမ ပရိစ္ဆေဒအနေနှင့် ဆက်ပေးနိုင်သည်မှအပ အခြား တစ်စုံ တစ်ရာဆက်လက်ပေးဖို့အချိန်ကို မထုတ်ယူနိုင်ခဲ့ပေ။

၈၊ ၁၂၊ ၁၉၄၃ ရာဟုလသံကိစ္စာယန
ပယာဂ

# ဖြည့်စွက်စီစဉ်သူ၏အမှာစာ

ရာဟုလာသံကိစ္စည်းသည် စာအုပ်ပေါင်း နှစ်ရာနီးပါးမျှ ရေးသားသွားခဲ့လေသည်။ ထိုစာအုပ်များ၌ ဗုဒ္ဓဘာသာသို့မဟုတ် ဗုဒ္ဓအဘိဓမ္မာနှင့် ပတ်သက်သောစာအုပ်များလည်း အများအပြားပါဝင်ပေ၏။ ဗုဒ္ဓဘာသာနှင့် ပတ်သက်သောစာအုပ်များအနက် အချို့မှာ ပိဋကတ်ဘာသာပြန်များဖြစ်ပြီး အချို့မှာ ပင်ကိုရေးများ ဖြစ်ကြလေသည်။ ပင်ကိုရေးစာအုပ်များအနက် ဗုဒ္ဓစရိယာ၊ ဗောဒ္ဓဒဿန(ဗုဒ္ဓအမြင်)၊ ဗုဒ္ဓယဉ်ကျေးမှုစသော ကျမ်းစာအုပ် များမှာ အထူးကျော်ကြားလူသိများသော ကျမ်းစာအုပ်များဖြစ်ကြပေသည်။

ရာဟုလာသံကိစ္စည်းသည် ကမ္ဘာ့အဘိဓမ္မာများ၏ အကြောင်းကို စုပေါင်းပြီး ကျမ်းစာအုပ်ကြီးတစ်အုပ်ရေးသားထားလေသည်။ ထိုစာအုပ်အမည်မှာ "ဒရှန် ဒိဂ်ဒရှန်"(အဘိဓမ္မာစံပြ)ဖြစ်လေသည်။ ထိုကမ္ဘာ့အဘိဓမ္မာစာအုပ်ကြီး၌ ဗုဒ္ဓအဘိဓမ္မာကို အိန္ဒိယအဘိဓမ္မာ၏ အစိတ်အပိုင်းတစ်ခုအဖြစ်ဖြင့် ကျယ်ကျယ်ပြန့်ပြန့်ထည့်သွင်းရေးသားထားလေသည်။ ထိုကမ္ဘာ့အဘိဓမ္မာစာအုပ်ကြီး၏ ကဏ္ဍတစ်ခုဖြစ်သော ဗုဒ္ဓအဘိဓမ္မာအပိုင်းကို ဗောဒ္ဓဒဿန ဟူသောအမည်ဖြင့် သီးခြားစာအုပ်တစ်အုပ်အဖြစ် ခွဲ၍ ရိုက်လေသည်။ ဤစာအုပ်(ဗုဒ္ဓအမြင်)မှာ ထို 'ဗောဒ္ဓဒဿန'ကို မြန်မာပြန်ထားခြင်းဖြစ်လေသည်။

ဘာသာပြန်သူမှာ ယခု မန္တလေးတက္ကသိုလ်တွင် မြန်မာစာပြဆရာအဖြစ် ဆောင်ရွက်နေသော ဆရာ ဦးဆန်းထွန်းဖြစ်လေ၏။ ဗုဒ္ဓအမြင်ကို ၁၉၅၂ ခုနှစ်လောက်က ပထမအကြိမ် ရိုက်နှိပ်ထုတ်ဝေခဲ့လေသည်။ ယခု ဒုတိယ အကြိမ်ရိုက်နှိပ်ထုတ်ဝေလိုက်ပါသည်။ ဤဒုတိယအကြိမ်ရိုက်တွင် ပထမ

အကြိမ်ရိုက်စာအုပ်တွင်ပါဝင်သော "ဂေါတမဗုဒ္ဓ၏ မူလသဘောတရားများ" ဟူသော ပထမပရိစ္ဆေဒအခန်းကို ချန်ထားလိုက်ပါသည်။ အကြောင်းမှုကား ထိုအခန်းမှာ မကြာခင်က ကျွန်တော်ဘာသာပြန်ထုတ်ဝေခဲ့သော "မဟာလူသားဗုဒ္ဓ"တွင် ဗုဒ္ဓဘာသာ၏ အခြေခံသဘောတရားများဟူသော အမည်ဖြင့်ပါဝင်ပြီးဖြစ်သောကြောင့်ဖြစ်လေ၏။

အထူးမှာ ပထမအကြိမ်ရိုက်နှိပ်စဉ်က ဘာသာပြန်ဆရာသည် ဗောဒ္ဓဒဿနပါ အချက်အလက်အနည်းငယ်ခန့်ကို မပြန်ဆိုဘဲ ခြွင်းချန်ထားခဲ့သည်။ ထိုအချက်အလက်များကို ယခု ဒုတိယအကြိမ်ရိုက်နှိပ်ရာတွင် ထည့်သွင်းရိုက်နှိပ်လိုက်ပါသည်။ ဤစာအုပ်အခန်း (၇) ရှိ အချို့သောစာကြောင်းများသည်လည်းကောင်း၊ အခန်း (၈) ရှိ အချို့သောပိုဒ်များသည်လည်းကောင်း ဦးဆန်းထွန်း မြန်မာပြန်သည့် ပထမအကြိမ်ရိုက်နှိပ်ခြင်းတွင် မပါသောအကြောင်းအရာများ ဖြစ်သည်။ ထိုအကြောင်းအရာများကို ယခု ဒုတိယအကြိမ်ရိုက်နှိပ်ခြင်းတွင် ကျွန်တော်က ဘာသာပြန်ပြီး ထည့်သွင်းလိုက်ပါသည်။

ပါရဂူ

၂၈၊ ၁၁၊ ၆၄

# ဒုတိယ ပရိစ္ဆေဒ

## ဂေါတမဗုဒ္ဓ (၅၆၃–၄၈၃ ဘီစီ)

အနှစ် နှစ်ရာတိုင်တိုင် အိန္ဒိယအဘိဓမ္မာ ဆရာကြီးတို့၏ အသီးသီးသော ဦးနှောက်များ၏ အပြင်းအထန်ကြိုးပမ်းမှု နောက်ဆုံးအကျိုးကို ကျွန်ုပ်တို့သည် ဗုဒ္ဓ၏အမြင်–ခဏိကအနတ္တဝါဒ အဖြစ် တွေ့ရ၏။

အိန္ဒိယ အဘိဓမ္မာအစဉ်အဆက်များတွင် အချိန်ကြာမြင့်သည်တိုင်အောင် အသစ်အသစ် ရှာဖွေမှုများကို ဆက်လက်ပေးသွားသည့် အစဉ်အဆက်ကား ဗုဒ္ဓအဘိဓမ္မာပင်တည်း။ နာဂဇ္ဈုန၊ အသင်္ဂ၊ ဝသုဗန္ဓု၊ ဒိန္နာဂ၊ ဓမ္မကိတ္တိ အမည်ရှိကုန်သော ပြိုင်ဘက်ကင်းသော အဘိဓမ္မာဆရာကြီးများသည် ဗုဒ္ဓအဘိဓမ္မာအစဉ်အဆက်တွင် ပေါ်ပေါက်ထွန်းကားကုန်၏။

## ၁။ အတ္ထုပ္ပတ္တိ

သိဒ္ဓတ္ထဂေါတမဖွားမြင်တော်မူသော နှစ်မှာ ခရစ်မပေါ်မီ ၅၆၃ ခန့်ကဖြစ်၏။ သိဒ္ဓတ္ထ၏ ခမည်းတော် သုဒ္ဓေါဒနကို သကျတို့၏ရာဇာဟု ခေါ်တွင်၏။ သို့သော် သုဒ္ဓေါဒနအလားတူပင် ဘဒ္ဒိယ(ဝိနယ ပိဋက–စုလ္လဝဂ္ဂ–၇) နှင့် ဒဏ္ဍပါဏိ(မဇ္ဈိမနိကာယအဋ္ဌကထာ–၁၊ ၂၊ ၈)ကိုလည်း သကျတို့၏ ရာဇာဟုခေါ်ဆိုအပ်ကြောင်း ကျွန်ုပ်တို့သိရ၏။ ထိုသို့သိရခြင်းအားဖြင့် သကျ တို့၏ ဒီမိုကရေစီနိုင်ငံတော် ဆီနိတ်၊ သို့မဟုတ် ပါလီမန်အမတ်များကို လိစ္ဆဝီဂဏကဲ့သို့ 'ရာဇာ' ဟုခေါ်တွင်ကြောင်း အနက်ထွက်လာ၏။

သိဒ္ဓတ္ထ၏မယ်တော် မာယာဒေဝီသည် သူ၏ မယ်တော်ထံသို့ သွားစဉ် ကပိလဝတ္ထုမှ မိုင်အနည်းငယ်ကွာသော လုမ္ဗိနီ(ယခုအခေါ် ရုမ္မိန်ဒေဤ၊ နေပါလ်ချိုင့်ဝှမ်း၊ နောက် တန္တဝါဘူတာမှ အနောက်ဘက် ၈ မိုင်ကွာ) အမည်ရှိသော အင်ကြင်းတောတွင် သိဒ္ဓတ္ထကို ဖွားမြင်ခဲ့၏။ သိဒ္ဓတ္ထမွေးဖွားသည်မှ နောက် ၃၁၈နှစ်၊ မိမိကိုယ်တိုင် ရဇ္ဇာဘိသေကခံယူပြီးနောက် အနှစ် ၂၀ မြောက်သောအခါ အသောကသည် သိဒ္ဓတ္ထမွေးဖွားရာဌာနတွင် ကျောက်တိုင်တစ်တိုင် ထူစိုက်ခဲ့၏။ ၎င်းကျောက်တိုင်သည်ယခုအထိ ထိုနေရာတွင် တည်ရှိ၏။

မင်းသားဖွားမြင်ပြီးနောက် (၇)ရက်အကြာတွင် ၎င်း၏ မယ်တော် ကံကုန်ခဲ့၏။ ထို့နောက် မင်းသားအား စောင့်ရှောက်ပြုစုမှုတာဝန်သည် မင်းသား၏ မိထွေးတော်လည်းဖြစ်၊ ဖတူမိကွဲအမိလည်းဖြစ်သော ပဇာပတိဂေါတမီ၏ အပေါ်သို့ ကျရောက်ခဲ့လေသည်။

ငယ်ရွယ်သော မင်းသား၏ လောကကို အတန်ငယ်စိတ်ကုန်နေပုံ၊ အတွေးလွန်နေပုံများကို မြင်ရသော သုဒ္ဓေါဒနမင်းကြီးက တစ်နေ့နေ့တွင် သူ၏သားတော်ကလေးသည် ဆာဓုး (ဘုန်းကြီး)များ၏ ဖြားယောင်းရာပါ၍ ထီးနန်းကိုစွန့်ခွာလေမည်လားဟု စိုးရွံ့ကြောက်လန့်စပြုခဲ့လေသည်။ ထို့ကြောင့် သုဒ္ဓေါဒနသည် နိုင်ငံနီးနားဖြစ်သော ကောလိယဂဏ(ဒီမိုကရေစီနိုင်ငံ)မှ ချောမောလှပသော သမီးကညာ ဘဒ္ဒါကာပိလာယနီ(ယသောဓရာ)နှင့် ထိမ်းမြားလက်ဆက်ပေးခဲ့၏။ မင်းသားသည် အနည်းငယ်ကြာသည့်တိုင် အောင် အခြေမပျက် နေထိုင်သွားခဲ့လေသည်။ ထိုအတောအတွင်း မင်းသားတွင် သားတစ်ယောက်ဖွားမြင်ခဲ့၏။ သားတော်ကလေးအား သူ၏ ထွန်းပနေသော အတွေးလဝန်းကို ဖုံးအုပ်မျိုဝါးသွားခြင်းအတွက် ရာဟု(ငပုပ်)ဟု အမှတ်အသားပြုကာ သိဒ္ဓတ္ထမင်းသားက ရာဟုလဟု အမည်ပေးခဲ့လေသည်။

သူအို၊ သူနာ၊ သူသေနှင့် ရဟန်းတည်းဟူသော နိမိတ်ကြီးလေးပါးကိုမြင်၍ မင်းသား၏လောကမှ စိတ်ကုန်ခန်းမှုသည် ရင့်ကျက်သွားခဲ့လေပြီ။ တစ်ညသ၌ မင်းသားသည် တိတ်ဆိတ်စွာ နန်းတော်မှ ထွက်ပြေးခဲ့၏။ ထိုသို့ ထွက်ပြေးခဲ့ခြင်း(တောထွက်ခြင်း)နှင့်ပတ်သက်၍ ဗုဒ္ဓက ကိုယ်တော်တိုင် သုံသုမာရဂိရိဇနပုဒ်(ကျူနာရ်)တွင် ဝစ္ဆရာဇဥဒယ၏သားတော် ဗောဓိရာဇကုမာရအား ဟောကြားခဲ့၏။ *(မဇ္ဈိမနိကာယ ၂၊ ၄၊ ၅)*

"မင်းသား၊ ဗုဒ္ဓမဖြစ်မီ ငါလည်း ဤသို့ယူဆခဲ့ဖူး၏။ သုခဖြင့် သုခကိုမရနိုင်။ ဒုက္ခဖြင့်သာ သုခကို ရနိုင်၏။ ထို့ကြောင့် အလွန်မည်းနက်သော ဆံပင်များရှိ၍ လှပနုပျိုမှုနှင့်တကွ ငယ်ရွယ်သော ငါသည် ပထမအရွယ်ကပင် မယ်တော် ခမည်းတော်များကို မျက်ရည်စက်လက်နှင့် စွန့်ခွာထားခဲ့ကာ လူ့ဘောင်မှ ရဟန်းဘောင်သို့ ဝင်ရောက်ခဲ့သည်။ (ပထမ)အာလာရကာလာမထံသို့ သွားခဲ့၏"

အာလာရကာလာမသည် ယောဂ(သမထ)နည်း အချို့ကို ပြောပြ၏။ သို့သော်လည်း သိဒ္ဓတ္ထ၏ စူးစမ်းရှာဖွေမှုသည် ထိုယောဂနည်းဖြင့် မပြည့်စုံခဲ့ပေ။ အာလာရကာလာမထံမှ ထွက်ခွာခဲ့၍ သိဒ္ဓတ္ထသည် ဥဒ္ဒကရာမပုတ္တထံသို့ချဉ်းကပ်လေ၏။ ဥဒ္ဒကထံတွင်လည်း ယောဂနည်းအချို့ကို သင်ကြားနိုင်၏။ သို့သော် ထိုနည်းများဖြင့် တင်းတိမ်မှုမဖြစ်ခဲ့ပေ။ ထိုမှတစ်ဆင့် သိဒ္ဓတ္ထ

သည် ဗောဓိဂယာအနီးတွင် (၆)နှစ်ကျော်ခန့် ယောဂလုပ်ငန်းများနှင့် အစာဖြတ်သောလုပ်ငန်းများကို ကြောက်ခမန်းလိလိကျင့်ကြံခဲ့၏။ ထိုကဲ့သို့ ကျင့်ပုံနှင့်ပတ်သက်၍ ဗုဒ္ဓကိုယ်တိုင်ဟောခဲ့၏။ (မဇ္ဈိမနိကာယ ၂၊ ၄၊ ၅)

"ငါ၏ ကိုယ်ကာယသည်(အားနည်းမှု)၏ အဆုံးစွန်သို့တိုင် ရောက်ခဲ့၏။ အနှစ်(၈၀)မျှ ကြာခဲ့ပြီးသော သစ်ပင်၏အဖုအထစ်များကဲ့သို့ ငါ၏အင်္ဂါကြီးငယ်များလည်း ယိုယွင်းခဲ့လေပြီ။ ကုလားအုပ်၏ခြေထောက်ကဲ့သို့ ငါ၏တင်ပါးရိုးများလည်း ပေါ်ကုန်လေပြီ။ လက်ပွတ်စုံးများကို(အနိမ့်အမြင့်) တန်းထားသကဲ့သို့(ရက်ဖောက်များကို တန်းထားသကဲ့သို့)ကျောရိုးများလည်း အဆူးထကုန်ကြလေပြီ။ တဲအိုပျက်၏ အချင်ရနယ်များ ဖရိုဖရဲဖြစ်ကုန်သကဲ့သို့ ငါ၏နံရိုးများလည်း ဖရိုဖရဲ ကျဲကုန်ကြလေပြီ။ နက်ရှိုင်းသော ရေတွင်းထဲက ကြယ်တာရာများကဲ့သို့ ငါ၏မျက်လုံးများလည်း ဟောက်ပက်နက်ရှိုင်းစွာ ဝင်နေခဲ့ပြီ။ အစိမ်းလိုက် ဖြတ်ထားသော ဘူးခါးပင်သည် လေ၊ နေပူကြောင့် ရှုံ့တွညိုးနွမ်းဘိသကဲ့သို့ ငါ၏ဦးရေများလည်း ရှုံ့တွညိုးနွမ်းခဲ့လေပြီ။ ထိုကဲ့သို့ အစာဖြတ်ထားခြင်းအားဖြင့် ငါ၏ကျောရိုးများနှင့် ဝမ်းရေများ လုံးဝကပ်နေကြလေပြီ။ ငါသည် အကယ်၍ ကျင်ကြီး သို့မဟုတ် ကျင်ငယ်စွန့်ရန် (ထလိုက်လျှင်) နေရာမှာပင် မှောက်လျက်သား လဲကျ၏။ ကိုယ်ကို သက်သာအောင်မေး၍ လက်ဖြင့် ကိုယ်ကိုပွတ်လိုက်လျှင် ကိုယ်မှ ဆွေးမြည့်နေသော အမွေးများ အမြစ်ပါကျွတ်ကျ၏။ လူများက ပြောကြ၏။ "ရဟန်းဂေါတမသည် အသားမည်းနက်၏"အချို့က "အမည်းမဟုတ်၊ ညိုပြာပြာအရောင်ရှိသည်"ဟု ပြောကြ၏။ အချို့က "ငါးခူရောင်ရှိသည်" ဟု ပြော ကြ၏။ ငါ၏ နဂိုဖြူဖြူဖွေးဖွေးအရောင်သည် ပျောက်ကွယ်ခဲ့လေပြီ။

"သို့သော်လည်း ငါသည် ဤ(ပူပန်သော) အကျင့်ဖြင့် ထိုနောက်ဆုံးအမြင်ကို မရခဲ့ပေ။ (ထိုအခါ စဉ်းစားမိ၏) 'ဗောဓိ(ဉာဏ်)အတွက် အခြားလမ်းတစ်ခု ရှိပါသေး၏လော' ထိုနောက် စဉ်းစားမိပြန်၏ 'ငါသည် ခမည်းတော်(သုဒ္ဓေါဒန)သကျ၏ လယ်ထဲတွင် သပြေပင်၏ အေးရိပ်သာအောက်၌ထိုင်လျက် ပထမဈာန်ကို ဝင်စားခဲ့ဖူး၏။ ထိုလမ်းကြောင်းသည် ဗောဓိ၏လမ်းကြောင်း ဖြစ်ကောင်းဖြစ်လေမည်လော။(သို့သော်လည်း) ဤပုံ အလွန်အကြူးပိန်ကြုံချည့်နဲ့နေသော ကိုယ်ကာယဖြင့် ပထမဈာန် သုခကို ရဖို့ရာ

မလွယ် ကူပေ။ . . . ထို့နောက် ငါသည် အစာကြမ်းဖြစ်သော ပဲနှင့် ထမင်းကို စားခဲ့ ၏။ ငါ အစာကြမ်းကို စားလိုက်သောအခါ ထိုရဟန်း (၅)ပါးစိတ်ပျက်၍ ထွက်သွားကြလေသည်"

ရှေ့သို့ဆက်လက်သော ဘဝခရီးစဉ်နှင့် ပတ်သက်၍ ဗုဒ္ဓက တစ်နေရာတွင် ဟောထားခဲ့၏။ *(မဇ္ဈိမနိကာယ ၁၊ ၃၊ ၆)*

"ငါသည် မွေ့လျော်ဖွယ်မြေအပြင် တောတစ်ခု၌ စီးဆင်းနေသောမြစ်တစ်ခု (နိရဉ္ဇနာ)ကိုမြင်၏။ ထိုမြစ်၏ကမ်းပါးသည် မွေ့လျော်ဖွယ်လည်းဖြစ်၏။ ဖြူလည်းဖြူဖွေး၏။ ဤနေရာသာ စိတ်အလုပ်လုပ်စရာ လျောက်ပတ်သော နေရာဖြစ်၏ဟု (ကြံ၍) ထိုနေရာမှာထိုင်၏။ (ထို့နောက်) ဇာတိ၏ ဆိုးယုတ်သောအကျိုးကိုသိမြင်၍ အတုမဲ့နိဗ္ဗာန်ကိုရလေသည်။ ငါ၏ ဉာဏ်အမြင်(မျက်မှောက်ပြုခြင်း)ဖြစ်ပေါ်ခဲ့၏။ ငါ၏ စိတ်ဓာတ်လွတ်လပ်မှု မတုန်မလှုပ်ဖြစ်သွား၏။ ဤသည်လျှင် နောက်ဆုံးဇာတိတည်း။ တစ်ဖန် ယခုအခါ (အခြား) ဇာတိမရှိတော့။

သိဒ္ဓတ္ထ၏ ဤသို့သော ဉာဏ်အမြင်သည် ဖြစ်ခဲ့၏။ ဒုက္ခ၊ ဒုက္ခ၏ အကြောင်း(သမုဒယ)၊ ဒုက္ခ၏ချုပ်ငြိမ်းခြင်း၊ ဒုက္ခ၏ ချုပ်ငြိမ်းကြောင်းလမ်း၊ အဖြစ်အပျက်မှန်သမျှ အကြောင်းကြောင့်ဖြစ်ကုန်၏။ ထိုအကြောင်းခံရှိသော အဖြစ်အပျက်ကိုလည်း ဟောခဲ့၏။ ဤသို့သော သဘော အယူအဆ(ဝါဒ) ရှိသည့် ရဟန်းကြီးပေတည်း ။

သိဒ္ဓတ္ထသည် (၂၉)နှစ်အရွယ် (၅၃၄ ဘီစီ) တွင် လူ့ဘောင်ကို စွန့်ခွာခဲ့၏။ (၆)နှစ်တိုင်တိုင် ယောဂ(သမထ)အကျင့်များကို ကျင့်ပြီး စူးစိုက်ခြင်း၊ တွေးကြံခြင်းအားဖြင့် (၃၆)နှစ်အရွယ် (၅၂၈ ဘီစီ)တွင် ဗောဓိ(ဉာဏ်)ကို ရ၍ ဗုဒ္ဓဖြစ်ခဲ့၏။ ထို့နောက် (၄၅)နှစ်ကာလပတ်လုံး ဗုဒ္ဓသည် မိမိ၏တရား (အမြင်)ကို ဟောကြား၍ အသက်(၈၀)အရွယ် (၄၈၃)ဘီစီတွင် ကုသိနာရာ (ကဆယာ၊ ဂေါရက္ခပုရ် ဒိစတြိတ်)၌ ပရိနိဗ္ဗာန်ဝင်စံခဲ့သတည်း။

*

---

၁။ ယေမ္မာဟေတုပ္ပဘဝါ၊ တေသံဟေတုံတထာဂတောအာဟ၊ တေသဉ္စ ယောနိရောဓ၊ ဧဝံဝါဒီ မဟာသမဏော။

## ၂။ ရိုးရိုးအလူအဆ

ဗုဒ္ဓဖြစ်ပြီးနောက် ဗုဒ္ဓသည် ပထမဆုံး မိမိဉာဏ်၏ အခွင့်အရေးရထိုက်သူများကို အစာဖြတ်မှု စွန့်လွှတ်လိုက်ခြင်းကြောင့် လျှော့ကျသွားပြီဟု အသိအမှတ်ပြုကာ မိမိအား စွန့်ခွာထွက်သွားသော ရဟန်းငါးဦးဟု နားလည်တော်မူ၏။ နားလည်တော်မူပြီးနောက် ဗုဒ္ဓသည် ပဉ္စဝဂ္ဂီတို့၏ ကျောင်းသခ်မ်းရှိရာ ဣသိပတနမိဂဒါဝုန် (ဆာရ်နာထ်–ဗနရဆ်) သို့ သွားရောက်၏။ ဗုဒ္ဓ၏ ပထမအဆုံးအမတော်ကား အစာဖြတ်မှုကို စွန့်လွှတ်၍ အာဟာရစတင်သုံးဆောင်သောမိမိအား ပဉ္စဝဂ္ဂီတို့ စွန့်ခွာသွားစဉ်က ယုံမှားသံသယဖြစ်မှုကို ပယ်ဖျက်ရန် ဖြစ်လေသည်။ ဗုဒ္ဓက ဟောခဲ့၏။

(ဓမ္မစက္ကပ္ပဝတ္တနသုတ္တ–
သံယုတ္တနိကာယ ၅၅၊ ၂၊ ၁)

"ရဟန်းတို့။ ဤအစွန်းလမ်း ၂ ခုကို မမှီဝဲအပ်။ –၁၊ ကာမချမ်းသာတွင် အလိမ်းကျံခံနေခြင်း။ ၂၊ ကိုယ်ကာယအပင်ပန်းခံနေခြင်း။ ဤ ၂ ခုသော အစွန်းတို့ကိုစွန့်၍ (ငါ) သည် အလယ်လမ်းကို ရှာဖွေထုတ်ဖော်ခဲ့၏။ ၎င်းလမ်းကား အမြင်ကို ပေး၏။ အသိကိုဖြစ်စေ၏။ ငြိမ်းချမ်းမှုကိုပေး၏။ ထို(အလယ်လမ်း)ကား ဤအရိယ(မြတ်သော) အဋ္ဌဂိက(အင်္ဂါရှစ်ပါးရှိသော) မဂ်တည်း။ သရုပ်အားဖြင့်သော်ကား အမြင်မှန်၊ အတွေးမှန်၊ အပြောမှန်၊ အလုပ်မှန်၊ အသက်မွေးဝမ်းကျောင်းမှန်၊ ကြိုးပမ်းမှုအမှန်၊ အောက်မေ့မှုအမှန်နှင့် စိတ်စွဲမှုအမှန်များ ဖြစ်စေသတည်း"

## ၂း၁။ လေးခုသော အရိယသစ္စာ

ဒုက္ခ၊ ဒုက္ခသမုဒယ၊ ဒုက္ခနိရောဓ၊ ဒုက္ခနိရောဓဂါမိမဂ္ဂ။ ၎င်းတို့ကို ကျွန်ုပ်တို့ ညွှန်ပြခဲ့လေပြီ။ ထိုတရား ၄ ပါးကို "အရိယာသစ္စာ"မြင့်မြတ်သော အမှန်များဟု ဗုဒ္ဓက ဟောခဲ့၏။

**(က) ဒုက္ခသစ္စာ**ကို ဖွင့်ပြလျက် ဗုဒ္ဓက ဟောတော်မူခဲ့၏။ "ဇာတိလည်း ဒုက္ခ၊ ဇရာလည်း ဒုက္ခ၊ မရဏာလည်း ဒုက္ခ၊သောက၊ ပရိဒေဝ၊ ဒုက္ခ၊ ဒေါမနဿ ဥပါယာသလည်း ဒုက္ခ၊ အပ္ပိယေဟိ သမ္ပယောဂ၊ ပိယေဟိ ဝိပ္ပယောဂလည်း ဒုက္ခ၊ လိုလျက်မရခြင်းလည်း ဒုက္ခ၊ အကျဉ်းအားဖြင့် ဥပါဒါနက္ခန္ဓာ ငါးမျိုး စလုံးဒုက္ခဖြစ်၏။ *(ဒီဃနိကာယ၊ မဟာသတိပဋ္ဌာနသုတ္တာ)*။

**ဥပါဒါနခန္ဓာငါးမျိုး**– ရုပ်၊ ဝေဒနာ၊ သညာ၊ သင်္ခါရ၊ ဝိညာဉ်တို့ကား ဥပါဒါနက္ခန္ဓာငါးမျိုးတည်း။

**ရုပ်**– မဟာဘုတ် ၄ ပါး–ပထဝီ၊ အာပေါ၊ ဝါယော၊ တေဇော–၎င်း တို့ကား ရုပ်–ဥပါဒါနက္ခန္ဓာတည်း။

**ဝေဒနာ**– အရာဝတ္ထုချင်း သို့မဟုတ် အရာဝတ္ထုများကို တွေ့ဆ ဆင်ခြင်၍ နာမ်တရားပေါင်းဆုံလာရာ သုခ၊ ဒုက္ခ သို့မဟုတ် သုခမဟုတ် ဒုက္ခမဟုတ်သောအနေဖြင့် ခံစားမှုကို ကျွန်ုပ်တို့က ဝေဒနာဟုခေါ်ကြ၏။

**သညာ**– ဝေဒနာ၏နောက်၌ ကျွန်ုပ်တို့ဦးနှောက်၌ ပထမကပင် စတင် ထင်စွဲလာခဲ့သော သင်္ခါရအားဖြင့် "ဤသူကား ထိုဒေဝဒတ်ပင်တည်း" ဟု ကျွန်ုပ်တို့ သိမှတ်မိကြ၏။ ၎င်းမှတ်မိသောသဘောကို သညာဟု ခေါ်၏။

**သင်္ခါရ**– ရုပ်နှင့်တွဲစပ်နေသော ဝေဒနာနှင့်သညာတို့၏ အထုံသည် ဦးနှောက်တွင် စွဲကပ်နေ၏။ ၎င်း၏အကူအညီအားဖြင့် ကျွန်ုပ်တို့သည် "ဤသူကား ထိုဒေဝဒတ်ပင်တည်း" ဟု သိမှတ်မိကြ၏။ ထိုစွဲကပ်နေသော သဘော၊ မှတ်မိမှုတွင် တူညီသော သဘောကို သင်္ခါရဟုခေါ်၏။

**ဝိညာဏ်**–အသိသဘော မနကို ဝိညာဏ်ဟုခေါ်ကြ၏။ အဆိုပါခန္ဓာ ငါးပါးသည် ပုဂ္ဂိုလ်တစ်ဦးဦး၏ တဏှာအာရုံအဖြစ်သို့ရောက်သောအခါ ၎င်းခန္ဓာကိုပင် ဥပါဒါနက္ခန္ဓာဟု ခေါ်၏။ အဆိုပါ ဥပါဒါနက္ခန္ဓာ ၅ မျိုးကို ဒုက္ခသဘောရှိ၏ဟု ဗုဒ္ဓက ဟောတော်မူ၏

**(ခ) ဒုက္ခအကြောင်း**၊ ဒုက္ခ၏ အကြောင်းကား အဘယ်နည်း။ ကာမ

တဏှာ၊ ဘဝတဏှာ၊ ဝိဘဝတဏှာဟု ကွဲပြားသော တဏှာတည်း။ ဣန္ဒြေများ၏ နှစ်သက်အပ်သော အာရုံများ၊ ပေါင်းစပ်မိခြင်းအာရုံများကို အသိအမှတ်ပြုခြင်းသည် တဏှာကိုဖြစ်ပွားစေ၏။ ကာမ(ချစ်အပ်သော အသုံးအဆောင်)အတွက်ကြောင့်ပင် ရာဇာ ရာဇာချင်းတိုက်ခိုက်ကြ၏။ ခတ္တိယ ခတ္တိယချင်း တိုက်ခိုက်ကြ၏။ အမိက သား၊ သားက အမိ၊ အဖက သား၊ သားက အဖ၊ အစ်ကိုက ညီ၊ ညီက အစ်ကို၊ နှမက မောင်၊ မောင်က နှမ၊ မိတ်ဆွေက မိတ်ဆွေအချင်းချင်း တိုက်ခိုက်ကြ၏။ ၎င်းတို့သည် အချင်းချင်းငြင်းခုံကြ၏။ ခိုက်ရန်ဖြစ်ပွားကြ၏။ အယူအဆကွဲပြားကြ၏။ အချင်းချင်းလက်ရောက် ကျူးလွန်ကြ၏။ တုတ်တစ်ပြက် ဓားတပြက် ကျူးလွန်ကြ၏။ ထိုသို့ အချင်းဖြစ်ပွားကြသဖြင့် သေသော်လည်း သေလုနီးပါး ဒုက္ခကြီးစွာရောက်ကြ၏။ *(မဇ္ဈိမနိကာယ ၁၊၂၊ ၃)*

**(ဂ) ဒုက္ခချုပ်ငြိမ်းမှု**– ထိုတဏှာ၏ အဆုံးစွန်ချုပ်ငြိမ်းမှု၊ စွန့်လွှတ်မှု၊ ပျောက် ပြယ်မှုကို ဒုက္ခချုပ်ငြိမ်းမှုဟု ခေါ်အပ်၏။ ချစ်အပ်သော အာရုံများနှင့် ထို အာရုံများကို အာရုံပြုသော တွေးဆကြံရွယ်မှုများမှ တဏှာလွှတ်သွားသော အခါ တဏှာ၏ ချုပ်ငြိမ်းမှုဖြစ်၏။

တဏှာချုပ်ငြိမ်းသွားသောအခါ ဥပါဒါန် (အာရုံများကို သိမ်းပိုက်စွဲလမ်းမှု) ချုပ်ငြိမ်း၏။ ဥပါဒါန်ချုပ်ငြိမ်းခြင်းကြောင့် ဘဝ (လောက) ချုပ်ငြိမ်း၏။ ဘဝချုပ်ငြိမ်းခြင်းကြောင့် ဇာတိ (ဘဝသစ်) ချုပ်ငြိမ်း၏။ ဇာတိချုပ်ခြင်းကြောင့် ဇရာ၊ မရဏ၊ သောက၊ ပရိဒေဝ၊ ဒုက္ခ၊ ဒေါမနဿ၊ ဥပါယာသများ ချုပ်ငြိမ်းကြ၏။ ဤသို့အားဖြင့် ဒုက္ခချုပ်ငြိမ်း၏။

ဤဒုက္ခချုပ်ငြိမ်းမှုသည်ပင်လျှင် ဗုဒ္ဓအဘိဓမ္မာအရပ်ရပ်၏ ဗဟိုချက်မဖြစ်၏။

**(ဃ) ဒုက္ခချုပ်ငြိမ်းမှုလမ်းကြောင်း**– ဒုက္ခချုပ်ငြိမ်းမှုဘက်သို့ ဆောင်ကြဉ်း သွားသောလမ်းကားအဘယ်နည်း။ အရိယအဋ္ဌင်္ဂိကမဂ်တည်း။ ၎င်းတို့ကို ရှေ့ပိုင်းတွင် ရေတွက်ခဲ့ပြီးလေပြီ။ အရိယအဋ္ဌင်္ဂိကမဂ်၏ ရှစ်ပါးသော မဂ်တို့ကို အသိ (ပညာ)၊ သူတော်ကျင့် (သီလ) နှင့် ယောဂ (သမာဓိ) ဟူ၍ ၃ ပိုင်း (ခန္ဓ) ပိုင်းပုံမှာ အောက်ပါအတိုင်းဖြစ်၏။

ဃး၁။ ပညာ
၁။ အမြင်မှန် (သမ္မာဒိဋ္ဌိ)
၂။ အတွေးမှန် (သမ္မာသင်္ကပ္ပ)

ဃး၂။ သီလ
၃။ အပြောမှန် (သမ္မာဝါစာ)
၄။ အလုပ်မှန် (သမ္မာကမ္မန္တ)
၅။ အသက်မွေးမှုအမှန် (သမ္မာအာဇီဝ)

ဃး၃။ သမာဓိ
၆။ ကြိုးပမ်းမှုအမှန် (သမ္မာဝါယာမ)
၇။ အောက်မေ့မှုအမှန် (သမ္မာသတိ)
၈။ စိတ်စွဲမှုအမှန် (သမ္မာသမာဓိ)

ဃး၁။ ပညာ

၁။ အမြင်မှန်

မှန်သော (သမ္မာ) အမြင် (ဒိဋ္ဌိ) – ကိုယ်၊ နှုတ်၊ စိတ်ဆိုင်ရာအကောင်း၊ အဆိုးလုပ်ငန်းများနှင့်ပတ်သက်၍ တည့်တည့်ကျကျ အမြင်ကို အမြင်မှန် ခေါ်၏။ အကောင်းအဆိုးလုပ်ငန်းများကား ဤသို့ပြား၏။

အဆိုးလုပ်ငန်းများ
(ဒုစရိုက်များ)

ကာယကံ
၁။ သတ်ခြင်း (ပါဏာတိပါတ)
၂။ ခိုးခြင်း (အဒိန္နာဒါန)
၃။ (ကာမဂုဏ်လိင်ဆိုင်ရာ) ကျူးလွန်မှု (ကာမေသုမိစ္ဆာစာရ)
ဝစီကံ
၄။ မုသားဆိုခြင်း (မုသာဝါဒ)

၅။ ကုန်းတိုက်ခြင်း (ပိသုဏဝါစာ)
၆။ ကြမ်းကြုတ်စွာ ပြောခြင်း (ဖရုသဝါစာ)
၇။ အကျိုးမဲ့ရောက်တတ်ရာပြောခြင်း (သမ္ဖပ္ပလာပ)

**မနောကံ**

၈။ လောဘ(အဘိဇ္ဈာ)
၉။ ရန်လိုခြင်း (ဗျာပါဒ)
၁၀။ အယူမှားခြင်း (မိစ္ဆာဒိဋ္ဌိ)

**အကောင်းလုပ်ငန်းများ**

(သုစရိုက်များ)

**ကာယကံ**

၁။ မသတ်ခြင်း (ပါဏာတိပါတ ဝိရတီ)
၂။ မခိုးခြင်း (အဒိန္နာဒါန ဝိရတီ)
၃။ မကျူးလွန်ခြင်း (ကာမေသုမိစ္ဆာစာရ ဝိရတီ)

**ဝစီကံ**

၄။ မုသားမဆိုခြင်း (မုသာဝါဒ ဝိရတီ)
၅။ ကုန်းမတိုက်ခြင်း (ပိသုဏဝါစာ ဝိရတီ)
၆။ ကြမ်းကြုတ်စွာမပြောခြင်း (ဖရုသဝါစာ ဝိရတီ)
၇။ အကျိုးမဲ့ရောက်တတ်ရာမပြောခြင်း (သမ္ဖပ္ပလာပ ဝိရတီ)

**မနောကံ**

၈။ အလောဘ (အနဘိဇ္ဈာ)
၉။ ရန်မလိုခြင်း (အဗျာပါဒ)
၁၀။ အယူမှန်ခြင်း (သမ္မာဒိဋ္ဌိ)

သစ္စာလေးပါး၌ အမှန်မြင်မှုကိုပင် အမြင်မှန်ဟုခေါ်၏။

၂။ **အတွေးမှန်**– တပ်မက်မှု၊ ညှဉ်းပန်းလိုမှု၊ ရန်လိုမှုကင်းသော အတွေးကိုပင် အတွေးမှန်ဟုခေါ်၏။

## ဃး၂။ သီလ

**၃။ အပြောမှန်**– ဝစီကံ ဒုစရိုက်လေးပါးမှကင်းသော အပြောကို အပြောမှန်ဟု ခေါ်၏။

**၄။ အလုပ်မှန်**– ကာယကံ ဒုစရိုက်သုံးပါးမှကင်းသော အလုပ်ကို အလုပ်မှန်ဟု ခေါ်၏။

**၅။ အသက်မွေးမှုအမှန်**– မတရားအသက်မွေးဝမ်းကျောင်းကို ရှောင်၍ တရားသော အသက်မွေးဝမ်းကျောင်းဖြင့် ကိုယ်ကာယမွေးခြင်းကို အသက်မွေးမှု အမှန်ဟုခေါ်၏။ ဗုဒ္ဓခေတ်အခါက အုပ်စိုးသူ–သွေးစုပ်သူ လူ့အဖွဲ့အစည်းက ကျေနပ်စွာ ခွင့်ပြုထားသော အသက်မွေးဝမ်းကျောင်းများ အားလုံးအနက် သက်ရှိသတ္တဝါအပေါ် ညှဉ်းပန်းမှုနှင့်ပတ်သက်သော အောက်ပါအသက်မွေးဝမ်းကျောင်းများကိုသာ ဗုဒ္ဓက မတရားသော အသက်မွေးဝမ်းကျောင်းဟုဟောဆိုခဲ့၏။ *(အင်္ဂုတ္တရနိကာယ ၅)*

"လက်နက်ကုန်သွယ်ခြင်း၊ သက်ရှိသတ္တဝါ ကုန်သွယ်ခြင်း၊ အသားကုန်သွယ်ခြင်း၊ ယစ်မျိုးကုန်သွယ်ခြင်း၊ အဆိပ်ကုန်သွယ်ခြင်း"

## ဃး၃။ သမာဓိ

**၆။ ကြိုးပမ်းမှုအမှန်**– မျက်စိ၊ နား၊ လျှာ၊ ကိုယ်တည်းဟူသော ဣန္ဒြေများကို စောင့်ထိန်းခြင်း၊ စိတ်ဆိုး စိတ်ယုတ်များမပေါ်ရန်၊ စိတ်ကောင်းစိတ်မြတ်များ ပေါ်ပေါက်လာစေရန် ကြိုးပမ်းမှု၊ ဖြစ်ပေါ်လာသော စိတ်ကောင်းမျိုး ဆက်လက်ဖြစ်ပေါ်လာစေရန် ကြိုးပမ်းမှုများကို ကြိုးပမ်းမှုအမှန်ဟုခေါ်၏။

**၇။ အောက်မေ့မှုအမှန်**– ကိုယ်ကာယဝေဒနာ စိတ်နှင့်မနဆိုင်ရာ ဓမ္မာရုံများ၏ တကဲ့အဖြစ်မှန်–၎င်းတို့၏ ညစ်နွမ်းမှုခဏတိုင်း ပျက်စီးကြေပြုန်းမှုသဘော အစရှိသည်၌ အမြဲမပြတ်အောက်မေ့မှုကို အောက်မေ့မှုအမှန်ဟု ခေါ်၏။

**၈။ စိတ်စွဲမှန်**– စိတ်ဓာတ်၏တည်ကြည်မှု (တစ်အာရုံတည်းတွင် စွဲဝင်နေမှု) ကို သမာဓိခေါ်၏။ *(မဇ္ဈိမနိကာယ ၁၊ ၅၊ ၄)* စိတ်၏ပျံ့လွင့်မှုကို ဖယ်ရှားနိုင်သော သဘောသည် စိတ်စွဲမှန်ဖြစ်၏။ ဗုဒ္ဓ၏အဆုံးအမတော်များကို အကျဉ်းဆုံးအားဖြင့် ချုပ်ထားသော ရှေးဟောင်းဂါထာတစ်ပုဒ်၌ ဤသို့

ဆိုထားခဲ့၏။

"အဆိုးဟူသမျှမပြုခြင်း၊ အကောင်းဟူသမျှ ပြည့်စုံအောင်ပြုခြင်း၊ မိမိစိတ်ကိုဖြူစင်အောင် စောင့်ထိန်းခြင်း၊ ဤသည်လျှင် ဗုဒ္ဓတို့၏ကျင့်ဝတ်သိက္ခာတည်း"

*[သဗ္ဗပါပဿအကရဏံ၊ ကုသလဿ ဥပသမ္ပဒါ၊ သစိတ္တပရိယောဒါပနံ၊ ဧတံဗုဒ္ဓါနသာသနံ။]*

မိမိအဆုံးအမတော်၏ မုချအကျိုးကား အဘယ်နည်းဟူသော ပြဿနာကို ဗုဒ္ဓက ဤသို့ဟောကြားဖြေရှင်းတော်မူခဲ့၏။ *(မဇ္ဈိမနိကာယ ၁၊ ၃၊ ၉)*

"ရဟန်းတို့၊ ဤဗြဟ္မစရိယ(ရဟန်းဘဝ)သည် လာဘ်၊ ပူဇော်သက္ကာ၊ ချီးမွမ်းမှုများအတွက်မဟုတ်။ သီလရရှိရေးအတွက်မဟုတ်။ သမာဓိရရှိရေးအတွက်မဟုတ်။ အသိဉာဏ်အမြင်အတွက်မဟုတ်။ မခိုင်ခံ့သော စိတ်ဓာတ်၏ လွတ်မြောက်မှုသာ ဗြဟ္မစရိယ၏ အဆုံးတည်း"

ဗုဒ္ဓ၏ အဘိဓမ္မာဆိုင်ရာ အယူအဆများကိုမပြမီ ဗုဒ္ဓအတ္ထုပ္ပတ္တိ၏ ကျန်သောအပိုင်းကို လတ်စသတ်ပေးဖို့ လိုအပ်သေး၏။

ဆာရ်နာတ်တွင် မိမိ၏ တရားဓမ္မကို ပထမဆုံးဟောကြား၍ ထိုအရပ်မှာပင် ဝါဆိုတော်မူ၏။ ဝါကျွတ်သောအခါ ထိုအရပ်ကို စွန့်ခွာ၍ ပထမ ၄ လအတွင်းရရှိသော မိမိ၏တပည့် ၆၀ ကို ဗုဒ္ဓက ဤသို့ ထုတ်ဖော်ညွှန်ကြားတော်မူ၏။ *(သံယုတ္တနိကာယ ၄၊ ၁၊ ၄)*

"ရဟန်းတို့၊ လူအများအကျိုးစီးပွားအတွက်၊ လူအများချမ်းသာရေးအတွက်၊ လောကအပေါ် ကြင်နာမှုအတွက်၊ နတ် လူတို့၏ အကျိုးစီးပွားချမ်းသာအတွက် လှည့်လည်သွားလာကြကုန်လော . . . ငါလည်း . . . ဥရုဝေလာ . . .သေနာနီရွာသို့ တရားဟောရန် သွားပေအံ့"

ထို့နောက် ဗုဒ္ဓသည် ၄၄ နှစ်ကာလပတ်လုံး အသက်ရှည်တော်မူ၏။ ထို ၄၄ နှစ်အတွင်း ဝါတွင်းသုံးလအချိန်များကို ချန်ထား၍ ထိုထိုအရပ်သို့ မပြတ်ပင် လှည့်လည်တော်မူကာ လောကကြီးအား မိမိ၏ ဘာသာတရားနှင့် အဘိဓမ္မာများကို ဟောကြားတော်မူ၏။ ဗုဒ္ဓသည် ဗုဒ္ဓအဖြစ်သို့ရောက်ပြီးနောက် ၄၄ ဝါကို အောက်ပါဌာနများ၌ ကပ်ဆိုတော်မူခဲ့၏။

## ဝါဆိုစဉ်

| | အရပ် | ခုနှစ် (ဘီစီ) |
|---|---|---|
| | (လုမ္ဗိနီ–မွေးဖွား) | ၅၆၃ |
| | (ဗောဓဂယာ–ဘုရားဖြစ်) | ၅၂၈ |
| ၁ | ဣသိပတန(ဆာရ်နာတ်) | ၅၂၈ |
| ၂–၄ | ရာဇဂြိုဟ် | ၅၂၇–၂၅ |
| ၅ | ဝေသာလီ | ၅၂၄ |
| ၆ | မကုလတောင် (ဗိဟာရ်) | ၅၂၃ |
| ၇ | (တာဝတိံသာ ?) | ၅၂၂ |
| ၈ | သုံသုမာရဂိရိ (ကျူနာရ်) | ၅၂၁ |
| ၉ | ကောသမ္ဗီ (ဣလာဟာဗာဒ်) | ၅၂၀ |
| ၁၀ | ပါရိလေယျက (မိရ်ဂျာပုရ်) | ၅၁၉ |
| ၁၁ | နာလာ (ဗိဟာရ်) | ၅၁၈ |
| ၁၂ | ဝေရဉ္စာ (ကန္နောက်ဂျာနှင့် မထုရာအကြား) | ၅၁၇ |
| ၁၃ | စာလိယတောင် (ဗိဟာရ်) | ၅၁၆ |
| ၁၄ | သာဝတ္ထိ (ဂေါဏ္ဍာ) | ၅၁၅ |
| ၁၅ | ကပိလဝတ္ထု | ၅၁၄ |
| ၁၆ | အာလဝီ (အာရ်ဝလ်) | ၅၁၃ |
| ၁၇ | ရာဇဂြိုဟ် | ၅၁၂ |
| ၁၈ | စာလိယတောင် | ၅၁၁ |
| ၁၉ | စာလိတောင် | ၅၁၀ |
| ၂၀ | ရာဇဂြိုဟ် | ၅၀၉ |
| ၂၁–၄၅ | သာဝတ္ထိ | ၅၀၈–၄၈၄ |
| ၄၆ | ဝေသာလီ | ၄၈၃ |

(ကုသိနာရာတွင် ပရိနိဗ္ဗာန်စံဝင်သည်–၄၈၃)

ဗုဒ္ဓလှည့်လည်တော်မူသော ဌာနများမှာ များသောအားဖြင့် ယူ–ပီ–နယ် နှင့် ဗိဟာရ်နယ်တစ်ဝိုက်အတွင်းသာ သတ်မှတ်ပိုင်ခြားအပ်၏။ ၎င်းတို့မှ အပြင် ဘက်သို့ ဗုဒ္ဓသည် တစ်ခါတစ်ရံမှ မထွက်ခဲ့ပေ။

## ၂း၂။ ဇနတန္တဝါဒ(ဒီမိုကရေစီဝါဒ)

ဗုဒ္ဓသည် တစ်ဖက်တွင် ကာမစည်းစိမ်နှင့်ချည်း အလွန်အကြူးဖြစ်နေသောဘဝကို ဆန့်ကျင်၍ အခြားတစ်ဖက်တွင်ကား ကိုယ်ကာယအား ညှိုးခြောက်သွားအောင် ညှဉ်းပန်းခြင်းကို မိုက်မဲသည်ဟု အမှတ်အသားပြု၏။ ကံခန်း (ကမ္မကဏ္ဍ)၊ ဆည်းကပ်မှုများထက် အသိဉာဏ်နှင့်ဆင်ခြင်တုံဝါဒဘက်သို့ ဗုဒ္ဓက ပိုမိုညွှတ်ယိုင်လေသည်။

ဗုဒ္ဓအဘိဓမ္မာနှင့်ပတ်သက်၍ ထူးခြားချက်ကို ကျွန်ုပ်တို့ ဆိုလတ္တံ့ဖြစ်၏။ အဆိုပါ အဘိဓမ္မာ၏ ထူးခြားချက်အားလုံးကြောင့် မိမိသက်တော်ထင်ရှားရှိစဉ်မှာသော်လည်းကောင်း၊ ပရိနိဗ္ဗာန်စံလွန်တော်မူပြီးနောက်မှာသော်လည်းကောင်း၊ ဗုဒ္ဓသည် အထက်တန်းစား ထက်မြက်သော ပုဂ္ဂိုလ်များကို ဆွဲဆောင်နိုင်ခဲ့လေသည်။ မဂဓတိုင်းမှ သာရိပုတ္တာ၊ မောဂ္ဂလ္လာယန၊ မဟာကဿပတို့သာမဟုတ်၊ ဝေးလံလှစွာသော ဥဇ္ဇေနီပြည် မင်းပုရောဟိတ် မဟာကစ္စာယနကဲ့သို့သော ဗြာဟ္မဏပညာရှိများပင် ဗုဒ္ဓ၏တပည့်များဖြစ်ကြ၏။ အဆိုပါတပည့်များသည် ဗြာဟ္မဏတို့၏ ဘာသာရေးနှင့် ကိုယ်ကျိုး ကိုယ်စီးပွားအား ဆန့်ကျင်နေသော ဗုဒ္ဓဘာသာနှင့်ပတ်သက်၍ ဗြာဟ္မဏများတွင် မခံမရပ်နိုင်ခြင်း (အထူးသဖြင့် ပထမပိုင်း ရာစုနှစ်များ၌)မှ တားဆီးခဲ့ကြလေသည်။

မဂဓဘုရင် ဗိမ္ဗိသာရသည် ဗုဒ္ဓ၏နောက်လိုက် (သာဝက)ဖြစ်၏။ ကောသလဘုရင် ပသေနဇိ(ဒီ)သည် ဗုဒ္ဓလည်း ကောသလခတ္တိယမျိုး၊ သူလည်း ကောသလခတ္တိယမျိုးဟူသော အစွဲဖြင့် အလွန်စိတ်ကြီးဝင်ခဲ့၏။ ပသေနဒီသည် ဗုဒ္ဓနှင့် ပိုမိုရင်းနှီးစေရန် သာကီဝင်မင်းသမီးတစ်ဦးနှင့် ထိမ်းမြားခဲ့၏။ သကျ၊ မလ္လ၊ လိစ္ဆဝီ ဒီမိုကရေစီနိုင်ငံများတွင် ဗုဒ္ဓ၏သာဝက အမြောက်အမြားရှိခဲ့၏။ ဗုဒ္ဓသည် ဒီမိုကရေစီနိုင်ငံတစ်ခု(မလ္လ)တွင် ပရိ နိဗ္ဗာန်စံခဲ့၏။ ဗုဒ္ဓသည် ဒီမိုကရေစီစနစ်ကို အဘယ်မျှ ချစ်မြတ်နိုးသနည်းဆိုသော် အဇာတသတ်မင်းနှင့် ရင်းနှီးစွာ ဆက်ဆံမှုရှိသော်လည်း အဇာတသတ်နှင့် ဆန့်ကျင်ဘက်ဖြစ်သော လိစ္ဆဝီတို့ကို ချီးမွမ်းထောမနာပြုလျက် နိုင်ငံတော်၏ မရှုံးမနိမ့်ကြောင်း အောက်ပါအချက် ခုနစ်မျိုး(အပရိဟာနီယ) တရား

ခုနစ်ပါး)ကို ဟောကြားခဲ့၏။ (ဒီဃနိကာယ ၂၊ ၃၊ မဟာပရိနိဗ္ဗာနသုတ္တ)

(၁) မပြတ်မလပ်စည်းဝေး၍ စုပေါင်းဆုံးဖြတ်ချက်ချခြင်း

(၂) (ဆုံးဖြတ်ချက်နှင့်အညီ) ကိစ္စကို တစ်ပေါင်းတည်း ဆောင်ရွက်ခြင်း၊

(၃) စနစ်(ဥပဒေနှင့် စည်းမျဉ်း)ကို စောင့်ရှောက်ခြင်း

(၄) လူကြီးသူမများအား အရိုအသေပြုခြင်း၊

(၅) အမျိုးသမီးများအား အနိုင်အထက် မနှိပ်ကွပ်ခြင်း

(၆) လူမျိုးဆိုင်ရာ ဓလေ့ထုံးစံကို စောင့်ရှောက်ခြင်း

အဆိုပါ ခုနစ်ချက်တွင် စုပေါင်းဆုံးဖြတ်ချက်ချမှု၊ စုပေါင်း၍ ကိစ္စကို ဆောင်ရွက်မှု၊ အမျိုးသမီး လွတ်လပ်မှုများသည် တိုးတက်မှုနှင့် ဆီလျော်သော အယူအဆများဖြစ်၏။ သို့သော် ကျန်သောအကြောင်းအရာများ၌ ညွှန်ကြား ဆော်ဩပေးခြင်းမှာကား ထိုခေတ် လူမှုစနစ်တွင် ဗုဒ္ဓက လက်ဝင်မရှိချင် သော သဘောကိုသာ ဖော်ပြပေ၏။ ပုဂ္ဂိုလ်စွဲ တဏှာ၏ ဆိုးဝါးသော အ ကျိုးသာတည်း။ ဒုက္ခတို့၏အကြောင်းကား ပုဂ္ဂိုလ်စွဲတဏှာသာတည်း။ ဒုက္ခ များကို သရုပ်ဖော်လျက် ဗုဒ္ဓက ဟောတော်မူခဲ့၏။ (သံယုတ္တနိကာယ၊ ၁၄)

"ကြာမြင့်စွာသောကာလမှ သင်တို့သည် အမိ၊ အဖ၊ သားသမီးများ၏ သေကျေပျက်စီးမှုကို သည်းခံခဲ့ကြရလေပြီ။ စည်းစိမ်ဥစ္စာပျက်စီးမှု၊ ရောဂါ ဝေဒနာ ဖိစီးမှုများကို သည်းခံခဲ့ကြလေပြီ။ ချစ်သူ ချစ်အပ်သောအရာနှင့် ကွေကွင်းရခြင်း၊ မချစ်သူ မချစ်အပ်သောအရာနှင့်ပေါင်းဆုံရခြင်းတို့ကြောင့် ငိုကြွေးမြည်တမ်းရင်း ထွက်ကျစီးယိုခဲ့ရသော မျက်ရည်မှာ သမုဒ္ဒရာလေးစင်း ရေထက်ပင်များခဲ့၏"

ဤဒေသနာတော်၌ ဒုက္ခနှင့် ဒုက္ခအရင်းအမြစ်ကို လူ့အဖွဲ့အစည်းတွင် အမှတ်အသားမပြုဘဲ ပုဂ္ဂိုလ်တွင် ကြည့်ရှုရန် ကြိုးစားတော်မူခဲ့၏။ ဗုဒ္ဓ၏ အလိုတော်အရ သက်ရောက်သော အဓိပ္ပာယ်မှာ–ဆူးငြောင့်ခလုတ်များမှ ကာကွယ်ရန် မြေပြင်တစ်ခုလုံး ဖုံးအုပ်မထားနိုင်။ မိမိ၏ ခြေထောက်များ ကို သားရေဖြင့် အုပ်ဖုံး၍ ဆူးငြောင့်ခလုတ်များမှ ကာကွယ်နိုင်သည်ဟူ၍ ဖြစ်၏။ ထိုစဉ်အခါကား ဗုဒ္ဓကဲ့သို့ လက်တွေ့ဝါဒသမား အဘိဓမ္မာဆရာများ သည် လူ့အဖွဲ့အစည်းတွင် ဖြစ်ပွားလျက်ရှိသော မကောင်းမှုများကို လူ့အဖွဲ့ အစည်းဆိုင်ရာ ကုစားမှုဖြင့် ဖယ်ရှင်းနေသောအချိန်လည်း မဟုတ်ပေ။ သို့

သော်လည်း ပုဂ္ဂလိကပစ္စည်း၏ ဆိုးဝါးမှုများကို ဗုဒ္ဓသိတော်မူ၏။ ထို့ကြောင့် မိမိ၏ ဘိက္ခုသံဃဆိုင်ရာလောကတွင်သာ ပုဂ္ဂလိကပစ္စည်းကို ဖျောက်ဖျက်၍ သုံးဆောင်မှုတွင် ပြည့်ဝသော သမ္မဝါဒ(ကွန်မြူနစ်ဝါဒ)ကို တည်ဆောက်ရန် ဗုဒ္ဓက အလိုတော်ရှိခဲ့၏။

## ၂း၃။ ဒုက္ခချုပ်ငြိမ်းမှုလမ်းကြောင်း၏ ချို့တဲ့ချက်များ

ဗုဒ္ဓ၏အမြင်သည် ပြင်းထန်သော ခဏိကဝါဒအမြင်ဖြစ်၏။ အဘယ် အရာဝတ္ထုကိုမျှ ဗုဒ္ဓက တစ်ခဏထက် အပိုတည်တံ့နေသည်ဟု မယူဆ။ သို့ သော်လည်း ဗုဒ္ဓက ထိုအမြင်ကို လူ့အဖွဲ့အစည်း၏ စီးပွားရေးစနစ်ပေါ်တွင် အသုံးမချလိုပေ။ စည်းစိမ်ရှင်၊ အုပ်စိုးသူ၊ သွေးစုပ်သူ လူ့အဖွဲ့အစည်းနှင့် အတူတကွ ဤပုံငြိမ်းချမ်းရေးတည်ဆောက်လိုက်သောအခါ ဗုဒ္ဓကဲ့သို့သော ထိပ်တန်းပညာရှင် အဘိဓမ္မာဆရာကြီးအား အတန်းလွှာထဲက မြတ်နိုးတနာ ပြုမှုတိုးတက်လာခြင်းမှာ ဆီလျော်လှပေ၏။

ပုရောဟိတ်တန်းစားထဲက ကူဋဒန္တ၊ သောဏဒန္တကဲ့သို့သော ဓနရှင်၊ အာဏာရှင်ဗြာဟ္မဏများလည်း ဗုဒ္ဓ၏နောက်လိုက်များ(သာဝကများ)ဖြစ်ကြ၏။ ရာဇာအပေါင်းတို့သည် ဗုဒ္ဓအား ဆည်းကပ်ကိုးကွယ်ရန် အငြိမ်မနေနိုင်ဖြစ်နေကြဟန်ရှိလေ၏။ ထိုခေတ်က ကုဋေကုဋာပိုင် သူဌေးလူတန်းစား သည် ယနေ့ အိန္ဒိယပြည်သား သူဌေးကြီးများ ဂန္ဒီအတွက် ငွေအိတ်များ ဖွင့်ထားသည်ထက်ပင် ပိုကဲကာ ဗုဒ္ဓအား ပူဇော်သက္ကာပြုရန် ငွေအိတ်များ ကို ဖွင့်ထားခဲ့၏။ သာဝတ္ထိပြည် ကုဋေပိုင်သူဌေးသုဒတ္တ(အနာထပိဏ္ဍိက) သည် ရွှေဒင်္ဂါးများစီခင်းကာ ဥယျာဉ်ကြီးတစ်ခု (ဇေတဝန်)ကို ဝယ်ယူ၍ ဗုဒ္ဓနှင့်ဗုဒ္ဓ၏ရဟန်းတော်များသီတင်းသုံးနေထိုင်ရန် လှူဒါန်းခဲ့၏။ သာဝတ္ထိ ပြည်မှပင် အခြားသော သူဌေးမတစ်ဦးဖြစ်သူ ဝိသာခါသည် အကုန်အကျ အမြောက်အမြားခံ၍ ပုဗ္ဗာရုံခေါ် အခြားကျောင်းတစ်ကျောင်းကို ဆောက် လုပ်လှူဒါန်းခဲ့၏။

အိန္ဒိယတောင်ပိုင်းနှင့် အနောက်တောင်ပိုင်းတစ်လျှောက် ကူးသန်း ရောင်းဝယ်ရေးဗဟိုဌာနကြီးဖြစ်သော ကောသမ္ဗီပြည် သူဌေးကြီး(၃)ဦးအား ကျောင်းဆောက်လုပ်ရေးအတွက် အလှအယက် သူ့ထက်ငါကောင်းပင် ဖြစ်

ခဲ့ကြသေး၏။ အမှန်သော်ကား ဗုဒ္ဓ၏ဓမ္မ(ဘာသာ)ကို ဖြန့်ဖြူးရာ၌ ရာဇာများထက်ပင် ကုန်သည်များက ပို၍ အကူအညီပေးလေသည်။ ဗုဒ္ဓသည် ခေတ်စီးပွားရေးစနစ်ကို ဆန့်ကျင်ခဲ့ပါမူ ဤကဲ့သို့ လွယ်ကူမှုများ ဘယ်က (လာ၍)ဖြစ်နိုင်တော့အံ့နည်း။

*

## ၃။ အဘိဓမ္မာအယူအဆ

"အနိစ္စ၊ ဒုက္ခ၊ အနတ္တ" (အင်္ဂုတ္တရနိကာယ ၃၊ ၁၊ ၃၄) ဤသုတ်တစ်သုတ်၌ ဗုဒ္ဓ၏အမြင်(အဘိဓမ္မာ)အားလုံးသက်ဝင်စုဝေး၏။

### ၃း၁။ ခဏကဝါဒ

ဗုဒ္ဓသည် သဘာဝများကို (၃)မျိုးဝေဖန်ခွဲခြမ်းခဲ့၏။ (၁) ခန္ဓ၊ (၂) အာယတန၊ (၃) ဓာတု။

**ခန္ဓာ**သည် ငါးပါးပြား၏။ ရုပ်၊ ဝေဒနာ၊ သညာ၊ သင်္ခါရ၊ ဝိညာဏ်။ ရုပ်တွင် ပထဝီအစရှိသော မဟာဘုတ်လေးပါး ပါ၏။ ဝိညာဏ်ဟူသည် အသိ၊ သို့မဟုတ် မနတည်း။ ခံစားတတ်သော သုခဝေဒနာ စသည်ကို ဝေဒနာခေါ်၏။ မှတ်မိခြင်း၊ သို့မဟုတ် မှတ်မိသော အသိကို သညာခေါ်၏။ စိတ်ပေါ်တွင် ကျန်နေသော အမှတ်အသား၊ သို့မဟုတ် ဝါသနာ(အထုံ)ကို သင်္ခါရခေါ်၏။

ဤကဲ့သို့ ဝေဒနာ၊ သညာ၊ သင်္ခါရ ရုပ်တို့ တွေ့ဆုံပေါင်းစပ်သဖြင့် ဝိညာဉ်(မန)၏ အထူးထူးသော အခြေအနေများပေါ်ပေါက်၏။ ဗုဒ္ဓက အဆိုပါခန္ဓာငါးပါးကို 'အနိစ္စ-သင်္ခတ-ပတိစ္စသမုပ္ပန္န-ခယဓမ္မ-ဝယဓမ္မ-နိရောဓ ဓမ္မ' ဟုဟောခဲ့၏။ *(ဒီဃနိကာယ ၂၊ ၁၅ မဟာ နိဒါနသုတ္တ)*

**အာယတန** ၂ မျိုးပြား၏။ ဣန္ဒြေ(စက္ခု၊ သောတ၊ ဃာန၊ ဇိဝှါ၊ ကာယနှင့် မန)နှင့် ၎င်းတို့၏ အာရုံများ ရူပ၊ သဒ္ဒ၊ ဂန္ဓ၊ ရသ၊ ဖောဋ္ဌဗ္ဗနှင့် ဓမ္မ (ဝေဒနာ၊ သညာ၊ သင်္ခါရ) ၆ ပါး ၂ လီ။

ဓာတ် ၁၈ မျိုးပြား၏။ အထက်ပါ ဣန္ဒြေ ၆ ပါးနှင့် ၎င်းတို့၏ အာရုံ ၆ ပါး၊ ၎င်းပြင် ဣန္ဒြေများနှင့် အာရုံပေါင်းစပ်မိသဖြင့် ဖြစ်ပေါ်လာသော ဝိညာဉ် ၆ ပါး(စက္ခုဝိညာဉ်၊ သောတဝိညာဉ်၊ ဃာနဝိညာဉ်၊ ဇိဝှါဝိညာဉ်၊ ကာယဝိညာဉ်နှင့် မနောဝိညာဉ်)

ကမ္ဘာပေါ်ရှိ အရာဝတ္ထုအားလုံးကို ခန္ဓာ၊ အာယတန၊ ဓာတ် ၃ မျိုးအနက် တစ်မျိုးမျိုးသောနည်းအားဖြင့် ဝေဖန်ခွဲခြားနိုင်၏။ ထိုအရာဝတ္ထုအားလုံးကိုပင် နာမ်နှင့် ရုပ်အားဖြင့်လည်း ဝေဖန်ခွဲခြားအပ်၏။ ၎င်း ၂ မျိုးတွင် နာမ်ဟူသည်မှာ ဝိညာဉ်၏ စကားလှယ်(ပရိယာယ်)ပုဒ်တည်း။ အဆိုပါ အရာဝတ္ထုအားလုံး အနိစ္စမျိုးဖြစ်ကုန်၏။ *(အင်္ဂုတ္တရနိကာယ ၃၊ ၁၊ ၃၄)*

ဤသဘောကား မဖောက်ပြန်သော သဘောဖြစ်၏။

"ရုပ်(မဟာဘုတ်) ဝေဒနာ၊ သင်္ခါရ၊ ဝိညာဉ်(ဤ)သင်္ခါရများ(ပြုပြင်အပ်သော အရာဝတ္ထုများ)သည် အနိစ္စတရားများဖြစ်ကုန်၏"

"ရုပ်–ဝေဒနာ–သညာ–သင်္ခါရ–ဝိညာဉ်(ဤခန္ဓာငါးပါးစလုံး နိစ္စ၊ ဓုဝ၊ သဿတ၊ မပျက်စီးသောတရားများ မဟုတ်ကုန်၊ ဤသဘောသည် လောက၌ ပညာရှိတို့သဘောကြိုက်ညီချက်ဖြစ်၏။ ငါလည်း ထိုကဲ့သို့ပင် ဆို၏။ ဤကဲ့သို့ဆိုပါ သိစေပါသော်လည်း မသိမမြင်သော လူမိုက်၊ လူ ကန်း၊ မျက်မမြင်၊ ပညာမဲ့အတွက် ငါသည် ဘယ်သို့ပြုနိုင်အံ့နည်း"

*(သံယုတ္တနိကာယ၊ ၁၆)*

ရုပ်တရား၏ ခဏိကသဘောကိုကား လွယ်လွယ်ကူကူသိနိုင်၏။ ဝိညာဉ်(မန)ကား ရုပ်ထက်ပင် ပိုကာ ခဏမလပ်ပျက်စီး၏။ ထိုအကြောင်းကို ဖော်ပြလျက် ဗုဒ္ဓက ဟောဆိုခဲ့လေသည်။ *(သံယုတ္တနိကာယ၊ ၁၂၊ ၇)*

"ရဟန်းတို့၊ ပညာမဲ့သောသူသည် ဤမဟာဘုတ်လေးပါးပေါင်းစပ်ထားသော ကိုယ်ကောင်ကြီးကိုသာ အတ္တ (နိစ္စအနှစ်သာရ) ဟု ယူသော် ယူကောင်းပါသေး၏။ သို့သော် စိတ်ကို ထိုကဲ့သို့ နိစ္စအနှစ်သာရဟု ယူဆခြင်းကား အမှန်မဟုတ်ပေ။ အကြောင်းသော်ကား မဟာဘုတ်လေးပါးတို့ပေါင်းစပ်ထားသော ဤကိုယ်ကာယကိုကား ၁–၂–၃–၄–၅–၆–၇ အထိပင် အထင်အရှားမြင်တွေ့နေရ၏။ သို့သော် စိတ္တ မန သို့မဟုတ် ဝိညာဏ ခေါ်သော တရားကား ညနှင့်နေ့မှာပင် မတူဘဲ တစ်မျိုးပြီးတစ်မျိုး ဖြစ်ပျက်နေ၏။

ဗုဒ္ဓအဘိဓမ္မာတွင် အနိစ္စသဘောတရားကား တစ်စုံတစ်ရာ ခြွင်းချက်မရှိသော စည်းကမ်းချက်ဖြစ်၏။ ဗုဒ္ဓ၏ အနိစ္စဝါဒလည်း "အခြားစိတ်တစ်လုံးသည်လျှင်ဖြစ်၏။ အခြားစိတ်တစ်လုံးသည်လျှင် ချုပ်၏"ဟူသော စကားအတိုင်း မူလအနှစ်သာရ၏ အပြင်အပပြောင်းလဲခြင်းမျှသာမဟုတ်ဘဲ တစ်ခုလုံးလုံးချုပ်ပြီးနောက် အခြားတစ်ခုလုံးလုံးဖြစ်၏။ ဗုဒ္ဓသည် အကျိုးအကြောင်း၏ အခြားမဲ့သော သို့မဟုတ် မပြတ်သော အစဉ်ကို လက်မခံပေ။

## ၃း၂။ ပတိစ္စသမုပ္ပါဒ်

အကျိုးအကြောင်းကို မပြတ်သော အစဉ်ဟု ဗုဒ္ဓက လက်မခံသော်လည်း "ဤတရားရှိသော် ဤတရားရှိ၏" (ဣမသ္မိံ သတိဣဒံဟောတိ) – (မဇ္ဈိမနိကာယ ၁၊ ၄၊ ၈) ဟူသော သဘောတရားကိုကား ဗုဒ္ဓက လက်ခံ၏။ (တစ်ခုချုပ်ပြီးနောက် အခြားတစ်ခုဖြစ်စဉ်ကို ဗုဒ္ဓက ပတိစ္စသမုပ္ပါဒ–ဟု အမည်ပေးတော်မူခဲ့၏) ဖြစ်ပေါ်မှုတိုင်းတွင် ပစ္စယတစ်ခုရှိ၏။ ပစ္စယနှင့် ဟေတု (ကာရဏ)တို့ကို အနက်တူ သဒ္ဒါများဟု သိမှတ်ကြ၏။ သို့သော်လည်း ဟေတု သို့မဟုတ် ကာရဏသဒ္ဒါဖြင့် အခြားအဘိဓမ္မာဆရာများ ယူဆသော အနက်ကိုပင် ပစ္စယသဒ္ဒါဖြင့် ဗုဒ္ဓက မယူဆပေ။ "အကြောင်းကြောင့်ဖြစ်ခြင်း"ဟူသော စကား၏အနက်မှာ လွန်ဆုံးသွားသောကြောင့်ဖြစ်ခြင်း၊ တစ်ခုလွန်ဆုံးချုပ်ပျက်သွားသောကြောင့် အခြားတစ်ခု၏ဖြစ်ပေါ်ခြင်းဟု ဆိုလိုသည်။

တစ်စုံတစ်ခုသော အရာဝတ္ထု၊ သို့မဟုတ် အဖြစ်အပျက်မပေါ်မီ ခဏတိုင်းမပြတ်ပျောက်ကွယ်သွားသော အကြောင်းမျိုးသည် ဗုဒ္ဓယူဆအပ်သော "ပစ္စယ" (အကြောင်း) ဖြစ်၏။ ပတိစ္စသမုပ္ပါဒဟူသော ကျိုးကြောင်းဆက်သဘောတရားကို မပြတ် မတောက်မဟုတ် ပြတ်တောက်သော အလျဉ် (ဝိစ္ဆိန္နပ္ပဝါဟ DISCONT INUOUS CONTINUITY)ဟု ခေါ်အပ်၏။

ပတိစ္စသမုပ္ပါဒ်သည် ဗုဒ္ဓအမြင်မှန်သမျှ၏ အခြေခံဖြစ်၏။ ၎င်းသည် ဗုဒ္ဓအမြင်ကို နားလည်မှုအတွက် သော့ချက်ဖြစ်၏။ ဤအကြောင်းကို ဗုဒ္ဓကိုယ်တိုင်၏ ဤဆိုလတ္တံ့သော စကားတော်အရ သိရ၏။

*(မဇ္ဈိမနိကာယ၊ ၁၊ ၂၊ ၃)*

"အကြောင်းသူသည် ပတိစ္စသမုပ္ပာဒ်ကို မြင်၏။ ထိုသူသည် ဓမ္မ (ဗုဒ္ဓအမြင်) ကိုမြင်၏။ အကြောင်းသူသည် ဓမ္မကို မြင်၏။ ထိုသူသည် ပတိစ္စသမုပ္ပာဒ်ကိုမြင်၏။ ဥပါဒါနက္ခန္ဓာ ငါးပါးတို့သည် ပတိစ္စသမုပ္ပန္နများ (ပြတ်တောက်သော အလျဉ်သဘောအရဖြစ်ပေါ်ကြသော တရားများ)ဖြစ်ကြ၏။

ပတိစ္စသမုပ္ပာဒ်သဘောတရားကို လူသား ပုဂ္ဂိုလ်အပေါ်တွင် တင်စား၍ ၎င်း၏ကိုယ်အင်္ဂါ ၁၂ မျိုးကို (ဒွါဒသင်္ဂပတိစ္စသမုပ္ပာဒ) ဟောကြားခဲ့၏။ ရှေးဟောင်းဥပနိသျှဒ် အဘိဓမ္မာဆရာကြီးများနှင့် အခြားအဘိဓမ္မာဆရာ ကြီးများက နိစ္စ (မြဲသော) ဓုဝ (မရွေ့သော) အဝိနာသီ (မပျက်သော) အနှစ်သာရ (တတ္တ) ကို 'အတ္တ'ဟု ခေါ်ဝေါ်ပညတ်ခဲ့ကြ၏။ ဗုဒ္ဓ၏ ပတိစ္စသမုပ္ပါဒ်တွင် အတ္တအတွက် နေရာတစ်စုံတစ်ခုမရှိပေ။ ထို့ကြောင့် အတ္တဝါဒကို ဗုဒ္ဓက 'မဟာအဝိဇ္ဇာ' ဟု ခေါ်ခဲ့၏။ ထိုအကြောင်းကို ဗုဒ္ဓက ကိုယ်တော်၏ ဒေသနာတစ်ရပ်တွင် ထင်ရှားစွာ ဟောကြားခဲ့၏။

*(မဇ္ဈိမနိကာယ၊ ၁၊ ၄၊ ၈ –မဟာတဏှာ သင်္ခယသုတ္တန္တ)*

"သာတိကေဝဋ္ဋပုတ္တရဟန်းအား ဤသို့သော အယူဆိုးဖြစ်ပေါ်ခဲ့၏။ ငါသည်ဘုရားရှင်ညွှန်ကြားအပ်သော တရားတော်ကို ဤသို့ဤပုံသိ၏။ 'အခြားတရားမရှိ၊ စင်စစ် ထို (တစ်ခုတည်းသော) ဝိညာဉ် (ဇီဝ) သည်သာ အဖန်ဖန်ရွေ့လျားပြေးသွား (ဝင်ထွက်) နေ၏"

ဗုဒ္ဓက ဤအကြောင်းကိုကြားလတ်သော် ခေါ်၍မေးတော်မူ၏။

"သာတိ၊ နင့်အား ဤသို့သော အယူဆိုးဖြစ်ပေါ်၏ဟူသော သတင်းသည် မှန်သလော"

"မှန်ပါသည် . . . အခြားတရားမရှိ၊ ထိုဝိညာဉ်သည်သာ ရွေ့လျားပြေးသွားနေ၏"

"သာတိ၊ ထိုဝိညာဉ်ဟူသည် အဘယ်နည်း"

"အရှင်၊ ဝိညာဉ်ဟူသည်ကား ဆိုတတ်ခံစားတတ်သောအရာတည်း၊ ၎င်းကား ထိုထိုဘဝတွင် (ပတိသန္ဓေနေ၍) ကောင်းဆိုးနှစ်တန် ကံ၏ အကျိုးကို ခံစားတတ်၏"

"အချည်းနှီးယောကျ်ား၊ နင်သည် ငါဤကဲ့သို့ ဟောသောအဘယ်တရားကို နာဖူးသနည်း၊ အချည်းနှီးယောကျ်ား ငါသည်တစ်မူကား ဝိညာဉ်(ဇီဝ)

ကို နည်းအမျိုးမျိုးဖြင့် ပတိစ္စသမုပ္ပန္နဟု ဟောခဲ့၏။ ပစ္စယ (ကင်းပျောက်မှု)မရှိဘဲ ဝိညာဉ်ထင်ရှားဖြစ်ပေါ်နိုင်ဟု(ဟောခဲ့၏)။ အချည်းနှီးယောက်ျား၊ နင်သည် နင်ကိုယ်တိုင် အမှန်မသိသော အကြောင်းအရာကို ငါ့အပေါ် လွှဲဘိ၏"

ထို့နောက် ရဟန်းတို့ကိုခေါ်လျက် ဟောတော်မူလေသည်။

"ရဟန်းတို့၊ အကြင် အကြင်သို့သော အကြောင်းကြောင့် ဝိညာဉ် ဖြစ်ပေါ်၏။ ထိုထိုအကြောင်းအားလျော်စွာ ဝိညာဉ်အမည်ဖြစ်၏။ စက္ခုတည်းဟူသော နိမိတ်အကြောင်းကြောင့် (အကြင်)ဝိညာဉ်ဖြစ်၏။ ထိုဝိညာဉ်သည် စက္ခုဝိညာဉ်မည်၏။ (ဤနည်းအတိုင်း) သောတ၊ ဃာန၊ ဇိဝှာ၊ ကာယ၊ မနော ဝိညာဉ်မည်၏။ ဥပမာ အကြင် အကြင် နိမိတ်(ပစ္စာ)ကြောင့် မီးစွဲ၏။ ထိုအကြောင်းအားလျော်စွာ မီး၏ အမည်တွင်၏။ ထင်းမီး၊ မြက်မီး၊ ဖွဲမီး"

"ဤတရား(ခန္ဓာငါးပါး)သည် ဖြစ်ပေါ်၏။ ဤသို့ပညာဖြင့် ရှုကြည့်သောအခါ(အတ္တရှိမှု)ယုံမှားခြင်း ပျောက်သွားသည် မဟုတ်လော"

"ပျောက်သွားပါ၏အရှင်"

" ရဟန်းတို့ ဤတရား(ခန္ဓာငါးပါး–ရုပ်နှင့်နာမ်)သည် ဖြစ်ပေါ်၏။ ဤခန္ဓာငါးပါးကား မိမိတို့၏ အာဟာရ(အကြောင်း)ကြောင့်ဖြစ်ပေါ်၏။ ဤခန္ဓာငါးပါးသည် မိမိတို့၏ အကြောင်းချုပ်သော် ချုပ်တတ်သော သဘောရှိ၏။ ဤသို့ အမှန်အတိုင်းကောင်းစွာမြင်ခြင်းသည် စင်ကြယ်ကောင်းမြတ်သော အမြင်မဟုတ်ပါလော"

"ဟုတ်ပါ၏အရှင်"

"ရဟန်းတို့ သင်တို့သည် ဤစင်ကြယ်သော(ကောင်းသော)အမြင်(အယူအဆ)၌လည်း စွဲငြိမနေနှင့်။ မွေ့လျော်မနေကြနှင့်။ "ငါ့ဥစ္စာ"ဟူ၍ အမှတ်မထားကြနှင့်၊ ငါ့ဟာ ငါ့ဟာလုပ်မနေကြနှင့်၊ ငါ၏ အဆုံးအမတော်များအတွက် ဓမ္မကို လှေဖောင်သဖွယ် နားလည်ထားကြ။ ၎င်းလှေဖောင်ကား ကူးမြောက်ရန်အလို့ငှာသာဖြစ်၏။ ယူငင်ထမ်းပိုးထားရန်မဟုတ်"

| | |
|---|---|
| ၁။ အဝိဇ္ဇာ | ၁၂။ ဇရာမရဏ |
| ၂။ သင်္ခါရ | ၁၁။ ဇာတိ (ပဋိသန္ဓေ) |
| ၃။ ဝိညာဉ် | ၁၀။ ဘဝ(ဝင်ထွက်ကူးပြောင်းခြင်း) |
| ၄။ နာမ်–ရုပ် | ၉။ ဥပါဒါန် |
| ၅။ သဠာယတန | ၈။ တဏှာ |
| ၆။ ဖဿ | ၇။ ဝေဒနာ |

**အင်္ဂါ ၁၂ ပါးရှိသော ပဋိစ္စသမုပ္ပာဒ်စက်ဝန်း**

သာတိကေဝဋ္ဋပုတ္တ၏ စိတ်တွင်ထင်သော အတ္တဇွဲတည်းဟူသော အဝိဇ္ဇာအရိပ်ကဲ့သို့သော အဝိဇ္ဇာအရိပ်မျိုး၏ အကြောင်းကို သဘောပေါက်အောင် ဗုဒ္ဓက ဟောခဲ့၏။

"အာဟာရ(အကြောင်း) ရှိသမျှ၏ နိဒါန်း(အကြောင်း)ကား တဏှာ ၎င်း၏ နိဒါန်းကား ဝေဒနာ . . .၎င်း၏နိဒါန်းကား ဖဿ . . .၎င်း၏နိဒါန်းကား အာယတန ၆ ပါး(ဣန္ဒြေငါးပါးနှင့် မန) . . . ၎င်း၏ နိဒါန်းကား နာမ်နှင့်ရုပ် . . . ၎င်း၏နိဒါန်းကား ဝိညာဉ် . . .၎င်း၏ နိဒါန်းကား သင်္ခါရ . . . ၎င်း၏နိဒါန်းကား အဝိဇ္ဇာ"

တစ်ဖန် အဝိဇ္ဇာသည် ၎င်း၏ စက်ဝန်းကို ၁၂ အင်စေ့အောင် လှည့်ပြန်၏။ ဤသို့လှည့်နေပုံကိုပင် ဒွါဒသင်္ဂပဋိစ္စသမုပ္ပာဒယဟုခေါ်၏။

တဏှာ၏ဖြစ်ပေါ်ပုံအကြောင်းအရာကို ထို(မဟာတဏှာသင်္ခယသုတ္တန်)၌ပင် ဗုဒ္ဓက ဟောတော်မူခဲ့၏။

(၁) မိဘနှစ်ပါးပေါင်းဆုံခြင်း

(၂) အမိရာသီပန်းပွင့်ခြင်း

(၃) ကိုယ်ဝန်တည်မည့်သူ ရှေးရှုရှိခြင်း။

(ကိုယ်ဝန်တည်မည့်သူဟု ဘာသာပြန်ဆိုခြင်းမှာ 'ဂဗ္ဗန္တ' ဟူသောပုဒ်ကို 'ဂန္တဗ္ဗ'ဟု ပုဒ်ရင်းယူလျက် ပြန်ဆိုခြင်းဖြစ်သည်။ ဂန္တဗ္ဗဟူသည်မှာ သွားမည့်သူဟု အနက်ရှိ၏။ အတ္တဝါဒီတို့၏ အလိုတွင် ဂန္တဗ္ဗဟူသည်မှာ ဘဝဟောင်းကိုစွန့်၍ ဘဝသစ်ခံ့စွဲယူသော အတ္တတည်း။ ရှင်ဝသုဗန္ဓုရေးသော အဘိဓမ္မာကောသကျမ်း၌ ပတိသန္ဓေနေအံ့သောစေတနာအစဉ်သည် ဂန္ဓဗ္ဗဟု ဖော်ပြထား၏။ ။ ဘာသာပြန်သူ)

ထို့နောက် အမိသည် ကိုယ်ဝန်ကို (၉)လ၊ သို့မဟုတ် (၁၀) လလွန်သောအခါ ဖွား၏။ သူငယ်ကို အမိသည် မိမိ၏သွေး–နို့ရည်ဖြင့် မွေးမြူ၏။ ထို့နောက် ကလေးအတန်ငယ်ကြီးပြင်းလာသောအခါ ကလေးတို့၏ ကစားစရာအမျိုးမျိုးဖြင့်ကစား၏။ (ထို့နောက်) ကြီးမားလာပြန်သောအခါ၊ ကာမဂုဏ်အာရုံငါးပါးကို မှီဝဲ၏။ သူသည် (ထိုအာရုံတို့၏ ဆီလျော်မှု ဆန့်ကျင်မှုစသည်အားလျော်စွာ) လိုက်လျောဆန့်ကျင်မှုများ ဖြစ်ပွား၍ သုခ၊ ဒုက္ခ၊ အဒုက္ခ မသုခ ဝေဒနာကို ခံစား၏။ နှစ်သက်၏။ ဤသို့အားဖြင့် နှစ်သက်ရင်း နန္ဒီခေါ် တဏှာတရားဖြစ်ပွား၏။ ဝေဒနာတို့၏ အရာဌာန၌ ဤနန္ဒီခေါ် တဏှာသည်ပင် ဝေဒနာကို စွဲလမ်းတတ်သော ဥပါဒါန်တည်း။

## ၃း၃။ အနတ္တဝါဒ

ဗုဒ္ဓမပွင့်ပေါ်မီ ဥပနိသျှဒ်ရသေ့ကြီးများ အတ္တအဘိဓမ္မာကို အတင်းဖြန့်ချိနေကြောင်း ကျွန်ုပ်တို့သိရ၏။

ထိုစဉ်အခါက စာရ်ဗာက်ကဲ့သို့သော ရုပ်ဝါဒီများ ထွန်းကားခဲ့သည်ကိုလည်း တစ်ဖက်တစ်လမ်းအနေအားဖြင့် တွေ့ရ၏။ စာရ်ဗာက်အကြောင်းကိုလည်း ဆိုခဲ့ပြီးလေပြီ။ *(အဘိဓမ္မာစံပြကျမ်း)*

နိစ္စဝါဒီတို့၏ အတ္တနှင့် စပ်လျဉ်းသော အယူအဆများကို ဗုဒ္ဓက (၂) ပိုင်းခွဲခြမ်းထား၏။ *(ဒီဃနိကာယ၊ ၂၊ ၁၅– မဟာနိဒါနသုတ္တ)*

တစ်ပိုင်းသော်ကား အတ္တကို ရူပီ (ဣန္ဒြေတို့၏ အာရုံအဖြစ် သတ်မှတ်အပ်၏) ဟု သတ်မှတ်သောအပိုင်းဖြစ်၍ အခြားတစ်ပိုင်းသော်ကား အရူပီဟု သတ်မှတ်သော အပိုင်းဖြစ်၏။

တစ်ဖန် အတ္တ (၂) ပါးပြား၏ဟု စွဲယူကြသော ပုဂ္ဂိုလ်တို့တွင် အချို့က အတ္တကို အနန္တဟု ယူဆကြ၏။ အချို့က သာန္တ (ပရိတ္တ သို့မဟုတ် အဏု) ယူဆကြ၏။ တဖန် နိစ္စဝါဒီ၊ အနိစ္စဝါဒီဟုလည်း (၂) မျိုးခွဲခြမ်းအပ်၏။

အတ္တဝါဒအတွက် ဗုဒ္ဓသည် သက္ကာယဒိဋ္ဌိဟူသော အခြားစကားလုံး တစ်လုံးကိုလည်း သုံး၏။ ကိုယ်ကာယတွင် ထင်ရှားနေသော တရား (ကိုယ် ကာယမှ သီးခြားဖြစ်၍ မအိုမသေနေသော အမာခံအနှစ်အသား) ဤကား သက္ကာယ၏ အနက်တည်း။ (အတ္တဝါဒီတည်းဟူသော ပရပက္ခ၏အနက်)။ သာတိကေဝတ္တပုတ္တက ဝိညာဉ် (ဇီဝ) သည် ဝင်ချေ ထွက်ချေ ပြောင်းကူးနေ သည်ဟုပြောဆိုရာ ဗုဒ္ဓက သာတိအား အဘယ်မျှ ရှုတ်ချကြောင်းနှင့် ဗုဒ္ဓ၏ အယူအဆကို ရှင်းပြခဲ့ကြောင်း ဆိုခဲ့ပြီးလေပြီ။ သက္ကာယ (အတ္တ) ဒိဋ္ဌိကို အဘိဓမ္မာနှင့်ပတ်သက်သော အနှောင်အဖွဲ့(ဒိဋ္ဌိသံယောဇဉ်)တစ်ခုဟု ယူဆ သည့်ပြင် သစ္စာဉာဏ် ရရှိရေးအတွက် သက္ကာယဒိဋ္ဌိပျောက်ကင်းရန် အရေး ကြီးဆုံးလိုအပ်သည်ဟု နားလည်တော်မူ၏။ ဗုဒ္ဓ၏တပည့်မ ပညာရှိ ဓမ္မ ဒိန္နာသည် သူ၏ဟောချက်တစ်ခုတွင် ဥပါဒါနက္ခန္ဓာ ငါးပါးကို သက္ကာယ ဟု ဟောခဲ့၏။ ဘဝတဏှာကို သက္ကာယဒိဋ္ဌိ၏ အကြောင်းဟုလည်း ဟော ခဲ့၏။ *(မဇ္ဈိမနိကာယ ၁၊ ၅၊ ၄– စူဠဝေဒလ္လသုတ္တ)*

ဗုဒ္ဓသည် အဝိဇ္ဇာနှင့်တဏှာအားဖြင့် လူသား၏အဖြစ်အပျက်အားလုံးကို ဖွင့်ပြတော်မူ၏။ ဂျာမန်အဘိဓမ္မာဆရာကြီး သျှိုပန်ဟာရ် (အေဒီ ၁၇၈၈– ၁၈၆၀) သည် ဗုဒ္ဓဟောအပ်သော ဤအားအစွမ်းအစုရှိသည့် တဏှာကိုပင် နယ်ပယ် အလွန်ကျယ်ပြန့်စွာ အသုံးပြုခဲ့ကြောင်း (အဘိဓမ္မာစံပြကျမ်း စာမျက် နှာများ၌) ကျွန်ုပ်တို့ ရေးခဲ့ပြီးလေပြီ။

ဗုဒ္ဓသည် သက္ကာယဒိဋ္ဌိ သို့မဟုတ် အတ္တဝါဒအယူကို သဘာဝအတိုင်း ဖြစ်သောအရာ (NATURAL)ဟု အသိအမှတ်မပြု။ ထို့ကြောင့် ဗုဒ္ဓက ဟောခဲ့

"ရဟန်းတို့ အကြောင်းသုံးရပ်ပေါင်းဆုံသဖြင့် ကိုယ်ဝန်ဆောင်မှုဖြစ်၏။ ၏။ *(မဇ္ဈိမနိကာယ၊ ၂၊ ၂၊ ၄– မဟာမာလုံကျသုတ္တ)*

"ပက်လက် (သာ) အိပ်တတ်သေး၍ (နို့စို့ရွယ်) မသိမလိမ္မာသေးသော သူငယ်သည် သက္ကာယ (အတ္တ) ဟူသည် ဘာမှန်းမျှမသိသေးရာ ထိုသူငယ် အား အဘယ်မှာသက္ကာယဒိဋ္ဌိ ဖြစ်အံ့နည်း"

(ဒဟရဿ ဟိမာလုံကျပုတ္တာ၊ ကုမာရဿ မန္တဿ ဥတ္တာန သယျကဿ သက္ကာယောတိပိ န ဟောတိ၊ ကုတော ပနာဿဥပ္ပဇ္ဇိဿတိ သက္ကာယဒိဋ္ဌိ)

ဤနေရာတွင် ဝံပုလွေတွင်းမှ ထုတ်ယူလာသော ကမလာခေါ် မိန်းကလေးအကြောင်းနှင့် ဆက်စပ်ပါလေ။ သူကလေးသည် (၄) နှစ်တွင် စကားလုံး (၃၀) သာ သင်ကြားတတ်မြောက်၏။

ဥပနိသျှဒ်ကျမ်းများက ဤမျှလောက် ကြိုးကြိုးပမ်းပမ်းတည်ဆောက်ထားရသော အတ္တသဘောတရားကြီးကို ပတိစ္စသမုပ္ပါဒဝါဒီ ဗုဒ္ဓက အဘယ်မျှ အသုံးမကျဟူသော အမြင်ဖြင့် မြင်လေသနည်း။

"ငါ၏ အတ္တသည် ခံစားတတ်၏။ ခံစားစရာဖြစ်၏(မိမိ၏) ကောင်းမှု၊ မကောင်းမှု၏ အကျိုးကို ခံစားတတ်၏။ ငါ၏ အတ္တသည် နိစ္စ–ဓုဝ–သဿတ–မပြောင်းလဲသော သဘောရှိ၏။ နှစ်အနန္တတိုင် အခြေမပျက် တည်နေပေလိမ့်မည်။ ရဟန်းတို့၊ ဤသို့သော ယုံကြည်ချက်သည် အခြားသော မရောစွက် အပြည့်အနက် မိုက်မဲသော ယုံကြည်ချက်(ဗာလဓမ္မ)သာတည်း။

"အယံဘိက္ခဝေ ကေဝလော ပရိပူရော ဗာလဓမ္မော"

*(မဇ္ဈိမနိကာယ၊ ၁၊ ၁၊ ၂)*

မိမိ၏ အဘိဓမ္မာ၌ အနတ္တဟူသော စကားလုံးဖြင့် ဗုဒ္ဓက အဘာဝဝတ္ထုပစ္စည်းဟု အလိုတော်မရှိပေ။ ဥပနိသျှဒ်တွင် အတ္တကိုပင် နိစ္စဓုဝသဘောရှိ၏ဟု အသိအမှတ်ပြု၏။ ဗုဒ္ဓက ဥပနိသျှဒ်အား အောက်ပါနည်းလမ်းအတိုင်းအဖြေပေး၏။

(ဥပနိသျှဒ်)အတ္တ–နိစ္စ–ဓုဝ–ဘာဝ

(ဗုဒ္ဓ) အနတ္တ–အနိစ္စ–အဒ္ဓုဝ–ဘာဝ

ထို့ကြောင့် ဗုဒ္ဓက တစ်နေရာတွင် ဟောခဲ့၏။

*(မဇ္ဈိမနိကာယ၊ ၁၊ ၄၊ ၅– စူဠသစ္စကသုတ္တ)*

"ရုပ်အနတ္တ၊ ဝေဒနာ အနတ္တ၊ သညာ သင်္ခါရ . . . ဝိညာဉ် . . . ဓမ္မအလုံး အနတ္တ"

ဗုဒ္ဓသည် ကြီးကျယ်၍ လွှမ်းခြုံနိုင်သော ပတိစ္စ သမုပ္ပါဒ်သဘောတရားကို ထုတ်ဖော်ခဲ့ရာ ထိုသဘောတရားကြီးပေါ်လွင်လာအောင် ပြုလုပ်ပေးရန် ထိုစဉ်က စကားလုံးများ အသင့်မရှိသေးသောကြောင့် ပတိစ္စ သမုပ္ပါဒ၊

သက္ကာယကဲ့သို့သော စကားလုံးသစ် အမြောက်အမြား တီထွင်ခဲ့ရ၏။ သို့ တီထွင်ရာ ဗုဒ္ဓသည် အချို့သောစကားလုံးဟောင်းများကို မိမိ၏အသိဖြစ် သော အနက်များဖြင့် သုံးစွဲခဲ့၏။ အထက်ပါ ကောက်နုတ်ကိုးကားချက်တွင် ဓမ္မ ဟူသော စကားလုံးကို မိမိပိုင်အနက်တစ်မျိုးဖြင့် ဗုဒ္ဓက သုံးစွဲခဲ့၏။ ၎င်း ဓမ္မဟူသည်ကား ယနေ့ဝိဇ္ဇာ ပညာရပ်ဆိုင်ရာ ဘာသာစကားအားဖြင့် ဝတ္ထု (THING) အစား သုံးစွဲအပ်သော အဖြစ်အပျက် (EVENT) ဟူသော စကားလုံးစကားလှယ်ပင်တည်း။ "ယေဓမ္မာ ဟေတုပ္ပဘဝါ" ဟူသော စကားရပ်၌ လည်း "ဓမ္မ" ဟူသည် ပြတ်သော အလျဉ်ရှိသည့် ကမ္ဘာကြီး၏ အမှုန့်မှုန့် လှိုင်းထနေသော အစိတ်စိတ်တည်းဟု ဆိုလိုပေသည်။

## ၃း၄။ အဘူတိကဝါဒ (ရုပ်ဝါဒမဟုတ်သောဝါဒ)

ဗုဒ္ဓသည် အနတ္တဝါဒကို အပြင်းအထန်ဆန့်ကျင်ခဲ့သည်ကားမှန်၏။ သို့သော် အတ္တဝါဒကို ဆန့်ကျင်သည်ဆိုသဖြင့် ရုပ်ဝါဒီတစ်ဦးဟု မယူဆ အပ်ပေ။ ဗုဒ္ဓလက်ထက်တော်တွင် ကောသလတိုင်း သာလဝတိကာမြို့တွင် လောဟိစ္စမည်သော ပဒေသရာဇ်ဗြာဟ္မဏတစ်ဦးနေထိုင်၏။ ထိုသူတွင် ဓမ္မနှင့် ပတ်သက်၍ အလွန်ဆိုးသော အယူအဆရှိ၏။ *(ဒီဃနိကာယ၊ ၁၊ ၁၂)*

"လောကတွင် တရားမှန်ကို ကိုယ်တိုင်သိ၍ အခြားသူအား သိအောင် ညွှန်ပြနိုင်သော သမဏ ဗြာဟ္မဏတစ်ဦးမှ မရှိ။ (ကောင်းပြီ) ဘာသာတစ်ခု က ဘာသာတစ်ခုအတွက် ဘာလုပ်ပေးမှာနည်း။ (အသစ်အသစ်သော ဘာသာဟူသည် ဘာတဲ့နည်း) ဥပမာသော်ကား နှောင်ကြိုးဟောင်းတစ်ခုကို ဖြတ်တောက်၍ နှောင်ကြိုးသစ်တစ်ခု တဲမှုကဲ့သို့ပင်တည်း။ ဤကဲ့သို့အား ဖြင့် ငါသည် ဤဘာသာဟူသည် ယုတ်မာမှုကိစ္စ လိုချင်မှုကိစ္စဟုသာ နားလည်၏"

ဗုဒ္ဓက ကိုယ်တော်၏ သီလ၊ သမာဓိ၊ ပညာနှင့်စပ်လျဉ်းသော ဒေသနာတော်အားဖြင့် လောဟိစ္စအား နားလည်မှုရအောင် ကြိုးပမ်းတော် မူခဲ့၏။

ကောသလတိုင်းမှာပင် အခြားပဒေသရာဇ်တစ်ဦးဖြစ်သူ သေတဗျာနယ်ရှင် ပါယာသိ မည်သော ရာဇာတစ်ဦးရှိခဲ့၏။ သူ၏ အယူအဆကား ဤသို့တည်း။ (ဒီဃနိကာယ၊ ၂၊ ၁၀)

"ဤလောကလည်းမရှိ၊ ပရလောကလည်းမရှိ၊ သေပြီးနောက် (တစ်ဖန်) မမွေးဖွားတော့။ ကောင်းမှု၊ မကောင်းမှု၏ အကျိုးတစ်စုံတစ်ရာလည်းမရှိ"

ပါယာသိသည် အဘယ်ကြောင့် ပရလောကနှင့် တစ်ဖန် ပဋိသန္ဓေနေခြင်းကို မယုံကြည်လေသနည်းဟူသော အမေးအတွက် သူ့တွင် အထောက်အထား ၃ မျိုးရှိ၏။ ထိုအထောက်အထား ၃ မျိုးကို ဗုဒ္ဓ၏တပည့် ရှင်ကုမာရကဿပ၏ ရှေ့မှောက်တွင် သူက တင်ပြခဲ့လေသည်။

(၁) အဘယ်သေဆုံးသွားသူတစ်ယောက်မှ အခြားလောကတစ်ခု ရှိပါသည်ဟု ပြန်၍မပြောလာ။

(၂) နတ်ပြည် (ကောင်းကင်ဘုံ) သို့ရောက်ရန် သေချာသော တရားရှင်ကြီးများလည်း မသေချင်ကြ။

(၃) အသက်(ဇီဝ)ထွက်သွားသဖြင့် အသေကောင်၏ အလေးချိန်လျော့မသွား။ သတိထား၍ သတ်လိုက်သော်လည်း ဇီဝဘယ်ကထွက်သွားသည်ကိုမမြင်ရ။

ရုပ်ဝါဒသည် အတ္တဝါဒကို ဆန့်ကျင်သကဲ့သို့ပင် ဗုဒ္ဓဗြဟ္မစရိယ (ရဟန်းဘဝ) နှင့် သမာဓိကို ဆန့်ကျင်သည်ဟု ဗုဒ္ဓက နားလည်တော်မူ၏။ ထို့ကြောင့် ဗုဒ္ဓက ဟောခဲ့၏။ (အင်္ဂုတ္တရနိကာယ၊ ၃)

"ထိုဇီဝသည်ပင် ထိုကိုယ်၊ ထိုကိုယ်သည်ပင် ထိုဇီဝ(နှစ်မျိုးတစ်ခုတည်း)ဟု ယူဆနေလျှင် ဗြဟ္မစရိယဝါသ(ရဟန်းဘဝနှင့်နေခြင်း)မဖြစ်နိုင်ပေ။ ဇီဝတခြား၊ ကိုယ်တခြားဟုယူဆနေလျှင်လည်း ဗြဟ္မစရိယဝါသမဖြစ်နိုင်"

ကွယ်လွန်ပြီးသည့်နောက်လည်း အကျိုးရခွင့်အလုပ်ကို ဆက်လက်ဖြည့်တင်းခွင့်ရှိလိမ့်မည်ဖြစ်ပါမှ လူသည် ရဟန်းဘဝနှင့်နေ၏။ ထို့ကြောင့် ရုပ်ဝါဒီအတွက် ရဟန်းဘဝနှင့်နေခြင်းသည် အကျိုးမဲ့သာတည်း။ ကိုယ်နှင့် အတ္တတခြားစီဟု ယူဆသော အတ္တဝါဒီအတွက်လည်း ဗြဟ္မစရိယဝါသသည် အချည်းနှီးသာတည်း။ အကြောင်းသော်ကား နိစ္စဓုဝအတ္တတွင် ဗြဟ္မစရိယအားဖြင့် သုတ်သင်ဖြည့်စွက်စရာအကွက်မရှိတော့ပေ။ ဤသို့အားဖြင့် ဗုဒ္ဓ

သည် မိမိကိုယ်ကို အဘူတိကဝါဒီ(ရုပ်ဝါဒီမဟုတ်သော ဝါဒရှိသူ) အတ္တဝါဒီအနေတွင် ထားတော်မူ၏။

## ၃း၅။ အနိဿရဝါဒ (ထာဝရဘုရားမဲ့ဝါဒ)

ဗုဒ္ဓအဘိဓမ္မာ၏ အနိစ္စ၊ အနတ္တ ပဋိစ္စသမုပ္ပါဒသဘောကို ကျွန်ုပ်တို့တွေ့မြင်ခဲ့လေပြီ။ ဗုဒ္ဓအဘိဓမ္မာတွင် အတ္တ၏အခန်းမရှိသကဲ့သို့ ဣဿရ၊ သို့မဟုတ် ဗြဟ္မာ၏အခန်းလည်း မရှိပေ။ ဗုဒ္ဓသည် ဣဿရဝါဒနှင့်ပတ်သက်၍ အနတ္တဝါဒလောက်များများမဟောကြားခဲ့။ ထို့ကြောင့် သာမန်မဟုတ်၊ အခြေခံရှိပြီး အနောက်တိုင်းဆန်ဆန် အိန္ဒိယပြည်သား ပရိဖက်ဆာအချို့ကပင် ဗုဒ္ဓသည် ဆိတ်ဆိတ်နေ၍ ဣဿရဝါဒကဲ့သို့သော ဥပနိသျှဒ်ပါသဘောတရားများကို အပြည့်အစုံ ဝန်ခံသည်ဟု ပြောဆိုကြ၏။

ဣဿရကို အမှတ်အသားပြုရာတွင် ဣဿရဟူသည် ကမ္ဘာပြု၊ ကမ္ဘာစောင့်၊ ကမ္ဘာဖျက် အမြဲတမ်းအသက်ရှင်နေသော ပုဂ္ဂိုလ်ဟူသည့် အနက်ဖြင့် အမှတ်အသားပြု၏။ ဗုဒ္ဓ၏ ပဋိစ္စသမုပ္ပါဒ်၌ ဤကဲ့သို့ သဘောရှိသော ဣဿရ၏အခန်းသည် ဓမ္မအားလုံးကဲ့သို့ ဣဿရလည်း ပဋိစ္စသမုပ္ပန္နဖြစ်သည်ဆိုပါမှ ရှိနိုင်ပေသည်။ ပဋိစ္စသမုပ္ပန္နဖြစ်ခဲ့လျှင်လည်း ဣဿရသည် ဣဿရပင်မဟုတ်တော့ပေရာ၊ ဥပနိသျှဒ်တွင် ကျွန်ုပ်တို့သည် ကမ္ဘာပြုကတ္တားတစ်ဦးကို တွေ့ရ၏။

"ပဇာပတိ (ဗြဟ္မာကြီး) သည် ပဇာ (သတ္တဝါများ) ၏ အလိုဆန္ဒအားလျော်စွာ ပြင်းထန်သောအကျင့်ကို ကျင့်တော်မူ၏" ပဇာပတိသည် ကျင့်တော်မူပြီးနောက် ဖို့,မ အစုံကို ဖန်ဆင်းတော်မူ၏။ (ပြဿောပနိသျှဒ်၊ ၁၊ ၃– ၁၃)

"ဗြဟ္မာ . . .သည် အလိုတော်ပြု၏။ . . . ကျင့်တော်မူပြီးနောက် ဗြဟ္မာသည် ဤအလုံးစုံ (ကမ္ဘာကို) ဖန်ဆင်းတော်မူ၏။ (တေတ္တိရီယ၊ ၂၊၆)"

"အတ္တသာ ပထမတစ်ခုတည်းရှိခဲ့၏။ အတ္တသည် 'လောကများကို ဖန်ဆင်းရသော် ကောင်းစွ' ဟု အလိုတော်ရှိ၏။ အတ္တသည် ဤလောကများကို ဖန်ဆင်း၏" (ဧတရေယ၊ ၁၊ ၁)

ယခုအခါ ဤဖန်ဆင်းသူ ဗြဟ္မာ၊ အတ္တ၊ဣဿရ၊ သန္တ(ဘာဝ)၏ အခြေအနေကို ဗုဒ္ဓက ဘယ်ပုံ ပြုလုပ်ပစ်လိုက်သည်ကို နားထောင်ကြည့်

စမ်းပါ။ မလ္လတို့၏ ဒီမိုကရေစီနိုင်ငံ နေပြည်တော်အနုပိယာ(ချပရာ ဒိစတြိတ်၊ အနော်မာမြစ်အနီး တစ်နေရာ) ၌ ဗုဒ္ဓသည် ဘဂ္ဂဝအနွယ် ပရိဗိုဇ်တစ်ဦးနှင့် ဣဿရအကြောင်းနှင့် စပ်လျဉ်း၍ အချီအချပြောဟော၏။

*(ဒီဃ၊ နိကာယ ၃၊ ၁၊ ပါထိကသုတ္တ)*

"ဘဂ္ဂဝ၊ ဣဿရ (သို့မဟုတ်) ဗြဟ္မာ၏ ဖန်ဆင်းမှုဆိုင်ရာ အယူ (အာစရိယက)ကို အမြတ်ဟု ပြောဆိုကြသော သမဏဗြာဟ္မဏတို့၏ထံသို့ ချဉ်းကပ်၍ ငါက ဤသို့မေး၏။ 'သင်တို့သည် ဣဿရ ဖန်ဆင်းမှုကို အမြတ်ဟု ပြောဆိုကြသောဟူသည်မှာ မှန်သလော' ငါကမေးသောအခါ သူတို့က 'ဟုတ်၏' ဟုဖြေကြ၏။ သူတို့ကို ငါသည် (တစ်ဖန်) မေးပြန်၏။ သင်တို့သည် အဘယ်ပုံ ဣဿရ သို့မဟုတ် ဗြဟ္မာ၏ ဖန်ဆင်းမှုကို အမြတ် ဟုပြောဆိုကြသနည်း။ ငါက ဤကဲ့သို့မေးသောအခါ သူတို့က ငါ့ကိုသာ ပြန်မေးကြ၏။ ငါက သူတို့ကို အဖြေပေး၏။ '. . . ကာလရှည်စွာ လွန်ပြီးနောက် . . . ဤလောကကြီးသည် ပျက်စီး၏ . . . (တစ်ဖန်) ကာလရှည်စွာလွန်ပြီးနောက် ဤလောကဖြစ်လာ၏။ ကမ္ဘာပေါ်လာသောအခါ ဆိတ်သုဉ်းသော ဗြဟ္မဗိမာန်ပေါ်လာ၏။ ထိုအခါ (အာဘဿရဒေဝလောကမှ) သတ္တဝါတစ်ဦးသည် သက်တမ်း သို့မဟုတ် ကံစွမ်းကုန်သဖြင့် ထိုသုည ဗြဟ္မဗိမာန်တွင် ဖြစ်ပေါ်လေ၏။ ထိုသတ္တဝါ ထိုဗိမာန်တွင် ကာလရှည်စွာ တစ်ဦးတည်းနေရသောကြောင့် သူ၏စိတ်သည် ငြီးငွေ့လာ၏။ ကြောက်ရွံ့လာ၏။ [ဗုဒ္ဓက ဤနေရာ၌ ဗြဟ္မာတစ်ဦးတည်းနေရသဖြင့် ကြောက်လန့်လာသည် ဆိုခြင်းအားဖြင့် "ဗိဟဒါရညက" ၏ ဤဆိုလတ္တံ့သောဝါကျ (၁၊ ၄၊ ၁-၂) ကို စောင်း၏။ 'အတ္တသာ ပထမရှိခဲ့၏၊ အတ္တသည် ဟိုဟိုသည်သည် ကြည့်လတ်သော် မိမိမှတစ်ပါး အခြားသူကိုမမြင်။ အတ္တသည် ကြောက်လာ၏။ ထို့ကြောင့် (လူသည်) တစ်ဦးတည်းဖြစ်သော် ကြောက်၏။ အတ္တသည် အဖော်(ရ)လိုလာ၏"] 'အခြားသတ္တဝါများ ဤဗိမာန်သို့ရောက်လာသော်ကောင်းလေစွ' အခြားသတ္တဝါများလည်း သက်တမ်းကုန်သဖြင့် သုည ဗြဟ္မဗိမာန်၌ ဖြစ်ပေါ်ကြ၏။ ထိုဗိမာန်၌ ပထမဖြစ်သော သတ္တဝါ၏စိတ်တွင် ဤသို့ဖြစ်လာ၏။ (စိတ်ကြီးဝင်လာ၏) 'ငါကား ဗြဟ္မာ၊ မဟာဗြဟ္မာ၊ အောင်နိုင်သူ (ဝိဇေတာ)၊ အနိုင်မခံသူ (အဝိဇိတ)၊ အကုန်သိသူ (သဗ္ဗညူ)၊

အခြံအရံများသူ (ယသဝတ္တိ)၊ အစိုးရသူ (ဣဿရ)၊ ပြုသူ (ကတ္တာ)၊ ဖန်ဆင်းသူ (နိမ္မာတာ)၊ မြတ်သူ (သေဋ္ဌ)၊ ပိုင်ရှင် (သာမိ) ဖြစ်သည့်အပြင် အတိတ်အနာဂတ်ကာလ ၂ ပါးလုံးရှိ အရာဝတ္ထုတို့၏ ဖခမည်းတော်ဖြစ်၏။ ငါသည်လျှင် ဤသတ္တဝါများကို ဖန်ဆင်းပေး၏။ (အကြောင်းသော်ကား) ငါ့စိတ်မှာပင် 'အခြားသတ္တဝါများ ဤဗိမာန်သို့ရောက်လာကြသော် ကောင်းလေစွ' ဟု တောင့်တမှု ပထမပေါ်ခဲ့ဖူး၏။ ထို့ကြောင့် ငါ့စိတ်မှပင် ဤသတ္တဝါများပေါက်ဖွား၍ ဤနေရာသို့ရောက်လာကြ၏။ နောက်မှ ပေါ်ပေါက်လာကြသော သတ္တဝါများ၏စိတ်ထဲတွင်လည်း ဤသူကား ဗြဟ္မာ၊ အစိုးရသူ၊ ပြုသူတည်း။ အကြောင်းသော်ကား ငါတို့သည် ဤသူအား ပထမကပင် ဤနေရာ၌ တွေ့ရ၏။ ငါတို့ကား နောက်မှပေါ်လာကြကုန်၏ဟု ဖြစ်ပေါ်ကြသောကြောင့်ပေတည်း။ ဗြဟ္မာကြီးမှတပါး အခြားသတ္တဝါများ ထို (နတ်) ကိုယ်ကိုစွန့်၍ ဤ (လောက) သို့ ရောက်လာကြသောအခါ ၎င်းတို့အနက် တစ်စုံတစ်ယောက်သောသူသည် သမာဓိရရှိသောဘဝမှ ရှေးဘဝကို အောက်မေ့မိ၏။ ထိုရှေ့ဘဝမှ ရှေ့သို့တိုး၍ မအောက်မေ့မိ၊ ထိုသူက ပြော၏။ 'ဣဿရ၊ ကတ္တာဖြစ်သော ထိုဗြဟ္မာကြီးသည် နိစ္စ=ဓုဝဖြစ်၏။ သဿတဖြစ်၏။ မပြောင်းလဲ အမြဲတမ်း အခြေမပျက်တည်နေ၏။ ထိုဗြဟ္မာကြီးက ဖန်ဆင်းပေးသော ငါတို့ကား မမြဲ၊ ရွေ့လျား၏၊ သက်တမ်းတို၏၊ သေလေ့ရှိ၏' ဤသို့လျှင် သင်တို့သည် ဣဿရ၏ ကတ္တာ (ဖန်ဆင်းသူ) သဘောကို ပြောကြသည်မဟုတ်လော။ သူတို့က ပြောကြ၏။ "အရှင်ဂေါတမ ပြောပြသည့်အတိုင်း ငါတို့လည်း ကြားနာရဖူး၏"

ထိုခေတ်ရှိ အစဉ်အလာ၊ ထူးခြားသော အဖြစ်အပျက်၊ မည်းမှောင် ညစ်ကျုသော သဒ္ဓပ္ပမာဏ (ကျမ်းဂန်လာစကား) များအရရှိနေသော ဣဿရအား ပယ်ဖျက်ရာဝယ် ဤပယ်ဖျက်နည်းသည် အလွန်သိမ်မွေ့စွာ သရော်ထားချက်ပါသော နည်းကောင်းတစ်ခု ဖြစ်လေသည်။

ဖန်ဆင်းတတ်သူ ဗြဟ္မာ (ဣဿရ) အား ဗုဒ္ဓက တစ်နေရာတွင် ထိုထက်သိမ်မွေ့စွာ သရော်ထားလေသည်။

*(ဒီဃနိကာယ၊ ၁၊ ၁၁ ကေဝဋ္ဋ သုတ္တ်)*

"ရှေးသရောအခါ ရဟန်းတစ်ပါး၏စိတ်ထဲတွင် ဤသို့သော မေးခွန်း

တစ်ရပ်ပေါ်ခဲ့၏။ ပထဝီ၊ အာပေါ၊ တေဇော၊ ဝါယောဓာတ်တည်းဟူသော မဟာဘုတ်လေးပါးသည် အဘယ်အရပ်သို့ ရောက်လျှင် အကြွင်းမဲ့ ချုပ်သွားလေသနည်း"

ထိုရဟန်းသည် စာတုမ္မဟာရာဇိက နတ်တို့ (၏အထံ) သို့သွား၍ မေး၏။ စတုမ္မဟာရာဇိက နတ်တို့သည် ရဟန်းအားပြောကြား၏။ "ငါတို့လည်းမသိ၊ ငါတို့ထက်သာသော နတ်မင်းကြီး ၄ ဦး (ဓတရဋ္ဌ၊ ဝိရူဠှက၊ ဝိရူပက္ခ၊ ဝေဿဝဏ) ရှိ၏။ နတ်မင်းကြီးများ သိကောင်းသိကြလိမ့်မည်" ငါတို့ထက်သာသော တာဝတိံသာ၊ ယာမ၊ သုယာမ၊ တုသိတ (နတ်အပေါင်း) သန္တုသိတနတ်သား၊ နိမ္မာနရတိ (နတ်အပေါင်း) သုနိမ္မိတ (နတ်သား) ပရနိမ္မိတဝသဝတ္တိ (နတ်အပေါင်း) ဝသဝတ္တိအမည်ရှိသော နတ်သား၊ . . . ဗြဟ္မကာယိကမည်သော နတ်မျိုးရှိ၏။ ထိုနတ်မျိုးသည် ဤမေးခွန်း၏ အဖြေကို သိကောင်းသိလိမ့်မည်။ ဗြဟ္မကာယိကနတ်တို့ကလည်း ထိုရဟန်းအား ပြောကြ၏။ "ငါတို့ထက်အများကြီးသာသော ဗြဟ္မာကြီးရှိ၏။ ထိုဗြဟ္မာကြီးကား ဣဿရ၊ ကတ္တာ၊ နိမ္မာတာဖြစ်၍ အတိတ် အနာဂတ် ကာလများ၌ ဖြစ်ပြီး ဖြစ်လတ္တံ့သော အရာ ဝတ္ထုများ၏ ဖခမည်းတော်ဖြစ်၏။ ထိုဗြဟ္မာကြီး သိကောင်း သိလိမ့်မည်။ (ဗြဟ္မာကြီးဘယ်မှာရှိသနည်းဟု ရဟန်းက မေးသောအခါ ထိုဗြဟ္မာကာယိက နတ်များက ပြောကြ၏) "ငါတို့ကား ဗြဟ္မာကြီး ဘယ်မှာနေသည်ကိုမသိ" . . . ထို့နောက် ဆောလျင်စွာပင် မဟာဗြဟ္မာ (ဣဿရကြီး) ပေါ်လာ၏။ (ရဟန်းက) ဗြဟ္မာကြီးအား မေး၏။ "ဤမဟာဘုတ်လေးပါး ဘယ်သို့ရောက် ၍ အကြွင်းမဲ့ချုပ်ကွယ်ကြသနည်း" မဟာဗြဟ္မာက ပြော၏။ "ငါကား ဗြဟ္မာ . . . ဣဿရ . . . ဖခမည်းတော် ဖြစ်၏" နှစ်ကြိမ်မြောက်လည်း မဟာဗြဟ္မာအားမေးပြန်၏။ "ငါသည် သင့်အား ဗြဟ္မာ – ဣဿရ ဘခမည်း တော်ဖြစ်သလောဟု မေးနေသည် မဟုတ်။ ငါသည် သင့်အား ဤမဟာဘုတ်လေးပါး ဘယ်သို့ရောက်၍ အကြွင်းမဲ့ချုပ် ကွယ်ကြသနည်းဟု မေး၏။ သုံး ကြိမ်မြောက်လည်း မေးပြန်၏။ ထိုအခါ မဟာဗြဟ္မာသည် ထိုရဟန်း၏ လက်မောင်းကိုကိုင်လျက် (နတ်သဘင်မှ) ထောင့်တစ်ထောင့်သို့ သွား၍ပြော၏။ 'အိုရဟန်း၊ ဤ နတ်များက ငါ့အား (ငါ့အတွက်) မသိသောအရာ၊ မမြင်သောအရာ

ဘာတစ်ခုမှမရှိဟု အသိအမှတ်ပြုထားကြ၏။ ထို့ကြောင့် ငါသည် ထိုနတ်များရှေ့တွင် ဖြေဆိုခြင်းမပြုခဲ့။ ရဟန်း၊ ငါလည်းမသိ၊ သင် သည် (ဗုဒ္ဓ) ကိုပစ်ပယ်၍ အခြားနေရာတွင် ဤအကြောင်းကို ရှာဖွေနေ၏။ ဤသည်လျှင် သင်၏အပြစ်ဖြစ်၏။ ဗုဒ္ဓ၏ထံတော်မှောက်သို့ အရောက်သွားပါ၊ဗုဒ္ဓဟော ပြဖြေဆိုသော အတိုင်းသာ မှတ်သားပါလေ'

ယနေ့ ဟိန္ဒူဘာသာတွင် ကြွသရသဒ္ဒါဖြင့် မှတ်ယူအပ်သော အနက်ကိုပင် ထိုခေတ်ဗြဟ္မသဒ္ဒါက ဟော၏။ ထိုအခါကပင် သိဝနှင့် ဝိဏှု (ဗိသျှုဏု)ကို ဗြဟ္မာအထက်သို့ မမြှင့်တင်ခဲ့ပေ။ အကယ်၍ သင်သည် ဤနေရာ၌ ဗြဟ္မာအစား အလ္လာဟ် သို့မဟုတ် ဘုရားသခင် (ဘဂဝါန်)၊ ဗုဒ္ဓအစားမာ (ကဆ) နှင့်၊ ရဟန်းအစား သာမန်အကြမ်းဖျင်းအားဖြင့် မာ့ကဆဝါဒီတစ်ဦး အဖြစ်ပြောင်းလဲ၍ အဆိုပါပုံဝတ္ထုကို ထပ်၍ပြောပြလျှင် ဗုဒ္ဓ၏ ပြက်ရယ်မှု အပြည့်အနက်ပါသော ပုံဝတ္ထုအရသာ ပေါ်လာလိမ့်မည်။ မယုံကြည်ထိုက်သော ထောင်ပေါင်းများစွာသော အချက်အလက်တို့၌ ယုံကြည်နေသော မိမိခေတ်က အကန်းယုံသမားများအား သင်တို့၏ ကြွသရသည် နိစ္စဓုဝ စသည် မဟုတ်၊ သူသည် ကမ္ဘာကိုမဖန်ဆင်း၊ မဖျက်ဆီး၊ သူလည်းအခြားသတ္တဝါများကဲ့သို့ ပတိသန္ဓေနေခြင်း၊ သေခြင်းသဘောရှိသည်။ သူသည် မရေတွက်နိုင်သောနတ်များအနက် နတ်တစ်ဦးမျှသာဖြစ်သည်ဟု ဗုဒ္ဓကဆိုလို၏။ ဗုဒ္ဓက ကြွသရနောက်တွင် တုတ်ကိုင်လိုက်ပုံ ဥဒါဟရဏ်ကိုရှုစားပါလော့၊ ထိုစဉ်အခါက ဗုဒ္ဓသည် ကိုယ်တော်တိုင်ကြွသွား၍ "ကြွသရ"ကို အကြမ်းကိုင်ခဲ့၏။

*(မဇ္ဈိမနိကာယ၊ ၁၊ ၅၊ ၉၊ ဗြဟ္မနိမန္တိကသုတ္တ)*

"တစ်ရံရောအခါ ဝက ဗြဟ္မာအား ဤသို့သော အယူဆိုးဖြစ်ပေါ်ခဲ့၏။ ဤ (ဗြဟ္မလောက) သည် နိစ္စဓုဝသဿတသုဒ္ဓ (စင်ကြယ်)၊ အစ္စုတ (မရွေ့လျော)၊ အဇတ (ပတိသန္ဓေမနေ)၊ အဇရ (မအို)၊ အမရ (မသေ)၊ ရွေ့လျောခြင်းမရှိ၊ ပတိသန္ဓေမနေ၊ ထိုအခါ ငါသည် ဗြဟ္မလောက၌ ထင်ရှားဖြစ်ပေါ်ခဲ့၏။ ဝကဗြဟ္မာသည် အဝေးကပင် ငါလာသည်ကိုမြင်၏။ မြင်ပြီး၍ ငါ့အား စကားဆို၏။ "လာလော့ အချင်း၊ (မိတ်ဆွေ) အချင်း၊ သင့်အား ကြိုဆိုကမ်း လှမ်းပါ၏။ အချင်း မလာသည်မှာ ကြာလှပါပြီလော။ အချင်း ဤ(ဗြဟ္မာ) လောကသည် နိစ္စ၊ ဓုဝ၊ သဿတ၊ အဇရ၊ အမရဖြစ်၏"

ဤသို့ဆိုလတ်သော် ငါက ဆို၏။ "အဟို ဝကဗြဟ္မာသည် အဝိဇ္ဇာတွင် ကျရောက်နေဘိ၏။ အနိစ္စကို နိစ္စဟု ဆိုနေဘိ၏။ အသဿတကို သဿတ ဟု ဆိုနေဘိ၏" ဤသို့ဆိုလတ်သော် ဝကဗြဟ္မာက ဆို၏။ "အချင်း ငါသည် နိစ္စကိုသာ နိစ္စဟုဆို၏။ သဿတကိုသာ သဿတဟု ဆို၏" ငါက ဆို၏။ "ဗြဟ္မာ၊ (အခြားလောကမှ) စုတေ၍ နင်ဤဘုံတွင် ဖြစ်လာ၏"

ဗြာဟ္မဏများသည် သူကန်း အစဉ်ကဲ့သို့ သိမှု မြင်မှုမရှိဘဲ ဣဿရ (ဗြဟ္မာ)နှင့် ဣဿရ၏လောကအပေါ်၌ အယုံအကြည်ထားကြ၏။ ဤသဘောကို ဖော်ထုတ်လျက် တစ်နေရာ၌ ဗုဒ္ဓက ဆိုပြန်၏။

*(ဒီဃနိကာယ၊ ၁၊၁၃– တေဝိဇ္ဇသုတ္တ)*

ဝသိဋ္ဌဗြာဟ္မာသည် ဗုဒ္ဓအား ဆိုလာ၏။ "အို ဂေါတမ လမ်းမှန် လမ်းများနှင့်စပ်လျဉ်း၍ ဇတရေယ ဗြာဟ္မဏ၊ ဆန္ဒောက ဗြာဟ္မဏ၊ ဆန္ဒဝါဗြာဟ္မဏ တို့သည် အမျိုးမျိုးသောလမ်းများကို ညွှန်ပြကြ၏။ သို့သော် ဗြာဟ္မဏတို့ ညွှန်ပြအပ်သော လမ်းအသီးသီးပင် ဗြဟ္မာနှင့် လောကတူအဖြစ်သို့ အရောက် ပို့ဆောင်ကြ၏။ ဥပမာ– ရွာ၊ သို့မဟုတ် နိဂုံးအနီးအပါး လမ်းအမျိုးမျိုးရှိ သော်လည်း ထိုလမ်းအသီးသီးပင် ရွာသို့ချည်း ဆိုက်ရောက်ကြ၏"

"ဝသိဋ္ဌ၊ တေဝိဇ္ဇ ဝေဒသုံးကျမ်းကို ဆောင်သော ဗြာဟ္မဏများအနက် ဗြဟ္မာကို မျက်ဝါးထင်ထင် မြင်ဖူးသော ဗြာဟ္မဏတစ်ဦးမှ မရှိ။ ဆရာတစ်ဦး၊ ဆရာ့ဆရာတစ်ဦး၊ ခုနစ်ဆက်မြောက်ဆရာ တစ်ဦးမှ မရှိ။ ဗြာဟ္မဏ သူဟောင်း ဣသိမန္တရာများကို ဟောဆိုသူ အဋ္ဌက၊ ဝါမက၊ ဝါမဒေဝ၊ ဝိဿာမိတ္တ၊ ယမဒဂ္ဂိ၊ အင်္ဂီရာ၊ ဘရဒ္ဒါဇ၊ ဝသိဋ္ဌ၊ ကဿပ၊ ဘဂုတို့တွင် ဗြဟ္မာအား မျက်ဝါးထင်ထင် မြင်ရသူ တစ်ဦးတလေ ရှိပါ၏လော။ မသိရ မမြင်ရသော ဗြဟ္မာနှင့် လောကတူဖြစ်ရန် လမ်းများကို ညွှန်ကြားနေကြ၏။ ဥပမာသော်ကား အစသူကလည်း မမြင်၊ အလယ်သူကလည်း မမြင်၊ အဆုံး သူကလည်း မမြင်၊ အချင်းချင်း ချိတ်တွဲထားသော သူကန်း အစဉ်ကဲ့သို့ ပင်တည်း"

## ၃း၆။ မဖြေအပ်သည့် ဆယ်ချက် (ဒသအကထနီယ)

ဗုဒ္ဓသည် အချို့သောအကြောင်းအရာများကို မဖြေအပ်သောအချက်

(အကထနီယ=အဗျာကတ) ဟု ဟောခဲ့၏။ ဗုဒ္ဓဘာသာနာမည်ပျက်ရန် စိတ်သန်နေကြသော အိန္ဒိယပြည်သား စာရေးဆရာအချို့က ထိုမဖြေအပ်သည့် ဆယ်ချက်ကိုပင် အထောက်အကူယူ၍ ဗုဒ္ဓသည် ဣဿရအတ္တနှင့် စပ်လျဉ်း၍ နှုတ်ဆိတ်နေခဲ့သည်။ ထို့ကြောင့် နှုတ်ဆိတ်နေခြင်း၏ အဓိပ္ပာယ်ကို ဗုဒ္ဓက ဣဿရအတ္တရှိမှုမှ ငြင်းဆန်သည်ဟူသော အဓိပ္ပါယ်ကို မယူသင့်ဟု ဆိုချင်ကြ၏။ သို့သော် ထိုစာရေးဆရာအချို့က သင်တို့သဘောကျ ဖောက်ဖျက်ပစ်၍ ရနိုင်အောင် ဗုဒ္ဓ၏ အဗျာကတ တရားစာရင်းသည် အကန့်အသတ်မရှိ မဟုတ်ဟူသော အချက်ကား ဖုံးထားလိုကြ၏။ ဗုဒ္ဓ၏ အဗျာကတစာရင်းတွင် ၁၀ ချက်သာပါ၏။ ထိုအချက်များကား လောက (ကမ္ဘာ) နှင့် ကိုယ် ကွဲ၊ မကွဲ၊ ၎င်းပြင် လွတ်မြောက်သူ၏ လားရာ (ဂတိ) များနှင့် ပတ်သက်၏။ *(မဇ္ဈိမနိကာယ၊ ၂၊ ၂၊ ၃)*

**က။ လောက**

၁။ လောကသည် နိစ္စလော။

၂။ လောကသည် အနိစ္စလော။

၃။ လောကသည် အဆုံးရှိလော။

၄။ လောကသည် အဆုံးမရှိလော။

**ခ။ ဇီဝနှင့်ကိုယ်တူမှု**

၅။ ဇီဝနှင့်ကိုယ် အတူတူလော

၆။ ဇီဝတခြား ကိုယ်တခြားလော

**ဂ။ နိဗ္ဗာန်၏ နောက်အခြေအနေ**

၇။ သေပြီးနောက် တထာဂတများ (လွတ်မြောက်သူများ) ဖြစ်သွားကြသလော။

၈။ သေပြီးနောက် တထာဂတများ မဖြစ်ဘူးလော။

၉။ သေပြီးနောက် တထာဂတပဲ ဖြစ်သွားသလော၊ မဖြစ်ဘဲပင် ရှိလေသလော။

၁၀။ သေပြီးနောက် တထာဂတမဖြစ်ဘဲလျှင် ရှိလေသလော။ မဖြစ်မဟုတ် ဖြစ်ပဲ ဖြစ်သွားလေသလော။

မာလုံကျပုတ္တသည် ဗုဒ္ဓအား အဆိုပါအဗျာကတ ဆယ်ပါးနှင့်စပ်လျဉ်း၍ မေးမြန်းခဲ့ဖူး၏။ *(မဇ္ဈိမနိကာယ၊ ၂၂၊ ၃)*

"အကယ်၍ အရှင်ဘုရားသည် (ဤအချက်များကို)သိခဲ့လျှင်လည်း ဖြေကြားပါ။ မသိလျှင်လည်း ပွင့်ပွင့်လင်းလင်း ငါမသိ၊ ငါနားမလည်ဟု ပြောခြင်းသာလျှင် မသိနားမလည်သူအတွက် ရိုးသားမှုဖြစ်၏။"

ဗုဒ္ဓက မာလုံကျပုတ္တအား အဖြေပေးရင်း ဟောကြားခဲ့၏။

"ငါသည် ဤအချက်များကို အဗျာကတဟုဟော၏။ ဟောရခြင်း အကြောင်းကား ဤအချက်များနှင့်စပ်လျဉ်း၍ ပြောဆိုမှုသည် အကျိုးမရှိ။ ရဟန်းကျင့်ဝတ်အတွက် အကျိုးမများ (၎င်းပြင်) ငြီးငွေ့မှု၊ ငြိမ်းချမ်းမှု၊ တကယ့်အသိဉာဏ်နိဗ္ဗာန်အတွက် မလိုအပ်သောကြောင့်ပင်တည်း"

ဗုဒ္ဓ၏ အဘိဓမ္မာ၌ ဤသို့သဘောရှိသော ဣဿရအတ္တဗြဟ္မ တစ်စုံတစ်ခုနိစ္စဓုဝအရာဝတ္ထု၏ အခန်းမရှိပါဘဲလျက် ဉပနိသျှဒ်နှင့် ဗြဟ္မဏတို့၏ ပရမတ္ထဉာဏ်၊ သတိ-စိတ်-အာနန္ဒမှ လုံးလုံးဆန့်ကျင်သော ပရမတ္ထများကို အ-သတိ (=အနိစ္စ ပတိစ္စသမုပ္ပန္န) အ-စိတ် (=အနတ္တ) အနာနန္ဒ (=ဒုက္ခ) ဟု ကြွေးကြော်ပါလျက်လည်း ဆာရာဓာကရိသျှဏန်ကဲ့သို့သော ဟိန္ဒူစာရေးဆရာများက တာဝန်မဲ့စွာ အောက်ပါဝါကျများကို အရှက်မရှိရေးခဲ့ကြလျှင် ထိုကဲ့သို့ အရှက်မရှိရေးသူအား ဓမ္မကိတ္တိ၏စကားလုံးဖြင့် "ဓိဗျာပကံတမော။ ထွိ၊ အမှောင်ဖုံးလေခြင်း" ဟု ဆိုရပေတော့မည်။

(က) "ထို (ဗုဒ္ဓ) သည် ဈာန်နှင့် ပတ္တနာ (လမ်း) ကိုယူ၏" INDIAN PHILSOPHY BY SIR S. RADHAKRISHN VOL 1. 1 ST EDITION P 355)

(ခ) "ဝိညာဉ် (စေတနာ) သာခဏိကဖြစ်၏။ အခြားအရာဝတ္ထုများ ခဏိကမဟုတ်ဟု ဗုဒ္ဓအယူရှိ၏" *(၎င်းကျမ်း-စာမျက်နှာ ၃၇၈)*

ထိုပုဂ္ဂိုလ်က ဓမ္မအားလုံး ပတိစ္စသမုပ္ပန္နဖြစ်၏ဟူသော ဗုဒ္ဓဒေသနာကို လေးလေးနက်နက်အဓိပ္ပာယ်ဖွင့်ပြလိုက်လေသလော။

(ဂ) ဗုဒ္ဓသည် ဗြဟ္မာနှင့်ပတ်သက်၍ ရှင်းရှင်းလင်းလင်း ရှိ မရှိ ဟော ခဲ့၏။ ထိုဟောချက်ကို ဘယ်နည်းနှင့်မျှ ပရမသတ္တာ(ဗြဟ္မ)အား ဝန်ခံခြင်း

အနက်အဓိပ္ပာယ်အားဖြင့် မယူနိုင်ပေ။

ဗုဒ္ဓသည် ကမ္ဘာ၏ စီးဆင်းနေသော အလျဉ်ထဲတွင် မည်သည့်ဝတ္ထုကို မှ ဝ (နိစ္စ) ဟု ဝန်မခံ၊ ကမ္ဘာတွင် ဖြစ်ပွားနေသော မငြိမ်းချမ်းမှုကြီးတွင် လူ သား၏ မငြိမ်းချမ်းသော နှလုံးသားငြိမ်းချမ်းမှု ရသွားနိုင်သော အပန်းဖြေဌာန တစ်ခု ကို ဝန်မခံဟု မှတ်ယူခဲ့လျှင် ထိုမှတ်ယူမှုမှာ မဖြစ်နိုင်ပေ။

*(ငှင်းစာအုပ် စာမျက်နှာ ၃၇၉)*

ထို့ကြောင့် ဆာရာစာကရိသျှဏန်သည် ဗုဒ္ဓဘာသာ၏ နိဗ္ဗာန်ကို ပရမသတ္တာ (ဗြဟ္မာယ) ဟု အသိအမှတ်ပြုစေရန် ကြိုးစားခဲ့၏။ သို့သော် လည်း ဗုဒ္ဓဘာသာဝင်များက အဘာဝသဘောကိုပယ်၍ ဘာဝသဘောရှိသော အရာဝတ္ထုဟု ယူမှတ်ရန်ပင် မဖြစ်နိုင်ပေ။ ဗုဒ္ဓက သန္တိကိုရအောင်ပြုတတ်သော အတ္တကိုပင် ကြီးလေးသောမိုက်မဲမှု (ဗာလဓမ္မ) ဟု အမှတ်အသား ပြုထားပါ လျက် အတ္တ၏ အပန်းဖြေမှုအတွက် ငြိမ်းချမ်းရာဌာနကို ရာစာကရိသျှ ဏန်မို့ ရှာနိုင်ပေသည်။ ထို့နောက် သူသည် ဤဆိုလတ္တံ့သော ဝါကျကို လည်း ထုတ်ဆောင်ခဲ့၏။ "ဤလောကသည် မပြတ်သောအလျဉ်၊ ဝါ၊ အဖြစ်အပျက် ဖြစ်၏။ ထိုလောကတွင် နိစ္စတရားတစ်ခုမှမရှိ။ ဤကမ္ဘာတွင် နိစ္စဖြစ်သော နာမ်တရား ရုပ်တရားဟူ၍မရှိ"

(ဃ) အတ္တနှင့်စပ်လျဉ်း၍ ဗုဒ္ဓ၏နှုတ်ပိတ်နေခြင်းမှာ အခြားအကြောင်း လည်းရှိ၏။ (ငှင်းစာအုပ် စာမျက်နှာ ၃၈၅) ဗုဒ္ဓသည် ဥပနိသျှဒ်၌ ဖွင့်ပြအပ် သော အတ္တနှင့်စပ်လျဉ်း၍ နှုတ်ဆိတ်နေ၏။ ဗုဒ္ဓသည် အတ္တကို ဝန်လည်း မခံ၊ ပယ်လည်း မပယ်ပေ။

မဟုတ်ပါပေ။ ဗုဒ္ဓအဘိဓမ္မာ၏ အမည်ကပင် အနတ္တဝါဒဖြစ်ပါ၏။ ဥပနိသျှဒ်၏ နိစ္စ ဓုဝ အတ္တနှင့် အတူ အတ္တတွင် 'အန်' ကပ်ထားပါသည်။ (အန်+အတ္တ= အနတ္တ)၊ 'အနိစ္စ၊ ဒုက္ခ၊ အနတ္တ' ဟု ကြွေးကြော်နေသော ဗုဒ္ဓ အတွက် ခင်ဗျားကြီး၏ အဆိုပါပွင့်ထွက်လာသောအသံက ခင်ဗျား ကြီးအဘိ ဓမ္မာသမိုင်းရေးရန် လုံးလုံးအရည်အချင်းမရှိဟူသော အချက်ကိုသာ သက်သေ ထူနေပါ၏။

ရှေ့ဆက်၍ ဤစကားကို ထပ်လောပြန်သေး၏။ "ဤမြုပ်ကွယ်နေ သော အတ္တမပါဘဲ ဘဝကို အဓိပ္ပာယ်ဖွင့်ပြနိုင်မည် မဟုတ်ပေ။ ထို့ကြောင့်

ဗုဒ္ဓက မကြာမကြာ အတ္တ၏ အမှန်သဘောကို တားမြစ်ခြင်းမှ ငြင်းဆိုခဲ့လေသည်။ (၎င်းစာအုပ် စာမျက်နှာ ၃၈၉)

"ဖန်ခါးသီး အလျားဆယ်တောင်ရှိ၏ဟု ပါးစပ်ပါသောကြောင့် ပြောနိုင်၏။ (မုခမတ္တီတိဝတ္တဗ္ဗံ၊ ဒသဟတ္ထာ ဟရီတကီ)" ဟူသော စကားပုံကို ဆို ကြ၏။ ထို့နောက် ဗုဒ္ဓ၏ရှေ့တော်မှောက်ရောက်လျှင် ရာဓာကရိသျှဏန်၏ အခြေအနေ ဘယ်သို့ဖြစ်မည်ကိုသိရန် မာလုံကျပုတ္တ၏ အဖြစ်အပျက်ကို ဖတ်ရှုပါလေ။ *(၎င်းစာအုပ် စာမျက်နှာ ၃၈၉)*

(င) မိလိန္ဒပညာကို ရေးသားသော နာဂသေန (၁၅၀ဘီစီ) သည် ဗုဒ္ဓအဘိဓမ္မာနှင့် စပ်လျဉ်းသော ဖွင့်ချက်ကို လွယ်ကူပြတ်သားစွာ ယွန်း (ဂရိတ်) ဘုရင်မိနာန္ဒရ်အား တင်ပြခဲ့ရာ၊ ကိစ္စနှင့်ပတ်သက်၍ ဆာရာဓာကရိသျှဏန်က ဆိုခဲ့၏။

"နာဂသေနသည် ဗုဒ္ဓ၏အယူအဆများကို သူ၏ ဘိုးဘပိုင် အကိုင်းအခက် (ဥပနိသျှဒ် ?)မှ ချိုးဖဲ့၍ အသိဉာဏ်နယ်ပယ်တွင် ချစိုက်ခဲ့၏။ *(၎င်းစာအုပ် စာမျက်နှာ ၃၉၀)*

ထို့နောက်

"ဗုဒ္ဓ၏ ရည်မှန်းချက်ကား ဥပနိသျှဒ်၏ မြင့်မြတ်သော ဝိညာဉ်တော်ဝါဒ(IDEALISM) ကိုလက်ခံ၍ ထိုဝါဒကို လူသားဓာတ်၏ နေ့စဉ်နှင့်အမျှ တွေ့ရမည့်လလိုအပ်ချက်များအတွက် လွယ်ကူသွားအောင် ပြုလုပ်ပေးရန်ဖြစ်၏။ သမိုင်းကြောင်းကျ ဗုဒ္ဓဘာသာ၏ အနက်အဓိပ္ပာယ်ကား ဥပနိသျှဒ်အယူကို လူထုတွင် ဖြန့်ပေးမှုဖြစ်၏" *(၎င်းစာအုပ် စာမျက်နှာ ၄၇၁)*

ဗုဒ္ဓကိုယ်တော်တိုင်နှင့် ဗုဒ္ဓနှင့် မျက်မှောက်တပည့်များ–နာဂသေန (၁၅၀ ခရစ်မပေါ်မီ)၊ နာဂဇ္ဇုန (ခရစ်နှစ် ၁၇၅)၊ အသင်္ဂ (ခရစ် ၃၇၅)၊ ဝသုဗန္ဓု (ခရစ် ၄၀၀)၊ ဒိန္နာဂ (ခရစ် ၄၂၅)၊ ဓမ္မကိတ္တ (ခရစ် ၆၀၀)၊ ဓမ္မောတရ၊ သန္တရက္ခိတ (ခရစ် ၇၅၀)၊ ဉာဏသီရိ၊ သကျသီရိဘဒ္ဒ (ခရစ် ၁၂၀၀) တို့ မတွေ့ခဲ့သော လျှို့ဝှက်ချက်ကို ဖော်ထုတ်လိုက်သော အရင်းခံပုဂ္ဂိုလ်မှာ ဆာရာဓာကရိသျှဏန်ဖြစ်ပေ၏။ သူကား အနတ္တဝါဒ ဗုဒ္ဓအား အတ္တဝါဒ ဖြန့်ချိသူဖြစ်အောင် လုပ်ပစ်သူတည်း။ ပေါင်း ၂၅၀၀ ကာလပတ်လုံး အိန္ဒိယ၊ သီဟိုဠ်၊ မြန်မာ၊ တရုတ်၊ ဂျပန်၊ ကိုရီးယား၊ မံဂိုလီယာ၊ တိဗက်၊ သျှေတိုက်၊ အရှေ့ယ်ပိုင်း

အာဖဂါနီစတာန်နှင့် အခြားဒေသများတိုင်အောင် ပြန့်၏။ မြေပြင် တစ်ဝန်းလုံး ဗုဒ္ဓအား အနိစ္စဝါဒီ အနတ္တဝါဒီဟု ထင်နေကြခြင်းမှာ အဘယ်မျှ ကြီးကြယ်သော အမှောက်အမှား ဖုံးလွှမ်းနေခြင်းဖြစ်ပါသနည်း။

အက္ခပါဒ၊ ဝါဒရာယဏ၊ ဝဠ္ဍာယန၊ ဥဒ္ဒေါတကရ၊ ကုမာရိလ၊ ဝါစပ္ပတိ၊ ဥဒယနကဲ့သို့သော ဗြာဟ္မဏများလည်း ဗုဒ္ဓ၏ အဘိဓမ္မာကို အနိစ္စဝါဒ၊ အနတ္တဝါဒထင်နေကြရာ ထိုထင်မှတ်ချက်လည်း ၎င်းတို့၏ကြီးလေးသော မသိမှု (အဝိဇ္ဇာ) ဖြစ်ဘိ၏။ (ငေါ့ထားချက် ။ ။ **ဘာသာပြန်သူ**)

## ၃း၇။ တွေးခေါ်မှုလွတ်လပ်ခြင်း

ပတိစ္စသမုပ္ပာဒ်ကို ထုတ်ဖော်သော ပုဂ္ဂိုလ်အတွက် တွေးခေါ်မှု လွတ်လပ်ခြင်းကား သဘာဝကျသောအရာဖြစ်၏။ ဗုဒ္ဓအဘိဓမ္မာဆရာများသည် မိမိတို့၏တီထွင်သူ ညွှန်ကြားချက်အရ ပစ္စက္ခနှင့်အနုမာန–၂မျိုးကိုသာ လက်ခံခြင်းဖြင့် တတိယပမာဏကို ငြင်းဆန်ခဲ့ကြ၏။ ဗုဒ္ဓက တွေးခေါ်မှု လွတ်လပ်ခြင်းကို မိမိ၏ဒေသနာတော်များဖြင့်ပင် ဤကဲ့သို့ စတင်ခဲ့၏။

*(မဇ္ဈိမနိကာယ၊ ၁၊ ၃၊ ၂)*

"ရဟန်းတို့၊ ငါသည် ဖောင်ကဲ့သို့ ကူးခပ်ရန် သင်တို့အား ဓမ္မနှင့် စပ်လျဉ်း၍ ဟောကြား၏။ ဆုပ်ကိုင်ထားရန် မဟုတ်ပေ။ ရဟန်း၊ ဥပမာသော်ကား– ယောကျ်ားတစ်ဦးသည် ဤမှာဘက်ကမ်းတွင် ဘေးအန္တရာယ်များ ပြည့်နှက်၍ ဟိုမှာဘက်ကမ်းတွင် အေးချမ်းသာယာစွာ ဘေးအန္တရာယ်ကင်းရှင်းသော ရေပြင်ကျယ်ကြီးသို့ ဆိုက်ရောက်ခဲ့၏။ ထိုအရပ်တွင် တစ်ဖျက်ကမ်းသို့ကူးခပ်ရန် လှေဖောင်လည်းမရှိ၊ ဤမှာဘက်မှ ဟိုမှာဘက်သို့ ကူးသွားရန် တံတားလည်းမရှိ၊ ထိုအခါ ယောကျ်ားသည် . . . ထင်း၊ သစ်ရွက်များကိုစု၍ ဖောင်ဖွဲ့၏။ ထို့နောက် ထိုဖောင်ကိုမှီတွယ်၍ လက်ခြေထောက်များဖြင့် ကြိုးပမ်းလျက် ကောင်းမွန်ချောမွေ့စွာ တစ်ဖက်ကမ်းသို့ ကူးမြောက်သွား၏။ ကူးမြောက်သွားသောအခါ ထိုယောကျ်ား၏ စိတ်တွင် 'ဤဖောင်ကို မှီတွယ်၍ ငါသည် ကူးမြောက်နိုင်ခဲ့၏။ ငါသည် ဤသို့ ကျေးဇူးများသော ဖောင်ကို ဦးခေါင်းထက် သို့မဟုတ် ပခုံးထက်တွင် တင်ရွက်ထမ်းပိုးသွားရသော် ကောင်းလေစွဟု' ဖြစ်ပေါ်လာ၏။ ထိုသို့စဉ်းစားမိ၍ စဉ်းစားမိသော

အတိုင်း ပြုလုပ်သောယောက်ျားသည် ထိုဖောင်ကို အစွဲပြု၍ (မိမိ) ဆောင်ရွက်ထိုက်သောကိစ္စကို ဆောင်ရွက်သူ ဖြစ်ပါမည်လော"

" . . . မဖြစ်ပါ . . . ရဟန်းတို့၊ ထိုယောက်ျားသည် ထိုဖောင်ဖြင့် ဒုက္ခရှာသကဲ့သို့ ဖြစ်ပေမည်"

တစ်ရံရောအခါ ဗုဒ္ဓအား ကေသပုတ္တရွာ (နိဂုံး) သား ကာလာမခတ္တိယများက ဝါဒအမျိုးမျိုး၏ အမှန်အမှားတွင် သံသယဖြစ်နေကြောင်း ဖော်ထုတ်လျှောက်ထားခဲ့၏။ *(အင်္ဂုတ္တရနိကာယ၊ ၃၊ ၇၊ ၅)*

"အရှင်ဘုရား အချို့အချို့သော ဗြာဟ္မဏများ ကေသပုတ္တနိဂုံးသို့ ရောက်လာကြ၏။ မိမိ မိမိတို့၏ ဝါဒ (အယူ) ကိုသာ ဖော်ပြကြကုန်၏။ အခြားအခြားသော သူတို့၏ ဝါဒအပေါ်တွင် မကျေနပ်ကြကုန်။ ကဲ့ရဲ့ကြကုန်၏။ အခြားအခြားသော သူတို့ကျလည်း မိမိတို့၏ ဝါဒကိုသာ ဖော်ပြကြ၏။ အခြားသူတို့၏ ဝါဒအပေါ် မကျေနပ်ကြကုန်။ ထိုအခါ . . . ငါတို့အား ယုံမှားသံသယဖြစ်၏။ "ဤသူတို့တွင် အဘယ်သူသည် အမှန်ကို ဆိုသနည်း အဘယ်သူသည် အမှားကို ဆိုလေသနည်း"

" ကာလာမတို့ သင်တို့ယုံမှားသံသယဖြစ်ခြင်းသည် ကောင်း၏။ ယုံမှားသံသယဖြစ်စရာတွင် သံသယဖြစ်၏။ ကာလာမတို့ သင်တို့သည် သုတ (ကြားစကား၊ ဝေဒ) တို့ကြောင့် (ဘာအကြောင်းကိုမှ ယုံကြည်မှု) မရှိလင့်။ တွေးကြံမှု၊ အကြောင်းယုတ္တိ၊ ဟောပြောသူ၏ ဟန်ပန်ကို စဉ်းစားခြင်း၊ မိမိကြာမြင့်စွာက ယူဆလာခဲ့သော အယူနှင့်တိုက်ဆိုင်ခြင်း၊ ဟောပြောသူ၏ ရုပ်ကောင်းခြင်း၊ 'ငါတို့ဆရာ ရဟန်းတော်' ဟူသော အစွဲများကြောင့် (ဘယ်အကြောင်းကိုမှ ယုံကြည်မှု) မရှိလင့်။ ဤတရား (=အလုပ်၊ သို့မဟုတ် အကြောင်း) ကား ကောင်း၏။ အပြစ်ကင်း၏၊ ပညာရှိတို့ မကဲ့ရဲ့အပ်၊ သိမ်းပိုက်ယူငင်သော် စီးပွားချမ်းသာအလို့ငှာဖြစ်၏ဟု သင်တို့ကိုယ်တိုင် သိအောင်လုပ်။ ရဟန်းတို့၊ သိလျှင် ထိုတရားများကို လက်ခံကြလေ"

## ၃း၈။ သဗ္ဗညုတဟူသည်မှာ အမှား

ဗုဒ္ဓနှင့်ခေတ်ပြိုင် ဝဒ္ဓမာနကို သဗ္ဗညူ သဗ္ဗဒဿီဟု ခေါ်ဝေါ်သမုတ်ကြသည်။ ၎င်းအချက်သည် နောင်သောအခါ၌ ဗုဒ္ဓ၏ တပည့်များအပေါ်၌

လည်း ဩဇာလွှမ်းမိုးမှု ရှိသွားခဲ့လေသည်။ သို့ရာတွင် ဗုဒ္ဓကိုယ်တော်တိုင်ကမူ သဗ္ဗညုတဟူသော အယူအဆအား ဆန့်ကျင်တော်မူလေသည်။

(မဇ္ဈိမနိကာယ၊ ၂၊ ၃၊ ၁)

ဝစ္ဆဂေါတ္တက မေးလျှောက်လေ၏ "အရှင်ဘုရား၊ 'သမဏဂေါတမသည် အလုံးစုံကိုသိ၏၊ အလုံးစုံကိုမြင်၏' ဟုကြားရ၏။ (ဤသို့ပြောကြသူများသည်) . . .အမှန်ကို ပြောကြခြင်း ဖြစ်ပါသလော။ မြတ်စွာဘုရားအား . . မမှန်သော စကားဖြင့် ကဲ့ရဲ့ခြင်းဖြစ်ပါသလော . . ."

"ဝစ္ဆ ထိုကဲ့သို့ ပြောကြသူများသည် ငါ့အကြောင်းအမှန်ပြောကြသူများ မဟုတ်ကုန်။ သူတို့သည် မမှန်သောစကားဖြင့် ငါ့အား ကဲ့ရဲ့ကြခြင်းဖြစ်ပေသည် . . ."

(မဇ္ဈိမနိကာယ၊ ၂၊ ၄၊ ၁၀)

ထို့ပြင် အခြားတစ်နေရာ၌လည်း

"တစ်ပြိုင်နက်တည်း အားလုံးကိုသိသည့်၊ အားလုံးကိုမြင်သည့် (သဗ္ဗညုသဗ္ဗဒဿီဖြစ်သည့်) သမဏ ဗြာဟ္မဏဟူ၍ မရှိပေ . . ."

## ၃း၉။ နိဗ္ဗာန်

နိဗ္ဗာန်၏အနက်ကား ချုပ်ခြင်းတည်း။ ဆီမီး သို့မဟုတ် မီး၏ တောက်ကာ တောက်ကာ ချုပ်ငြိမ်းသွားခြင်းမျိုးတည်း။

ပတိစ္စသမုပ္ပန္န (ပြတ်တောက်သော အလျဉ်သဘောဖြင့်ဖြစ်သော) နာမ်ရုပ်သည် တဏှာ၏ အစေးအားဖြင့် ပေါင်းစပ်၍ ဘဝအလျဉ်တစ်ခု၏အသွင်ကိုဆောင်လျက် အလျဉ်မပြတ်ဖြစ်ပွားနေ၏။ ထိုဘဝအလျဉ် အဆုံးစွန်ပြတ်တောက်မှုသည်ပင် နိဗ္ဗာန်တည်း။ အဟောင်းဖြစ်သော ဆီ၊ မီးစာ သို့မဟုတ် ထင်းစ လောင်ကျွမ်းသွားပြီးနောက် အသစ်ဖြစ်သော ဆီ၊ မီးစာ၊ ထင်းစ ထပ်ဖြည့်မှုမရှိသဖြင့် ဆီမီး သို့မဟုတ် မီးငြိမ်းသွားသကဲ့သို့ အာသာဝ=စိတ်၏အညစ်အကြေး (ကာမာသဝ၊ ဘဝါသဝနှင့် ဒိဋ္ဌာသဝ) များ ကုန်ခန်းသွားသောအခါ ဘဝချုပ်ငြိမ်းလေတော့၏။ နိဗ္ဗာန်သည် ချုပ်ငြိမ်းမှုတည်း။ ဤသဘောကို ထိုနိဗ္ဗာနသဒ္ဒါ၏ 'သဒ္ဒါနက်' ကပင် ပြောပြနေပေ၏။

ဗုဒ္ဓသည် မိမိ၏ နိဗ္ဗာနဟူသော သဒ္ဒါအထူးကို ဤသဘောပေါ်လွင်စေရန် ရွေးချယ်ခဲ့၏။ သို့သော် နိဗ္ဗာန်ကူးသောထို (တထာဂတ) ကွယ်လွန်ပြီး

နောက် ဘယ်သို့ဖြစ်သည်ဟူသောအချက်ကို မဖြေဆိုဘဲ တစ်ပါတည်း ငြင်းဆန်ခဲ့၏။

အနုတ္တဝါဒီ အဘိဓမ္မာတွင် တထာဂတ ကွယ်လွန်ပြီးနောက် ဘယ်သို့ဖြစ်နိုင်သည်ဟူသော အချက်ကိုကား လွယ်လွယ်ကူကူနှင့်ပင်သိနိုင်ပါ၏။ သို့သော်လည်း ထိုအမှတ်အသားကား "ဗာလာန် တာသဇနက်" ပညာမရှိသောသူများအား ကြောက်လန့်စေတတ်၏။ ထို့ကြောင့် ဗုဒ္ဓက နိဗ္ဗာန်သဘောကို ပွင့်ပွင့်လင်းလင်း မဟောလိုပေ။ *(ကတ္တိဝုတ္တက၊ ၂၊ ၂၊ ၆)*

ဥဒါန်း ပါဠိတော်လာ ဆိုအပ်လတ္တံ့သော ဝါကျကို ကိုးကား၍ အချို့သောသူတို့က နိဗ္ဗာန်ကို ဘာဝသဘောရှိသော ဗြဟ္မဘုံကဲ့သို့ လုပ်ပစ်လိုကြ၏။ *(ဥဒါန၊ ၈၊ ၃)*

"အိုရဟန်းတို့ အ ဇာတိ၊ အ ဘူတ၊ အ ကတ=အ သင်္ခတ၊ သို့သော်ဤတို့သည် နိဗ္ဗာန်၏အရသာကိုခံစားတတ်သော နိစ္စ ဓုဝ အတ္တရှိပါမှသာ ပတိသေခ သဘောရှိသော ဝိသေသဖြင့် ဘာဝသဘောရှိသော နိဗ္ဗာန်ကို အခိုင်အမာလုပ်ပေးနိုင်ပေမည်"။ ဗုဒ္ဓ နိဗ္ဗာန်ဟူသည်မှာ တဏှာကုန်ရာ၊ အာသဝေါကုန်ရာဟု ဟောတော်မူ၏။ ဤထက် အလွန်ဟောလျှင် ဗုဒ္ဓသည် အဗျာကတဟူသော ပဋိညာဉ်ခံချက်ကို မထိမဲ့မြင်ပြုရာ ကျပေလိမ့်မည်။ (ဥဒါန၊ ၈၊ ၂)

ဒုဒ္ဒသံ အနတ္တံ နာမ၊ န ဟိ သစ္စံ သုဒဿနံ၊
ပတိဝိဒ္ဓါ တဏှာ ဇာနတော၊ ပဿတော နတ္ထိ ကိဉ္စနံ။

*

## ၄။ ဗုဒ္ဓအဘိဓမ္မာနှင့် ဗုဒ္ဓခေတ်လူမှုစနစ်

အဘိဓမ္မာဟူသည် ဦးနှောက်ဆိုင်ရာ ပစ္စည်းဖြစ်၏။ သို့ဖြစ်လျှင် အရိုး အသားစုပေါင်းထားသော လူ့အဖွဲ့အစည်းနှင့် အဘိဓမ္မာဘယ်ပုံ ဆက်စပ် နေသနည်း။ အဘိဓမ္မာဟူသည် စိတ်၏ မြင့်မားစွာပျံတက်ရာမျှဖြစ်သော စိတ်ကူး ကမ္ဘာမှ ထွက်ပေါ်လာသော ပစ္စည်းဖြစ်၏။ ထို့ကြောင့် အဘိဓမ္မာကို စိတ်ကူးကမ္ဘာ၏ မျက်နှာပြင်တွင် ရှုကြည့်အပ်၏။ အဘိဓမ္မာနှင့် ပတ်သက် ၍ ဤကဲ့သို့သော အယူအဆကို အရှေ့တိုင်း အနောက်တိုင်း နှစ်တိုင်းလုံး မှာပင်တွေ့ရ၏။ အရှေ့တိုင်း အနောက်တိုင်း အမှတ်အသားအားဖြင့် အဘိဓမ္မာ ဟူသည် ရုပ်ကမ္ဘာမှ လုံးလုံး သီးခြားသော ပစ္စည်းတစ်ခုဖြစ်၏။ သို့သော် ကျွန်ုပ်တို့သည် အဘိဓမ္မာဟူသည်ကား စိတ်ဖြစ်ပစ္စည်းဖြစ်သော်လည်း ရုပ်ကမ္ဘာမှ သီးခြားကင်းလွတ်နေသော ပစ္စည်းမဟုတ်ကြောင်း ဂရိတ်အဘိဓမ္မာ များတွင် တွေ့၏။ (မန) ကိုယ်တိုင် ရုပ်မှ ထွက်ပေါ်လာသော ပစ္စည်းဖြစ်၏။ ယညဝက္က၏ ဆရာဥဒ္ဒါလက အာရုဏိကလည်း 'စိတ်သည် ထမင်းအစာ ဖြင့်ပြီး၏။ (မနော အမန္နမယံ)' ဟု ရှင်းရှင်းကြီးဝန်ခံခဲ့၏။ စားအပ်သော ထမင်း၏ သိမ်မွေ့သော အစိတ်အပိုင်းသည် အပေါ်သို့တက်၏။ ထိုသည် ပင် မနဖြစ်၏။ ကျွန်ုပ်တို့ မန၏ တိုးတက်ပွင့်ကားလာမှုတွင် ကျွန်ုပ်တို့ လက်ရာ လူ့အဖွဲ့အစည်းအလိုက်၊ ပုဂ္ဂိုလ်တစ်ဦးချင်း၊ နှစ်မျိုးစလုံး၏ လက်ဖြင့် ကြိုးပမ်းမှုသည် ကြီးမားသောအစိတ်အပိုင်းအဖြစ်ပါဝင်ကြောင်း ကျွန်ုပ်တို့ ကိုယ်တိုင် တစ်နေရာတွင် (*မာနဝသမာဇကျမ်း၊ စာမျက်နှာ ၄–၆*) ဆိုခဲ့၏။ လူကဲ့သို့လူ၏ စိတ်သည်လည်း မိမိ၏ ဖန်ဆင်းမှုတွင် လူ့အဖွဲ့အစည်း၏

ကြွေးမြီများစွာ တင်ရှိနေပေ၏။ ဤကဲ့သို့သော အခြေအနေတွင် စိတ်ဖြစ် အဘိဓမ္မာအကြောင်းကို လူ့အဖွဲ့အစည်းနှင့်ချာ၍ အဘယ်မှာ ဖွင့်ပြနိုင်ပါအံ့နည်း။ ထို့ကြောင့် အရှင်လတ်လတ် မျက်လုံးကို ကိုယ်ကာယမှ ထုတ်ဆောင်၍ ကြည့်ရန်မဖြစ်နိုင်သကဲ့သို့ ထို့အတူ အဘိဓမ္မာအကြောင်းကိုသိရန် အဘိဓမ္မာ၏ ဇာစ်မြစ်နှင့် အကျိုးသက်ရောက်ပုံ အခြေအနေတွင် ကျွန်ုပ်တို့ ကြည့်ရပေတော့မည်။

ဥပနိသျှဒ်ကို ကျွန်ုပ်တို့မြင်ခဲ့ရလေပြီ။ လူ့အဖွဲ့အစည်းများ၏ အခြေအနေကို ထိန်းထားရန် ဘာသာရေး(ဝေဒိက ကမ္မကဏ္ဍနှင့်ပါဠပူဇာ)ဘက်မှ ထောက်ခံမှုကင်းလွတ်နေပြီဖြစ်ကြောင်းသိရ၍ အုပ်စိုးသူ လူတန်းစားတွင် စိုးရိမ်မှုဖြစ်ခဲ့၏။ ထို့နောက် ခတ္တိယရာဇာများသည် ဗြဟ္မဉာဏ်နှင့် ပုနဗ္ဘဝ (တစ်ဖန်သန္ဓေယူမှု)အဘိဓမ္မာကို ဖော်ထုတ်၍ အသိဉာဏ်အစွမ်းတုံးသွားရန်၊ ၎င်းပြင် လူ့အဖွဲ့အစည်းဆိုင်ရာ မညီမျှမှုများကို အနေကျသွားစေရန် ကြိုးစားကြ၏။ ဒွန္ဒနည်းဖြင့် ခွဲခြမ်းစိတ်ဖြာလိုက်က ကျွန်ုပ်တို့ မြင်ကြရပေလိမ့်မည်။

၄း၁။ ဥပနိသျှဒ်

**ဝါဒ**– ယဇ်ပူဇော်ခြင်း၊ ဝေဒဆိုင်ရာ အလုပ်ခန်း၊ ဖတ်ရွတ်ပူဇော်မှုသည် မြင့်မြတ်ခြင်း၏လမ်းတည်း။

**ပဋိဝါဒ**–ယဇ်ပူဇော်ခြင်းတည်းဟူသော လှေသည် ကူးခပ်ရန်အတွက် အလွန်အားနည်း၏။

**သံဝါဒ**– ကံအကူအညီပါသော ဗြဟ္မဉာဏ်သည် မြင့်မြတ်ခြင်း၏ လမ်းတည်း။

၄း၂။ ဗုဒ္ဓအဘိဓမ္မာ

**ဝါဒ**– (ဥပနိသျှဒ်)– အတ္တဝါဒ၊

**ပဋိဝါဒ**–(စာရိဗက်)– အတ္တမရှိ ရုပ်ဝါဒ၊

**သံဝါဒ** (ဗုဒ္ဓ)– အဘူတိက အနတ္တဝါဒ၊

ဤကဲ့သို့လျှင် တွေးခေါ်မှု ကွင်းဆက်ဖြစ်၏။ လူ့အဖွဲ့အစည်း၌ ဝေဒဆိုင်ရာ ဘာသာသည် အခြေမပျက်ထိန်းပေး၏။ ဝေဒိကဘာသာသည် စည်း

စိမ်ရှင်လူတန်းစားကို စောင့်ရှောက်ရန်နှင့် အလုပ်ကြမ်းသမား–ကျေးကျွန်နှင့် အလုပ်သမား–လူတန်းစားကို ချွန်းချိတ်ထားရန်အတွက် သွေးစွန်းထားသော လက်များဖြင့် လူထုအားချေမှုန်းရန် တည်ဆောက်ထားအပ်သော နိုင်ငံတော် (အုပ်ချုပ်ရေး) ကို အကူအညီပေးလို၏။ အကူအညီပေးမှုအတွက် ရရှိသော ဆုလာဘ်ကား ဘာသာရေးခေါင်းဆောင်များ (=ပုရောဟိတ်များ) သွေးစုပ်ပျံ ရာတွင် ဝေစုခံယူရရှိခြင်းဖြစ်ပေသည်။ သွေးစုပ်ခံရသောလူထုသည် မိမိတို့၏ လွတ်လပ်သော လူတန်းစားမဲ့စီးပွားရေးအရ ကျွန်လုပ်ခံရမှုကင်းသော ရက်များကို မေ့သလောက်ဖြစ်ခဲ့လေပြီ။

ဘာသာရေးအမှောက်အမှားထဲသို့ကျရောက်၍ သွေးစုပ်ခံလူတန်းစား သည် မိမိ၏ လက်ရှိအခြေအနေကို 'နတ်များ၏ အုပ်ချုပ်ရေး' ဟု မှတ်ထင် နေရှာလေသည်။ သွေးစုပ်ခံလူတန်းစားအား တကယ့်အုပ်ချုပ်ရေးရအောင် ပြင်ဆင်မှုအတွက် ထိုလူတန်းစားကို ဘာသာရေးအမှောက်အမှားထဲမှ လွတ် မြောက်အောင် ကယ်တင်ပေးရမည်။ ဤကား နတ္ထိကဝါဒ(ဝေဒနှင့် ပရ လောကကို လက်မခံသော) ရုပ်ဝါဒ၏ ရည်ရွယ်ချက်တည်း။

ဗြာဟ္မဏများ(ပုရောဟိတ်များ)သည် မိမိတို့၏ လျှို့ဖွယ်ဝတ္ထုများကို စုဆောင်းရာတွင် ယစ်မူးပျော်ပါးနေကြ၏။ အောက်တန်းစားကျေးကျွန်နှင့် အလုပ်သမားများအား သူတို့က အရေးမလုပ်ကြပေ။ ရာစုနှစ်ပေါင်းများစွာမှ ဆင်းသက်လာသော ကံတရားဘာသာရေးတရားများကို ဗြာဟ္မဏများက လူ တန်းစားသွေးစုပ်မှု၏ လက်နက်ကိရိယာမျှမက တကယ့်အထည်ကိုယ် အမာခံကြီးအနေ မှတ်ထင်လာကြလေသည်။ ထို့ကြောင့် ဗြာဟ္မဏများက ပြောင်းလွဲမှုကို မနှစ်သက်ကြပေ။ ခတ္တိယများ(=အုပ်စိုးသူများ)သည် အမာခံ ကမ္ဘာကြီးနှင့် ငင်းကမ္ဘာကြီးကို လှည့်ပတ်ပစ်နိုင်၍ နားလည်မှုအရည်အချင်း ရှိသော သွေးစုပ်ခံလူတန်းစား၏ သဘာဝနှင့်အရည်အချင်းကို များစွာ သိရှိ ကြ၏။ ဗြာဟ္မဏများသည် အခက်အခဲများကို လက်တွေ့ခံစားခဲ့ရ၍ ဘာ သာရေးကျော့ကွင်းကို ခိုင်ခံ့စေရန် ဗြဟ္မဝါဒနှင့်ဘဝသစ်ဝါဒကို ဘာသာရေး တရားတွင် ဆက်တွဲပေးခဲ့လေသည်။

အစတွင် ပုရောဟိတ်လူတန်းစားသည် ဤကဲ့သို့ ဝါဒသစ်များ ဆက် တွဲပေးခြင်းကြောင့် အဘယ်မျှ စိတ်ဆိုးကြကြောင်း ပဲ့တင်သံကို ဧဒမိနှင့်

ကုမာရိလ၏ 'မိမံသာ ဒဿန'တွင် ကျွန်ုပ်တို့ တွေ့ရပေလိမ့်မည်။

ဇေမိနီနှင့် ကုမာရိလတို့ကား ဗြဟ္မ (ပုဂ္ဂိုလ်) နှင့် ဗြဟ္မဉာဏ်အားလုံးကို ငြင်းဆန်ကြသော ပုဂ္ဂိုလ်များပေတည်း။ ဝေဒသည် ပုဂ္ဂိုလ်တစ်ဦးဦးက ပြုလုပ်ထားသော အရာမဟုတ်။ ဝေဒကို အဘယ်သူမျှ မပြုလုပ်နိုင်။ ဝေဒသည် သဘာဝကဲ့သို့ သယံဇာတဖြစ်၏။ ဝေဒ၏ အစီအရင်ကား ကမ္မဖလနှင့် ပရလောက၏အာမခံတည်း။ ဝေဒသည် ကျမ်းများကိုသာ စီရင်၏။ ထိုစီရင်သော ဝါကျများကို အခိုင်အမာပြုရာ၌ အတ္တဝါဒ (=ကဲ့ရဲ့ခြင်း၊ ချီးမွမ်းခြင်း) အနေအားဖြင့် ကျန်သော သံဟိတာ၊ ဗြာဟ္မဏ၊ ဥပနိသျှဒ်တို့၏ အဆိုအမိန့်အားလုံးရှိ၏။ သို့သော် ပထမ ရိုက်နှက်လိုက်သော ဒဏ်ချက်ကြောင့် ဝေဒကျမ်းလာ ကမ္မကဏ္ဍသည် ချမ်းသာရာ မရနိုင်တော့ပေ။

ကောဋိလျ၏ အတ္တသျှတ္တရာကျမ်းအရ လောကာယတ (=ရုပ်–နတ္ထိက) ဝါဒသည် အုပ်စိုးသူများအတွင်း၌လည်း အတွင်းကျကျမြတ်နိုးခြင်းခံရပေ၏။ သို့သော်လည်း ၎င်းတို့အား ခေတ်အားလျော်စွာ အခြားအမြင်တစ်မျိုးအားဖြင့် မိမိ၏ထာဝရပုဂ္ဂလိက အကျိုးအတွက်သာ အမှတ်အသားပြုလျက် လူ့အဖွဲ့အစည်းအတွင်း ဘာသာရေးဝါဒတိုင်းကို လွတ်လွတ်လပ်လပ်ပြောင်းလဲပစ်ချင်နေကြသူများဖြစ်၏။ လူအများ၏ ဘာသာရေးဆိုင်ရာ မှားယွင်းစွာယုံကြည်မှုများမှ အထူးအဆန်းလုပ်ပြပေးခြင်းအားဖြင့် ရွှေတိုက်တော်နှင့် စစ်တပ်ကို တိုးချဲ့လာနိုင်ကြောင်း ၎င်းကျမ်းတွင် အတိအလင်း အကြံပေးရေးသားခဲ့၏။

'ဒသကုမာရစရိတ'ခေတ်တွင် (ခရစ်နှစ် ၆ ရာစု) နိုင်ငံတော်သူလျှိုများသည် ဘာသာရေး 'အပြစ်ကင်းသောအသွင်' ကို ရဲရဲတင်းတင်းအသုံးပြုကြ၏။ ဤနည်းကို အသုံးပြုသောစာဏကျနှင့်.၎င်းအရင်ကျသော အုပ်စိုးသူများလည်း ရဲရဲတင်းတင်းပြုလုပ်ကြ၏။ ဤအချက်တွင် သံသယဖြစ်ဖွယ် မလိုပေ။

သို့သော် အုပ်စိုးသူ လူတန်းစားသည် ရုပ်ဝါဒကို မိမိတို့အကျိုးအတွက် အသုံးချ၏။ 'ဣဏ်ကတွယတံပိဝေ'(=ကြွေးယူ၍ ထောပတ်သောက်) မည့်နိမ့်ကျသော ရည်ရွယ်ချက်မျှသာ ရှိ၏။ ထိုရုပ်ဝါဒကိုပင် သွေးစုပ်ခံအလုပ်သမားလူတန်းစားအတွက် အသုံးပြုသောအခါ ၎င်းရုပ်ဝါဒ၏ ရည်ရွယ်

ချက်သည် ပုဂ္ဂလိက ကိုယ်ကျိုးမဟုတ်တော့ပေ။ ထိုအချိန်တွင် မိမိ၏ လုပ်ခကို မိမိကိုယ်တိုင်သုံးဆောင်ရန် တောင်းဆိုလာ၏။ သွေးစုပ်မှုကို ရပ်ဆိုင်းသွားအောင် ပြုလုပ်ပစ်ချင်လာ၏။

ဗုဒ္ဓ၏ အဘိဓမ္မာသည် မိမိ၏ မူလရင်းသဘော–ပဋိစ္စသမုပ္ပာဒ် (ခဏိကဝါဒ) အားဖြင့် အကြီးအကျယ်တော်လှန်သော အဘိဓမ္မာတစ်ရပ်ဖြစ်၏။ လောက၊ လူ့အဖွဲ့အစည်း၊ လူအားလုံးကို ဗုဒ္ဓက ခဏတိုင်း ပြောင်းလဲနေသည်ဟု ကြွေးကြော်ခဲ့၏။ ၎င်းနောက် ဘယ်သောအခါမှ နောက်ကြောင်းမပြန်ဘဲ "ငါတို့၏ နေ့ရက်များကုန်လွန်ခဲ့လေပြီတကား"ဟူသော နောင်တတဖန်ပူပန်ခြင်းကို ပယ်စွန့်၍ ပြောင်းလဲမှုအားလျော်စွာ မိမိလုပ်ငန်း၊ မိမိလူ့အဖွဲ့အစည်းပြောင်းလဲရေးအတွက် အချိန်တိုင်း အသင့်ရှိနေဖို့ ညွှန်ကြားချက်ပေးခဲ့လေသည်။ ဗုဒ္ဓသည် မိမိ၏အကြီးဆုံးသော အဘိဓမ္မာအယူအဆများ(ဓမ္မ)ကိုလည်း ဖောင်နှင့်တူစွာ ၎င်းမှ အကျိုးရအောင် သက်သက်သာ ဟောတော်မူခဲ့၏။ အကျိုးရပြီးနောက်လည်း ထမ်းပိုးထားခြင်းကို ကဲ့ရဲ့ရှုတ်ချတော်မူခဲ့၏။

သို့သော်လည်း ဤတော်လှန်သော အဘိဓမ္မာသည် မိမိအတွင်း၌ရှိသော "လူမှုရေးတိုးတက်မှုအဟန့်အတား" ဖြစ်စေသည့် သဘောတရား (ဓမ္မ) များကို ဖယ်ရှားမပေးပေ။ တမလွန်ဘဝ၌ ပြန်လည်မွေးဖွားမှုနှင့်ပတ်သက်၍ ဗုဒ္ဓ သည် မြဲသောအတ္တ၏ ကိုယ်ကာယတစ်ခုမှ အခြားကိုယ်ကာယတစ်ခုသို့ ပြောင်းရွှေ့ခြင်းသဘောကို လက်မခံသော်လည်း အခြားပုံစံတစ်မျိုးဖြင့် သဘောကို လက်ခံလေသည်။ ဤကိုယ်ကာယ၌ 'ဘဝ'သည် ပြတ်သောအလျဉ် (ပျက်ခြင်း–ဖြစ်ခြင်း–ပျက်ခြင်း–ဖြစ်ခြင်း) ၏ အသွင်ဖြင့် တစ်ခုတည်းအဖြစ်ကို တည်ဆောက်ထားအပ်ပေ၏။ ထိုနည်းအတူပင် ဘဝသည် ကိုယ်ကာယဆုံးသွားသော်လည်း ဆက်လက်ရှိနေပေလိမ့်မည်။ ဘဝသစ်၌ ပြန်လည်မွေးဖွားမှု၏ အဘိဓမ္မာသဘောကို ပို၍အင်အားတောင့်တင်းစေပြီးလျှင် ဗုဒ္ဓသည် ဘဝသစ်၏ ဘဝသစ်ကို ပတိသန္ဓေအဖြစ်ဖြင့် ပြုလုပ်လေသည်။ ဆိုလိုရင်းကား–ပျက်ခြင်းနှင့်ဖြစ်ခြင်းကို သန္ဓေ (ကွင်းဆက်) ဖြင့် ဆက်စပ်၍ ဘဝအလျဉ်သည် ဤကိုယ်ကာယ၌ သွားသကဲ့သို့ ထိုနည်းအတူ ထိုဘဝအလျဉ်၏ ပတိသန္ဓေ (အဆက်အစပ်) သည် ကိုယ်ကာယတစ်ခုမှ နောက်

ကိုယ်ကာယတစ်ခု၌ဖြစ်လေသည်။ ဖောက်ပြန်ပြောင်းလဲခြင်းမရှိသော အမာခံ အတ္တ၌ ယခင်က သင်္ခါရတရားများကိုထားရန် နေရာမရှိသော်လည်း ခဏ တိုင်းခဏတိုင်းပြောင်းလဲနေသော ဝိညာဏ် (ဇီဝိန်) ၌ ၎င်း၏ ဝါသနာ သို့ မဟုတ် သင်္ခါရ၏ အဖြစ်ဖြင့် မိမိ၏အင်္ဂါအစိတ်ပိုင်းဖြစ်ပြီး ဆက်လက် သွားရာ၌ မည်သို့သော အခက်အခဲမျှ မရှိပေ။ ခဏိကသဘောသည် ကမ္ဘာ လောက၏ အဓိပ္ပာယ်ဖွင့်အတွက် လုံလောက်ပေသည်။ သို့ရာတွင် ဣဿရ (ထာဝရဘုရားသခင်) ၏ အလုပ်သည် ကမ္ဘာလောက၌ စည်းစနစ်၊ လူ့ လောက၌ စည်းစနစ် (အဖိနှိပ်ခံအား ပုန်ကန်တော်လှန်ခြင်းမှ တားမြစ်ရန် ကြိုးပမ်းခြင်း) ကို ဖန်တီးရန်လည်း ဖြစ်ပေသည်။ ဗုဒ္ဓသည် ကမ္မဝါဒကို ပိုပြီး အင်အားရှိအောင် ပြုလုပ်ခဲ့လေသည်။ သံသရာ၌ ကျင်လည်ရခြင်း၊ ချမ်း သာဆင်းရဲ ကွဲပြားခြားနားမှုတို့သည် သင်ကိုယ်တိုင် တစ်ခါက ပြုခဲ့ဖူး သည့် ကံကြောင့် ဖြစ်လေသည်။ သို့ရာတွင် ယနေ့ ထိုကံသည် သင့်အတွက် လက်မှလွှတ်လိုက်သော မြားဖြစ်လေသည်။

ယင်းသို့အားဖြင့် ဗုဒ္ဓ၏ ပတိစ္စသမုပ္ပာဒ်ကိုကြည့်လျှင် တစ်ဖက်၌ ထိုခေတ်အုပ်စိုးသူ၊ တန်ခိုးရှိသူ လူတန်းစားတို့ ထိတ်လန့်စိုးရွံ့ခြင်း ဖြစ်ကြ သော်လည်း အခြားတစ်ဖက်၌မူ ပတိသန္ဓေနှင့် ကမ္မဝါဒသည် ၎င်းတို့အား လုံးလုံးဆုံးဖြတ်ပေးခဲ့လေ၏။ ထိုအကြောင်းကြောင့်ပင် ဗုဒ္ဓ၏ အလံတော် အောက်၌ ဘုရင်များ၊ ဧကရာဇ်များ၊ သူဌေးသူကြွယ်များ ရောက်လာခြင်းကို လည်းကောင်း၊ အိန္ဒိယ၏အပြင်ဘက် သီဟိုဠ်၊ တရုတ်၊ ဂျပန်၊ တိဗက်၌မူ ဗုဒ္ဓ၏ တရားဓမ္မကို ဖြန့်ဖြူးရာ၌ ဘုရင်တို့သည် ရှေ့ဦးစွာ ရှေ့တန်းသို့ တိုး လာကြသည်ကိုလည်းကောင်း၊ ကျွန်ုပ်တို့ တွေ့ရခြင်းဖြစ်လေ၏။ ထိုတရား ဓမ္မသည် လူမှုတော်လှန်ရေးအတွက်မဟုတ်၊ လူမှုအခြေအနေကို တည်ရှိ နေစေရန်အတွက် ကြီးစွာသော အထောက်အပံ့ဖြစ်လိမ့်မည်ဟု ၎င်းတို့က သိရှိနားလည်ကြပေသည်။ အမျိုးဇာတ်များ၊ တိုင်းပြည်နိုင်ငံများ၏ ဘောင် များ၊ နယ်စပ်များကို ချိုးဖောက်ပြီး ဗုဒ္ဓ၏ အယူအဆများသည် နိုင်ငံကျယ် ပြန့်မှု ပြုရာ၌ မျက်မှောက် သို့မဟုတ် မျက်ကွယ် အနေအားဖြင့် များစွာ အကူအညီ အထောက်အပံ့ပေးလေသည်။ လူ့လောက၌ စီးပွားရေးမတူညီ မမျှတမှုကို မဖျောက်ဖျက်ပစ်ဘဲနှင့်ပင် ဗုဒ္ဓသည် အသွေးအရောင်ခွဲသည့် စနစ်၊

ဇာတ်နိမ့်ဇာတ်မြင့်သဘောတို့ကို ဖယ်ရှားပစ်လိုတော်မူသည်။ ယင်းသို့ ပြုလုပ်ခြင်းကြောင့် တကယ့်တကယ်ဖြစ်နေသော မတူညီ မမျှတမှုမှာမူ ပျောက်ကွယ်မသွားပေ။ သို့ရာတွင် အောက်တန်းလွှာမှ လူတန်းစားများ၏ အာရုံ သည် အမှန်မုချပင် ဗုဒ္ဓဘာသာဘက်သို့ ပိုမိုညွတ်ယိမ်းလာလေ၏။ လူတန်းစားအမြင်ဖြင့် ကြည့်လျှင် ဗုဒ္ဓဘာသာသည် ကြားဝင်ဖျန်ဖြေသူ အနေမျိုးဖြင့် ရှိနေသည်။ ၎င်းသည် လူတန်းစား၏ နဂိုကိုယ်ကျိုးကိုယ့်စီးပွားကို မပယ်ဖျောက်ဘဲနှင့် မိမိကိုယ်ကို တရားမျှဘက်သားအဖြစ် ပြလိုပေသည်။

သိဒ္ဓတ္ထဂေါတမသည် မိမိ၏ အဘိဓမ္မာအသွင်မျိုးဖြင့် အဘယ်ကြောင့် မစဉ်းစား မတွေးခေါ်လျှင် မဖြစ်သည့်အခြေသို့ ရောက်ခဲ့သနည်း။ ထိုကိစ္စအတွက် ၎င်း၏ပတ်ဝန်းကျင်ရှိ ရုပ်ပိုင်းအခြေအနေများ ဘယ်အထိ အကြောင်းတရားများဖြစ်ကြသနည်း။ ယင်းပြဿနာများပေါ်ပေါက်လာနိုင်ပေသည်။ သို့ရာတွင် ကျွန်ုပ်တို့ သတိပြုသင့်သည်မှာ ပုဂ္ဂိုလ်၏ အပေါ်၌ လူ့လောက၏ လိုအပ်သော အရာတစ်ခု၏ အသွင်ဖြင့် ကျရောက်လွှမ်းမိုးသော ရုပ်အခြေအနေ၏ ဩဇာသည် တစ်ခါတစ်ရံတွင် ပုဂ္ဂိုလ်၏ ထူးခြားသော အရုပ်မျက်နှာပြောင်းလဲခြင်း၌ အကူအညီအထောက်အပံ့ဖြစ်တတ်လေသည်။ ပထမအမြင်ဖြင့် ဗုဒ္ဓ၏အဘိဓမ္မာကို ကျွန်ုပ်တို့ လွှမ်းမိုးမှုရှိသလောဟူသည့်အချက်နှင့် ပတ်သက်၍လည်း စဉ်းစားဆင်ခြင်ကြည့်သင့်ပေသည်။ ဗုဒ္ဓသည် ကိုယ်ကာယအနေအားဖြင့် အလွန်ကျန်းမာသန်စွမ်းသူဖြစ်လေသည်။ စိတ်အနေအားဖြင့် ဗုဒ္ဓသည် ငြိမ်သော၊ နက်နဲသော၊ ထက်မြက်သော ဉာဏ်ပဋိဘာန်ရှိသည့် အတွေးအခေါ်သမား ဖြစ်လေသည်။ အရည်အချင်းများစွာရှိသော ကိုယ့်ကိုယ်ကိုယ် ယုံကြည်စိတ်ချသူ ပုဂ္ဂိုလ်တစ်ဦးတစ်ယောက်တွင် ရှိသင့်ရှိအပ်သော ရည်မှန်းချက်မျိုးသာ ဗုဒ္ဓတွင်ရှိလေသည်။ ဗုဒ္ဓသည် မိမိအဘိဓမ္မာ အတွေးအခေါ်များ၏ အမှန်တရားအပေါ်၌ အပြည့်အဝ ယုံကြည်ချက်ထားလေသည်။ ပတိစ္စသမုပ္ပာဒ်၏ အရေးကြီးပုံကို ကောင်းစွာသဘောပေါက်တော်မူသည်။ တစ်ပြိုင်နက်တည်းမှာပင် အစပထမတွင် ဗုဒ္ဓသည် မိမိ၏အယူအဆများကို ဖြန့်ဖြူးရန်စိတ်ပါဝင်စားမှုမရှိခဲ့ပေ။ အကြောင်းမှုကား ထိုခေတ်ကာလ၏ အတွေးအခေါ်များကို ကြည့်ပြီးအားတက်မှုမရှိသောကြောင့်တည်း။ သူ၏ အတွေးအခေါ်များနှင့် ထိုခေတ်သမယရှိ အုပ်စိုးသူ၊ တန်ခိုးရှိသူ လူ

တန်းစားတို့၏ အကြားတွင်နားလည်မှုရရှိစရာ အကွက်ရှိသည်ဟု သိသေးဟန်မတူခဲ့ပေ။

အနိစ္စ၊ အနတ္တမှတစ်ပါး ဒုက္ခဝါဒသည်လည်း ဗုဒ္ဓအဘိဓမ္မာ၏ အသွင်တစ်ရပ်ဖြစ်လေသည်။ ယင်းဒုက္ခဝါဒ၏ အကြောင်းကို အကယ်၍ ထိုခေတ်က လူ့လောကနှင့် ဗုဒ္ဓ၏ မိမိအခြေအနေ၌ ရှုကြည့်လျှင် သိရမည်မှာ ဗုဒ္ဓသည် သူငယ်အရွယ်ကပင် အမိနှင့် ကွဲကွာရခြင်း ဒုက္ခကို ခံခဲ့ရလေသည်။ သူ၏မိထွေးတော်ပဇာပတိ၏ ချစ်ခြင်းမေတ္တာကမူ သိဒ္ဓတ္ထအပေါ်တွင် မသေးငယ်ခဲ့ပေ။ နန်းတော်၌ သိဒ္ဓတ္ထသည် မည်ကဲ့သို့သော ဒုက္ခမျိုးကိုခံရမည်ကိုမှ မသိရပေ။ ကြေးရတတ်သားသမီးတစ်ဦးတစ်ယောက် ရရှိခံစားအပ်သော စည်းစိမ်ဟူသမျှကို သူသည်မကြောင့်မကြရရှိခဲ့လေသည်။ သို့ရာတွင် လူ့လောက၌ဖြစ်ပေါ်သော အဖြစ်အပျက်များသည် အရှိန်ပြင်းစွာဖြင့် သူ့အပေါ်တွင် ဩဇာလွှမ်းမိုးခဲ့လေသည်။ သူအို၊ သူနာ၊ သူသေကို တွေ့မြင်ရခြင်းကြောင့် စိတ်ထဲတွင် ငြီးငွေ့ခြင်းဖြစ်ပေါ်လာမှုမှာ ယင်းသဘောကို ခိုင်မြဲစေခဲ့လေသည်။ ဒုက္ခ၏ အမှန်သဘောတရားကို နှလုံးတွင် စွဲသွားစေသည်မှာ ယင်းအမြင်သုံးမျိုးသာလျှင်မကပေ။ ထိုထက်ပိုလွန်ပြီး လူသားတို့၏ ကျေးကျွန်ဘဝနှင့် ဆင်းရဲချို့တဲ့ခြင်းများသည် ဗုဒ္ဓအားဒုက္ခ၏ အမှန်တရားကို ထင်ရှားသွားစေရာ၌ အကူအညီအထောက်အပံ့ပေးကြလိမ့်မည်ဖြစ်ပေသည်။ ထိုအကြောင်းနှင့်စပ်လျဉ်း၍ ပြောပြထားချက်ကိုမူ ကျွန်ုပ်တို့ မရရှိပေ။ ၎င်း၏အကြောင်းမှာ ထင်ရှားပြတ်သားလှပေသည်။ ဗုဒ္ဓသည် ဆင်းရဲခြင်းနှင့် ကျေးကျွန်အဖြစ်အား ပယ်ဖျောက်ပစ်ခြင်းကို မိမိ၏လုပ်ငန်းစဉ်၏ အင်္ဂါအစိတ်အပိုင်းတစ်ရပ်အဖြစ် ပြုလုပ်တော်မမူခဲ့ပေ။ အစဦးနေ့များ၌ ဆင်းရဲခြင်းနှင့် ကျေးကျွန်ဘဝ၏ ကြောက်မက်ဖွယ်ကို အနည်းငယ်ပေါ့ပါးသွားစေရန် ပြုလုပ်လိုသည့် သဘောထားသည် ဗုဒ္ဓဘာသာ၌ ရှိခဲ့လေသည်။ ကြွေးမြီငှားစားသူတို့သည် ထိုခေတ်က ဥစ္စာပစ္စည်းမပေးနိုင်သူရှိလျှင် ကိုယ်ကာယကိုပင် ဝယ်ယူနိုင်သည့် အခွင့်ရှိခဲ့လေသည်။ သို့ဖြစ်၍ များစွာသော ကြွေးမကင်းသူတို့သည် ခိုးကိုးရာရရှိရန်အတွက် ရဟန်းပြုလုပ်ကြလေ၏။ သို့ရာတွင် ကြွေးရှင်သူဌေးများ၏ ဆန့်ကျင်မည့်အန္တရာယ်ရှေ့မှောက်ရောက်လာသောအခါ၌ ဗုဒ္ဓက ကြေညာတော်မူ၏။ (မဟာဝဂ္ဂ၊ ၁၊ ၃၊ ၄၊ ၅)

"ကြွေးမကင်းသူအား ရဟန်းပြု မပေးရ"

ထိုနည်းအတိုင်းပင် ကျေးကျွန်များ ရဟန်းပြုကြခြင်းကြောင့် မိမိအကျိုး ထိခိုက်သည်ကို တွေ့ရသော ကျေးပိုင်ကျွန်ပိုင်များ ဆူပွက်ကြသောအခါ ဗုဒ္ဓက ကြေညာတော်မူ၏။ (မဟာဝဂ္ဂ ၁၊ ၃၊ ၄၊ ၉)

" ရဟန်းတို့ ကျေးကျွန်ဖြစ်သူတို့အား ရဟန်းပြုမပေးရ"

ဗုဒ္ဓတပည့်တကာဖြစ်သူ မဂဓဘုရင် ဗိမ္ဗိသာရ၏ တပ်သားများ စစ်တိုက်သွားရမည့်အစား ရဟန်းပြုကြသောအခါ စစ်ဗိုလ်မှူးနှင့် ဘုရင်မင်းကြီးတို့သည် ပျာယာခတ်သွားကြ၏။ တိုင်းနိုင်ငံ၏ တည်တံ့မှုမှာ စစ်တပ်အင်အားအပေါ်၌သာ မှီနေသည် မဟုတ်လော။ ဗိမ္ဗိသာရက ဘုရင့်တပ်သားအား ရဟန်းပြုပေးသူသည် မည်သည့်အပြစ်ဒဏ်ထိုက်သနည်းဟု မေးသည့်အခါ အရာရှိများက အဖြေပေးကြလေ၏။ (မဟာဝဂ္ဂ ၁၊ ၃၊ ၄၊ ၂)

"အရှင်မင်းကြီး၊ ထိုပုဂ္ဂိုလ် (ဆရာ) ၏ ဦးခေါင်းကိုဖြတ်သင့်လေသည်။ အနုသာသက (ရဟန်းလောင်းဆုံးမသူ) ၏ လျှာကို ထုတ်ပစ်သင့်လေသည်။ ဂဏ (သံဃာ) ကို အပြင်းအထန် ရိုက်နှက်သင့်လေသည်"

ဗိမ္ဗိသာရဘုရင်သည် ဗုဒ္ဓ၏အထံတော်သို့သွား၍ အပြစ်တင်လျှောက်ထားသောအခါ ဗုဒ္ဓက ကြေညာတော်မူသည်။ (မဟာဝဂ္ဂ)

" ရဟန်းတို့ ဘုရင့်တပ်သားများကို ရဟန်းပြုမပေးရ"

ယင်းသို့အားဖြင့် ဒုက္ခသစ္စာကို မျက်မှောက်ပြုခြင်းကြောင့် ဒုက္ခ၏ အကြောင်းများကို ကမ္ဘာလောက၌ ဖယ်ရှားပစ်ရန်ဟူသော ပြဿနာမှာမူ အဆုံးသတ်သွားလေ၏။ ၎င်း၏ စိတ်ပိုင်းဆိုင်ရာ တန်ဖိုးသာလျှင် ကျန်ရှိပေတော့၏။ စည်းစိမ်ရှင်၊ ခေ့ရှင်လူတန်းစားအတွက် ဗုဒ္ဓ၏အဘိဓမ္မာသည် အဆိပ်အစွယ်မဲ့သော မြွေကဲ့သို့ ဖြစ်သွားပေတော့၏။

အားလုံးကို ခြုံကြည့်လျှင် ထိုခေတ်က ကျွန်စနစ်နှင့် ဆင်းရဲချို့တဲ့ခြင်းများသည် ဗုဒ္ဓ၏ ဒုက္ခသစ္စာ သိရှိသဘောပေါက်မှု၌ အကြောင်းတရားဖြစ်ကြသည်ကို ကျွန်ုပ်တို့ပြောဆိုနိုင်ပေသည်။ ဒုက္ခကို ဖယ်ရှားဖျောက်ဖျက်မနိုင်

သည်ဟူသောအချက်ကို သိရှိနားလည်တော်မူသော ဗုဒ္ဓသည် ပဋိစ္စသမုပ္ပာဒ်သို့ ရောက်ရှိလာခဲ့လေ၏။ ခဏိကနှင့် "ဟေတုပဘာဝ"ဖြစ်ခြင်းကြောင့် ၎င်း၏ အပြီးသတ်မှုဖြစ်နိုင်လေသည်။ ကမ္ဘာလောက၌ ထင်ရှားစွာမြင်ရသော ဒုက္ခအကြောင်းများကို ဖယ်ရှားပစ်ခြင်းငှာ မစွမ်းနိုင်ဟု သဘောပေါက်သော ဗုဒ္ဓသည် ၎င်း၏ လောကမှ အပဖြစ်သော အဓိပ္ပာယ်ဖွင့်ကို ဖွင့်ပြတော်မူခဲ့လေသည်။

* * *

## ၁။ လူမှုရေးအခြေအနေ

ဗုဒ္ဓဖွားတော်မမူမီကလေးတွင်ပင် အိန္ဒိယပြည်မြောက်ပိုင်းရှိ ပဒေသရာဇ်များသည် နိုင်ငံချဲ့ရန် စစ်ပြင်ဆင်စ ပြုလာကြလေသည်။ ကောသလဘုရင်က ကာသိဇနပုဒ်ကို အုပ်လိုက်သည်မှာ မကြာလှသေးပေ။ နှစ်ပေါင်း ၆၀–၇၀ (လူ့အဆက် နှစ်ဆက် သုံးဆက်) လောက်သာ ရှိပေလိမ့်ဦးမည်။ ဗုဒ္ဓလက်ထက်တော်တွင်လည်း ဗိမ္ဗိသာရမင်းက အင်္ဂတိုင်းကို မဂဓတိုင်းထဲသို့ ထည့်သွင်းပေါင်းစပ်လိုက်သည်။ ထိုစဉ်အခါက ဝိန္ဓျတောတန်းတွင်တည်ရှိသော မဂဓတိုင်း၏ နယ်နိမိတ်သည် အဝန္တိ(ဥဇ္ဇေနီ)တိုင်းနှင့်သွား၍ စပ်လေသည်။ ဝစ္ဆ(ကောသမ္ဗီ–ဣလဟာဗာဒ်)တိုင်း၏ဘုရင်မှာလည်း ထိုစဉ်အခါက ယဉ်ကျေးသော အိန္ဒိယပြည်ရှိ အုပ်ချုပ်ရေးသမား အကြီးစားများတွင် ပါဝင်၏။ ကောသလ၊ မဂဓ၊ ဝစ္ဆ၊ အဝန္တိအပြင် လိစ္ဆဝီ(ဝေသာလီ)တို့၏ ပြည်သူ့အုပ်ချုပ်ရေးကား ပဋ္ဌမမြောက်အင်အားကြီးမားလေသည်။

အရိယလူမျိုးများသည် နယ်ပယ်များကို အောင်ပွဲဆင်ကာ လူစု(ဇန)များ အနေဖြင့် တစ်ခုစီတစ်ခုစီ နေရာတည်ထောင်နေကြသည်။ အရိယလူမျိုးတို့၏ ရွာသစ်၊ နေရာသစ်များသည် ရှေးယခင်က နေထိုင်လာခဲ့ကြသော လူမျိုးများနှင့်သော်လည်းကောင်း၊ အရိယလူစုများကိုယ်တိုင် အခြားအရိယလူစုများနှင့်သော်လည်းကောင်း၊ သွေးထွက်သံယို တိုက်ခိုက်ခဲ့ကြခြင်းဖြင့် ခိုင်မာတောင့်တင်းခဲ့လေသည်။

ရာစုနှစ်ပေါင်းများစွာ ဘုရင့်အုပ်ချုပ်ရေး၊ အချို့ပြည်သူ့အုပ်ချုပ်ရေး အသွင်အားဖြင့် (ဇန)လူစုများ ဆင်းသက်လာခဲ့ကြလေသည်။ ဥပနိသျှဒ်ခေတ်

တွင်လည်း ဇနကို တွေ့နိုင်ပေသည်။ သို့သော်လည်း "လူစုအုပ်ချုပ်ရေး" အသွင်ကနည်းနည်း၊ "ပဒေသရာဇ်အုပ်ချုပ်ရေး"အသွင်ကများများ ဖြစ်ပေသည်။

ဗုဒ္ဓလက်ထက်တွင် ဇန(လူစု)တို့၏နယ်များ ကျိုးပေါက်သွားလေတော့သည်။ ထို့နောက် ကာသီ–ကောသလ၊ အင်္ဂ–မဂဓ ကဲ့သို့သော ဇနပုဒ်များပေါင်းစပ်၍ နိုင်ငံကြီးတစ်ခု ဖြစ်လာလေသည်။ ကုန်သည်လူတန်းစားက ကုန်ကူးသန်းရောင်းဝယ်ရေးနယ်ပယ်တွင်ရှိသော အဆိုပါ နယ်နိမိတ်များကို စ၍ ချိုးဖောက်ခဲ့လေသည်။ တစ်နိုင်ငံတည်းမဟုတ်။ နိုင်ငံပေါင်းများစွာနှင့် ကူးသန်းရောင်းဝယ်ရေးအဆက်အသွယ်ရှိနေခြင်းကြောင့် လွတ်လပ်သော ဇနပုဒ်ကလေးများ သူ့ဟာနှင့်သူ ရှိနေကြသည့်နေရာတွင် နိုင်ငံကြီးများ တည်ဆောက်ရေးကို ကုန်သည်များက သူတို့အကျိုးကို သူတို့ ကြည့်၍ အကူအညီမပေးဘဲ မနေနိုင်အောင် ဖြစ်ခဲ့ရလေသည်။ မဂဓတိုင်းဇနဥ္စသူဌေး(ဝိသာခါ၏ဖခင်)သည် သာကေတ(အယိုဈာ)၌ အဆောက်အဦးကြီးတစ်ခု ဆောက်လုပ်ခဲ့လေသည်။ ကုန်သည်များက သူတို့၏ ကုန်ပစ္စည်း၊ ဘုရင်များက သူတို့၏ စစ်တပ်များဖြင့် ဇနပုဒ်များ၏ နယ်နိမိတ်များကို ချိုးဖောက်ခဲ့လေသည်။ ထိုစဉ်အခါက အဘိဓမ္မာသဘောတရား၊ သို့မဟုတ် ဘာသာရေးအယူအဆများကို နယ်ပယ်ချိုးဖောက်မှုတွင် အကူအညီပေးသည် ဖြစ်၍ တွင်တွင်ကျယ်ကျယ်ဖြန့်ဖြူးရမည်မှာ မလွှဲမရှောင်သာသော ကိစ္စတစ်ရပ်ဖြစ်ပေသည်။ ဗုဒ္ဓဘာသာသည် ဤကိစ္စတွင် ပါဝင်ကူညီခဲ့လေသည်။ သို့သော် စေတနာပါ၍ ငွေထုပ်နှင့် ဘုရင့်လက်ဝယ်သို့ ရောင်းစားခြင်းကား ဟုတ်ချင်မှ ဟုတ်ပေမည်။

ဗုဒ္ဓ ပရိနိဗ္ဗာန်စံပြီးနောက် ၃ နှစ်ကြာသောအခါ (၄၈၀ ဘီစီ) အဇာတသတ်မင်း (မဂဓ)သည် လိစ္ဆဝီတို့၏ ပြည်သူ့အုပ်ချုပ်ရေးကို အစတုံး စီရင်လိုက်လေသည်။ အဇာတသတ်မင်းသည် သူ၏လက်ထက်မှာပင် နိုင်ငံတော်၏ နယ်နိမိတ်ကို ကောသီမြစ်မှ ယမုနာမြစ်အထိ ချဲ့ခဲ့လေသည်။ မြောက်သို့အလား ဟိမဝန္တာ၊ တောင်သို့အလား ဗိန္ဓျတောအထုချဲ့လေသည်။

ဇနပုဒ်များ၊ ဇာတ်များ၊ အရောင်များ၏ နယ်နိမိတ်သတ်မှတ်ထားခြင်းကို မလိုလားသော ဗုဒ္ဓ၏ အဆုံးအမတော်များသည် ဤနယ်နိမိတ်သတ်

မှတ်ခြင်းကို မလိုလားသော ခေတ်ပြိုင်အခြားဘာသာရေးခေါင်းဆောင်(၆) ဦး၏ အဆုံးအမများနှင့် တူမျှသော်လည်း အဆိုပါ အဆုံးအမများနှင့်တကွသော ဗုဒ္ဓ၏အယူအဆများက ပညာရေးသမားများကို ပို၍ ဆွဲငင်နိုင်ပုံရပေသည်။ လွန်ခဲ့သော အဘိဓမ္မာအစဉ်၏ နောက်ဆုံးပိတ်အသွင်ဖြစ်သောကြောင့် ဗုဒ္ဓ၏ အဘိဓမ္မာသည် အကောင်းဆုံးပင်ဖြစ်သင့်လှပေသည်။

ထိုစဉ်အခါက ဉာဏ်ပတိဘာန် ထက်သန်လှစွာသော ဗြာဟ္မဏနှင့် ခတ္တိယလူမျိုးအတွေးအခေါ်သမား အမြောက်အမြားကိုပင် "ဗုဒ္ဓအမြင်"က လွှမ်းမိုးခဲ့လေသည်။ အဆိုပါ စံပြဖြစ်ကြသော ရဟန်းတော်များ၏ စွန့်လွှတ်မှုနှင့် ရိုးသားသော အသက်မွေးမှုများမှာ နည်းနည်းနောနော ဆွဲဆောင်မှုမဟုတ်ပေ။

ဤကဲ့သို့လျှင် ဗုဒ္ဓပရိနိဗ္ဗာန်စံပြီးနောက် ဗုဒ္ဓဘာသာသည် ဇနပုဒ်စုပေါင်းရေးတွင် အကူအညီအပေးဆုံး ဘာသာတစ်ရပ်ဖြစ်လာလေသည်။

ဗိမ္ဗိသာရမင်းဆက် ကုန်ဆုံးသောအခါ နန္ဒမင်းဆက် ရောက်လာခဲ့လေသည်။ နန္ဒမင်းဆက်သည် သူတို့၏ နယ်နိမိတ်ကို ပို၍ ချဲ့ထွင်ခဲ့ရာ အနောက်ပိုင်း ဆတလဇ်မြစ်သို့တိုင် ရောက်ခဲ့လေသည်။ လွန်ခဲ့သော ဗိမ္ဗိသာရမင်းဆက်သည် ဗုဒ္ဓဘာသာဝင် သံဃာတော်များနှင့် ထိုမျှ ရင်းရင်းနှီးနှီးဖြစ်ချင်မှဖြစ်မည်။ သို့သော်လည်း နိုင်ငံတော်အတွင်းသို့ သွတ်သွင်းထားခဲ့ရသော ဇနပုဒ်များ၏ သီးခြားဇနပုဒ်သဘောကို ပယ်ဖျက်၍ တလုံးတစည်းတည်း ပြုလုပ်နေသော ဗုဒ္ဓဘာသာ၏ ကြီးကျယ်ခြင်းကိုကား နန္ဒမင်းဆက်ကလည်း မေ့မထားနိုင်ပေ။

မဂဓတိုင်းတွင် ဗုဒ္ဓသက်တော်ထင်ရှားရှိစဉ်က ဗုဒ္ဓဘာသာသည် လူကြိုက်များသော ဘာသာတစ်ရပ်ဖြစ်ခဲ့ဖူးလေသည်။ မဂဓနိုင်ငံတော်ဘာသာကြီးလည်း ဖြစ်ခဲ့ဖူးလေသည်။ ဤသို့အားဖြင့် မဂဓနိုင်ငံ အုပ်ချုပ်ရေးတန်ခိုးအာဏာ ကျယ်ပြန့်သည်နှင့်အမျှ မဂဓနိုင်ငံတော်၏ ဗုဒ္ဓဘာသာလည်း ကျယ်ပြန့်ခဲ့ရပေသည်။

နန္ဒမင်းဆက် နောက်ဆုံးအချိန်တွင် ဆိကန္ဒာမင်းပန်ဂျာဗ်ကို ဝင်ရောက်တိုက်ခိုက်လာလေသည်။ ဂရိက်လူမျိုးတို့၏ ထိုစဉ်အခါက အုပ်စိုးရေးသည် လုံးဝပယာယီအုပ်စိုးရေးသာ ဖြစ်သော်လည်း ထိုအုပ်စိုးရေးကို အကြောင်းပြု၍

ပင် အိန္ဒိယပြည်၌ ဂရိက်လူမျိုးစစ်သားများ၊ ကုန်သည်များ၊ လက်မှုပညာသည်များ သိန်းပေါင်းများစွာ အိုးအိမ်တည်ထောင်မှုစတင်ခဲ့ကြလေသည်။

ထိုမာနကြီးသော "မိလက္ခ"များကို အိန္ဒိယနိုင်ငံသားအဖြစ် အများဆုံးလက်ခံကြသူများမှာ ဗုဒ္ဓဘာသာဝင်များဖြစ်ကြလေသည်။ ဂရိက်လူမျိုး မိနာန္ဒရ်(မိလိန္ဒ)နှင့် သကလူမျိုး ကနိဿျကကဲ့သို့ ဘုန်းတန်ခိုးကြီးမားသောဘုရင်များ ဗုဒ္ဓဘာသာဝင်ဖြစ်လာရခြင်းမှာ တစ်မုဟုတ်၊ ရုတ်တရက်ဖြစ်လာသောကိစ္စမဟုတ်။ အမှန်မှာ ဆိုခဲ့ပြီးသောအတိုင်း ဇနပုဒ်–ဇနပုဒ်ချင်း၊ အရိယလူမျိုးနှင့် မိလက္ခလူမျိုးတို့အတွင်း ကွဲပြားမှုကို ဖျောက်ဖျက်ခဲ့သော ဗုဒ္ဓဘာသာ၏လက်ရာများစွာပင် ပါဝင်လေသည်။

*

## ၂။ ဂရိတ်အိန္ဒိယ အဘိဓမ္မာများပေါင်းစပ်ပုံ

ဂရိတ်ပြည်သားများသည် အိန္ဒိယပြည်သားများကဲ့သို့ ထိုစဉ်အခါက ယဉ်ကျေးသော လူမျိုးတစ်မျိုးဖြစ်လေသည်။ အဘိဓမ္မာ၊ အနုပညာ၊ ကူးသန်းရောင်းဝယ်ရေး၊ နိုင်ငံရေး–အဘက်ဘက်ကပင် ဂရိက်ပြည်သားများသည် အိန္ဒိယ ပြည်သားများနောက် မကျရုံသာမက ကျောက်ဆစ်အတတ်ပညာ၊ ပြဇာတ် အနုပညာကဲ့သို့သော အချို့အတတ်ပညာများတွင် အိန္ဒိယရှေ့သို့ပင် ရောက်ခဲ့ လေသည်။ အဘိဓမ္မာဆိုင်ရာ အောက်ပါသဘောတရားများကို ဂရိတ်ပြည် အဘိဓမ္မာဆရာကြီးများက ထုတ်ဖော်ပြဆိုခဲ့ပြီးဖြစ်လေသည်။

အိန္ဒိယပြည် နောက်ပိုင်း အဘိဓမ္မာဆရာများသည် ကျေးဇူးတင်ကြောင်းမဖော်ပြဘဲ သူတို့၏ အဘိဓမ္မာများ အတွင်းသို့ ဂရိတ်အဘိဓမ္မာများကို သွတ်သွင်းထားခဲ့ကြလေသည်။

| ဝါဒများ | အဘိဓမ္မာဆရာများ | အချိန် ဘီ–စီ |
|---|---|---|
| အာကာတိဝါဒ | ပိုက်သာဂေါရပ်(စ်) | ၅၇၀–၅၀၀ |
| ခဏိကဝါဒ | ဟေရာကလိတု | ၅၃၅–၄၇၅ |
| ဗီဇဝါဒ | အနက္ကဆာဂိုရ် | ၅၀၀–၄၂၈ |
| ပရမာဏုဝါဒ | ဒေမိုကရိတု | ၄၆၀–၃၇၀ |
| ဝိညာဏ (=အာကာတိ) | ပလေတို | ၄၂၇–၃၄၇ |
| ဝိသေသ | | |
| သာမည (=ဇာတိ) | ॥ | |

| | | |
|---|---|---|
| မူလသရုပ(ARCHETYPE) | ။ | |
| ဖန်ဆင်းသူ | ။ | |
| ဥပါဒါနကာရဏ | ။ | |
| (အနီးဆုံးအကြောင်း) | ။ | |
| နိမိတ္တကာရဏ | ။ | |
| (တစ်ဆင့်ခံအကြောင်း)အရစ္စတော် (တလ) | | ၃၈၄-၃၂၂ |
| တက်ကျမ်း | ။ | |
| ဒဗ္ဗ | ။ | |
| ဂုဏ | ။ | |
| ကမ္မ | ။ | |
| ဒိသာ | ။ | |
| ကာလ | ။ | |
| ပရိမာဏ | ။ | |
| အာသန | | |
| ဌိတိ | ။ | |

အဆိုပါ ဂရိတ်အဘိဓမ္မာများက အိန္ဒိယအဘိဓမ္မာပေါ်သို့ အဘယ်ပုံ လွှမ်းမိုးလာသည်ဟူသောအကြောင်းကို ရှေ့ပိုင်းကပါခဲ့သည့် စာကြောင်းများ အရ သိရပေလိမ့်မည်။ ဟေရာကလိတု၊ ပလေတို၊ အရစ္စတော် (တလ) တို့၏ အဘိဓမ္မာများကို တတ်သိနားလည်ကြသော ဂရိတ်လူမျိုးအမြောက်အမြား အိန္ဒိယသို့လာရောက် အိုးအိမ်ထူထောင်နေကြကြောင်းကိုလည်း မမေ့အပ် ပေ။ ထိုဂရိတ်လူမျိုး အဘိဓမ္မာသမားများသည် ဗုဒ္ဓအဘိဓမ္မာ၏ ကြီးကျယ် ပုံကို ကောင်းကောင်းကြီး သဘောပေါက်နိုင်ကြပေသည်။

[ရှေ့ပိုင်းကပါခဲ့သည့် စာကြောင်းများဆိုသည်ကား အဘိဓမ္မာစံပြကျမ်း ဂရိတ်အဘိဓမ္မာပိုင်းတည်း။ ၎င်းတို့ကို ဤနေရာတွင် ပြန်လည်ဖော်ထုတ်ပြ ဆိုလိုက်သည် ။ ။ ဘာသာပြန်သူ]

**အာကတိဝါဒ**

ပိုက်သာဂေါရပ်စ် (၅၂၈-၄၉၃ ဘီစီ)-ယုနစ် (IONIC) အဘိဓမ္မာဆရာ

များ ခေတ်ကုန်ပြီးနောက် ရှေ့သို့ဆက်လက်တိုးတက်လာခဲ့ရာ ဆင်ခြင်တုံသမားများသည် ပို၍ သိမ်သိမ်မွေ့မွေ့တွေးကြံလာခဲ့ကြသည်။ ယုနစ်အဘိဓမ္မာဆရာကြီးများသည် 'မဟာဘုတ်'များ၏ နယ်နိမိတ်တွင်သာ လှည့်ပတ်ဝေ့ဝိုက်၍ ဓာတ်သား၊ ပရမတ်သားများကို ရှာဖွေခဲ့ကြရာမှ ပိုက်သာဂေါရပ်စ်ကဲ့သို့ မဟာဘုတ်နယ်နိမိတ်ကို ဖြတ်ကျော်၍ ရှေ့သို့အပြေးအလွှား တိုးတက်ရှာဖွေလာသော အဘိဓမ္မာဆရာကြီးများခေတ်သို့ ဆိုက်ရောက်ခဲ့လေသည်။ ပိုက်သာဂေါရပ်စ်သည် သက်သက် အဘိဓမ္မာဆရာတစ်ဦးမျှသာ မဟုတ်။ သူသည် ထိုခေတ်ထိုအခါက သင်္ချာဆရာကြီးလည်းဖြစ်သည်။ အိန္ဒိယပြည်သို့ ရောက်ရှိဖူးသည်ဟု ပြောကြ၏။ သို့မဟုတ် အိန္ဒိယပြည်၏ အတွေးအခေါ်များ လွှမ်းမိုးခြင်းခံခဲ့ရလေသည်။ ထို့ကြောင့်ပင် အိန္ဒိယပြည်မှ ထွက်သော ပုနဗ္ဗာတိ(လူဝင်စား)ဝါဒကို လက်ခံသိမ်းပိုက်ခဲ့လေသည်။ အကောင်အထည်ဖော်လျက်ရှိသော ဗြဟ္မာ့ဝါဒကိုလည်း ယူဆောင်ကောင်း ယူဆောင်ပေလိမ့်မည်။ မည်သို့ဖြစ်စေ ဥပနိသျှဒ်ရသေ့ကြီးများကဲ့သို့ပင် သူလည်း အမာခံကမ္ဘာကြီးကို စွန့်ခွာ၍ စိတ်ကူးကမ္ဘာကြီးဆီသို့ပျံတက်ရန် ကြိုးစားနေသူဖြစ်ကြောင်း သူ့အဘိဓမ္မာများက သက်သေခံနေပေသည်။ ဤကဲ့သို့သော အဘိဓမ္မာမျိုးကို အိန္ဒိယပြည်တွင် အစဉ်အလာအခေါ်အဝေါ်အားဖြင့် ဝိညာန(ဝိညာဉ်တော်)ဝါဒဟု ခေါ်ကြလေသည်။

ပိုက်သာဂေါရပ်စ်သည် ဓာတ်သားပရမတ်သားကို ရှာဖွေရင်း အမာခံအထည်ကိုယ်ကို စွန့်ပစ်၍ ပုံဟန် (အာကတိ)ဘက်သို့ ပြေးလွှားခဲ့လေ သည်။ သူ့အဆိုကား– မဟာဘုတ်များ၏ သုခုမရုပ်များလည်း မူလဓာတ် မဟုတ်၊ ပုံဟန်(အာကတိ–အာကာရ)သာ မူလဓာတ်ဖြစ်သည် ဟူသတတ်။

"စောင်းကြိုး"၏ အလျားသည် စောင်းသံနှင့်အထူးဆက်စပ်နေသည်။ လက်ချောင်းများဖြင့် စောင်းကြိုးကို တို့ဖိလိုက်သော'တာ'အတိုအရှည် အားလျော်စွာ အသံတိုရှည်ထူးလည် ဆန်းပြားစွာ ထွက်လာရသည်။ ပိုက်သာဂေါရပ်စ်၏ အဘိဓမ္မာ၌ စောင်းကြိုးအလျားကို ဥဒါဟရဏ်ပြုသော အချက်နေရာများစွာတွေ့၏။

ကိုယ်ခန္ဓာကျန်းမာမှုနှင့်ပတ်သက်၍လည်း "ကျန်းမာရေးသည် ပုံဟန် (အရှည်၊ အပု၊ အဝ၊ အတိုင်းအရှည်) ပေါ်တွင် တည်ရှိသည်"ဟု ဆိုလေ

သည်။ ဤသို့အားဖြင့် ပိုက်သာဂေါရပ်စ်သည် "ပုံဟန်သာ မူလဓာတ်ဖြစ်၏" ဟူသော ဆုံးဖြတ်ချက်ကို ချမှတ်ခဲ့လေသည်။ ပုံဟန် (အရှည်၊ အတို၊ အဝ) ကို သင်္ချာ (အရေအတွက်) တွင် ထည့်သွင်းနိုင်သောကြောင့် 'အရာဝတ္ထု တိုင်းအရေအတွက်များဖြစ်၏' ဟူသော အခိုင်အမာစကားကြီးတစ်ရပ် ထင်ရှားထွက်ပေါ်လာခဲ့လေသည်။ ဤသို့အားဖြင့် အိန္ဒိယပြည်တွင် ဗျာကရဏ်း (သဒ္ဒါကျမ်း) ဆရာများ၏ 'သဒ္ဒ-ဗြဟ္မ'(သဒ္ဒါသည် နိစ္စ) ဝါဒကဲ့သို့ ပိုက်သာ ဂေါရ၏'သင်္ချာဗြဟ္မ'(သင်္ချာသည် နိစ္စ) ဝါဒလည်းထင်ရှားလာခဲ့လေသည်။

ထိုစဉ်အခါက ဂရိတ် 'သင်္ချာသင်္ကေတ' များသည် ဗိန္ဒု (အစက်အပေါက်) ပေါင်းများစွာကို ပုံဟန်အမျိုးမျိုးပြုလုပ်ရေးသားထားအပ်သော အမှတ်အသားဖြစ်ခဲ့လေသည်။ ဤကဲ့သို့သော အမှတ်အသားမျိုးသည် အိန္ဒိယပြည် ဗြာဟ္မီအရေးအသားသင်္ချာများသို့လည်း ကူးစက်ခဲ့လေသည်။ ထို့ကြောင့်ပင် 'အချောင်းကလေးများကို အရေအတွက်အလိုက် တိုး၍ပြုလုပ်သော "သင်္ချာသင်္ကေတ" ဖြစ်ခဲ့ရလေသည်။ ဤသင်္ချာသင်္ကေတ ကြောင့်ပင် ပိုက်သာဂေါရပ်စ်၏ နောက်လိုက်များ 'သင်္ချာ-ဗြဟ္မ'ဝါဒကို ဖြန့်ရာဝယ် လွယ်ကူမှုရရှိခဲ့ရပေ သည်။ ဗိန္ဒုများသည် မျဉ်းကြောင်းများကို ပြုလုပ်ကြ၏။ မျဉ်းကြောင်းများ သည် အောက်ခြေကို ပြုလုပ်ကြ၏။ အောက်ခြေသည် အမာခံဝတ္ထုများကို ပြုလုပ်ကြ၏။ ဆိုလိုသည်မှာ ဗိန္ဒုသို့မဟုတ် သင်္ချာသည်သာလျှင် အရာဝတ္ထု အားလုံး၏အရင်းအမြစ်ဖြစ်၏။

## ခဏိကဝါဒ

ဟေရာကလိတု (၅၃၅-၄၇၅ ဘီစီ) သည် ဂေါတမ ဗုဒ္ဓနှင့် ခေတ်ပြိုင် ပုဂ္ဂိုလ်တစ်ဦးဖြစ်၏။ ဟေရာကလိတုသည် ဗုဒ္ဓကဲ့သို့ အပြောင်းအလဲဝါဒ၊ ခဏိကဝါဒကို လက်ခံယုံကြည်၏။ ဟေရာကလိတု၏ အယူအဆအရ ကမ္ဘာကြီး၏ အဖြစ်နှင့်အပျက်သည် ထမ်းပိုးထမ်း ဖြစ်နေ၏။ အကြိမ်တိုင်းမှာပင် ကမ္ဘာတည်ပြီးနောက်ဆုံးတွင် မီးဖျက်သဖြင့် ကမ္ဘာကြီး ပျက်စီးရလေသည်။ အိန္ဒိယပြည် စဉ်လာစာတမ်းများတွင်လည်း ရေနှင့်မီးဖျက်၍ ကမ္ဘာကြီးပျက်စီးရ ကြောင်း ဖွင့်ဆိုချက် ရှိပေသည်။ ဥပနိသျှဒ်နှင့် ၎င်း အရင်ကျသော စာပေများ တွင် ကမ္ဘာပျက်ခြင်းအကြောင်းနှင့်ပတ်သက်၍ တစိုးတစိ မရှိခဲ့ပေ။ သို့

သော်လည်း ဗုဒ္ဓဟောကြားချက်များတွင်ကား ကမ္ဘာ ပျက်ခြင်းအကြောင်းကို ရည်ညွှန်းဟောဆိုထားသော အချက်အချို့ကို တွေ့ ရ၏။ နောင်သောအခါ ဝသုဗန္ဓုအစရှိသော ဆရာများကား အဂ္ဂိသတ္တနိ (မီးဖျက်ခြင်း) အကြောင်းကို (အဘိဓမ္မာကောသ အစရှိသော ကျမ်းများ၌) အလိုင်းတကြီးဖွင့်ဆိုရေးသားခဲ့ကြလေသည်။

ယုနစ်အဘိဓမ္မာ ဆရာများကဲ့သို့ပင် ဟေရာကလိတုလည်း နောက်ဆုံး မူလဓာတ်ကို တေဇောဓာတ်ဟု အယူရှိလေသည်။ သို့သော် ဟေရာကလိတုသည် ပြင်းပြင်းထန်ထန်ဖောက်ပြန်ပြောင်းလဲနေကြောင်း ဖွင့်ပြရာဘက် တွင် အလေးစီးနေပေသည်။

ကမ္ဘာကြီးသည် အမြဲမပြတ် ဖောက်ပြန်ပြောင်းလဲနေ၏။ အရာဝတ္ထု တိုင်း ဆီမီးလျှံကဲ့သို့ ခဏမလပ် ပျက်ချည်ဖြစ်ချည် ဆက်နေ၏။ အရာဝတ္ထုတိုင်းတွင် တကယ့်အမာခံဘယ်နည်းနှင့်မျှ မရှိ။ မြဲသည်ဟု ထင်ခြင်းမှာ သက်သက် ဝိပလ္လာသ သဘောမျှသာဖြစ်၏။ ထိုကဲ့သို့ ဖောက်လွဲဖောက်ပြန်ယူဆမိခြင်းမှာ အပြောင်းအလဲမြန်ခြင်းနှင့် အလားတူထပ်ဖြစ်ခြင်းများကြောင့်သာတည်း။ ပြောင်းလဲခြင်းသည် ကမ္ဘာ့အသက်ဖြစ်၏။ ဤသို့အားဖြင့် ဟေရာကလိတုသည် ဧလိယာ(အီတလီတောင်ပိုင်း)နယ်သား အဘိဓမ္မာဆရာများနှင့် ဖြောင့်ဖြောင့်ဆန့်ကျင်လျက်ရှိလေသည်။ ဟေရာကလိတုသည် ထာဝရဝါဒီတစ်ဦးမဟုတ်။ ခဏိကဝါဒီတစ်ဦးဖြစ်လေသည်။

ဟေရာကလိတုသည် ဧဖေဆု(EPHESUS)အရပ်ရှိ လူချမ်းသာတစ်ဦး၏အိမ်တွင် မွေးလာခဲ့လေသည်။ သို့သော်လည်း ထိုစဉ်အခါကား လက်ဟောင်းလူချမ်းသာကြီးများ မင်းမူခြင်းကို ဖြုတ်ချခွင်းသုတ်သင်၍ ဂရိက်ပြည်သား ကုန်သည်များက အဆိုပါ အရပ်ကို အုပ်စိုးနေကြချိန်ဖြစ်လေ သည်။ ဟေရာကလိတု၏ စိတ်ထဲတွင် "ငါတို့ခေတ် ကုန်လေပြီတကား" ဟု များစွာယူကျုံးမရလောင်ကျွမ်းနေပေ၏။ သူသည် လက်ရှိအခြေအနေ ကိုသည်းမခံနိုင်အောင်ဖြစ်နေ၏။ ခေတ်ပြောင်းလေမှန်တိုင်းက သူ့အား တကယ့်ပြောင်းလဲရေးဝါဒသမားကြီးတစ်ဦးအဖြစ်ရောက်အောင် တိုက်လွှင့်ပို့ဆောင်ခဲ့လေသည်။

အကယ်၍ လူချမ်းသာများအုပ်စိုးနေလျှင် ဟေရာကလိတုသည်

ပြောင်းလဲမှုသစ္စာကို မြင်ချင်မှ မြင်ပေမည်။ ဟေရာကလိတုသည် တော်လှန်ရေးအဘိဓမ္မာတစ်ခုကို ထုတ်ဖော်ခဲ့၏။ သို့သော် လက်တွေ့အလုပ်အားဖြင့် သူ၏တော်လှန်ရေးမှာ ကုန်သည်အုပ်စိုးရေးကို ပြောင်းပြန်လှန်ပစ်ဖို့ သာလုံးဝကြိုးစားနေလေသည်။ သူသည် အသက်ထက်ဆုံး လူချမ်းသာကြီးတစ်ယောက်အနေနှင့်နေထိုင်၍ ပြည်သူ့အုပ်စိုးရေးကို အပြင်းအထန်ရွတ်ချကဲ့ရဲ့သော မျက်လုံးများဖြင့် ကြည့်ရှုခဲ့လေသည်။ အခြားအကြောင်းမဟုတ်။ ဤပြည်သူ့အုပ်စိုးရေးကပင် ဟေရာကလိတု၏ သူဌေးလူတန်းစားကို ပလ္လင်ပေါ်မှ ဖုတ်ထဲဆွဲချခဲ့သောကြောင့်ဖြစ်လေသည်။

ဟေရာကလိတု၏ ရေးသားချက်သည် အလွန်နည်းပါးစွာ အတိုအစကလေးများသာ ရရှိလေသည်။ ကမ္ဘာလောကကြီး၏ မပြတ်ပြောင်းလဲလေ့ရှိသော သဘောနှင့်ပတ်သက်၍ သူက ဥဒါဟရဏ်ဆောင်ခဲ့လေသည်။ "သင်တို့သည် မြစ်တစ်ခုကို နှစ်ကြိမ်မဆင်းသက်နိုင်ကြပါ။ အကြောင်းသော်ကား အခြားရေများ၊ နောက်ထပ် အခြားရေများက အမြဲတစေ စီးဆင်းနေကြသောကြောင့်ဖြစ်လေသည်။ ကမ္ဘာ၏အဖြစ်သည် အပျက်၊ ကမ္ဘာ၏အပျက်သည် အဖြစ်ပင်တည်း။ ထာဝရ အရည်အချင်း(ဂုဏ်)ရှိသော ပစ္စည်းဝတ္ထုတစ်ခုမျှ မရှိပေ။ ဂီတအသံစုံမှုသည် အောက်သံ အထက်သံ ပေါင်းဆုံမိခြင်းဆန့်ကျင်ဘက်တို့၏ ပေါင်းစုံမိခြင်းပင်ဖြစ်ပေသည်။

ကမ္ဘာကြီးသည် တိုက်ပွဲအားဖြင့် ဆက်လက်ဖြစ်ပွားလျက်ရှိပေ၏။ 'စစ်သည် အရာဝတ္ထုအားလုံး၏ ဖခင်ဖြစ်၏။ အားလုံး၏ ဘုရင်ဖြစ်၏' တိုက်ပွဲနှင့်ကင်းလျှင် ကမ္ဘာကြီးအဆုံးသတ်သွားရပေလိမ့်မည်။ လှုပ်ရှားခြင်းကင်းလျှင် သေသွားပေလိမ့်မည်။

အနိစ္စတာ သို့မဟုတ် ပြောင်းလဲဖောက်ပြန်မှု၏ ခိုင်မာသောစည်းမျဉ်းနှင့်ပတ်သက်၍ ဟေရာကလိတုက အလျှိုင်းတကြီးဆိုခဲ့လေသည်။

"ပြောင်းလဲဖောက်ပြန်သော သဘောတရားသည် နတ်များ ဖန်ဆင်းထားသော အရာလည်းမဟုတ်။ လူများက လုပ်ဆောင်ထားသောအရာလည်းမဟုတ်။ ထိုသဘောတရား အမြဲတမ်းရှိလာခဲ့၏။ နောက်လည်း ရှိဦးမည်။ အမြဲတမ်း တောက်ရှင်နေသော မီးတစ်ခုသည် ဆုံးဖြတ်ထားအပ်သော အတိုင်းအတာအရ တောက်ရှင်နေပြီးနောက် ဆုံးဖြတ်ထားအပ်သော အတိုင်း

အတာအရ ချုပ်ငြိမ်းသွားပေလိမ့်မည်”

ဆုံးဖြတ်ထားအပ်သော အတိုင်းအရှည် (မာတြာ) သို့မဟုတ် ချိန်ဆမှုနှင့် ပတ်သက်၍ ဟောရာကလိတု၏ အရေးထားခြင်းမှာ ခေတ်ပြိုင်ဗုဒ္ဓ၏ အရေးထားခြင်းကဲ့သို့ပင် ဖြစ်လေသည်။ ဟောရာကလိတုသည် မရည်ရွယ်ဘဲနှင့်ပင် ကမ္ဘာ၏ တကယ့်တော်လှန်ရေး အဘိဓမ္မာ–ဒွန္ဒနည်းကျ (ခဏိက) ရုပ်ဝါဒ(မော့ကဆ–ရုပ်ဝါဒ)ကို ဖန်ဆင်းသူဖြစ်ခဲ့လေသည်။ ဗုဒ္ဓ၏ အဘိဓမ္မာလည်း တော်လှန်ရေး ရည်ရွယ်ချက်ရှိခဲ့၏။ သို့သော်လည်း ရှေ့သို့ မတိုးတက်နိုင်လောက်အောင် ဘာသာရေးဝင်္ကပါထဲသို့ ကျရောက်ရှုပ်ထွေးသွားခဲ့လေသည်။ ဟေဂယ်(လ)သည် ဟောရာကလိတု၏ အဘိဓမ္မာကို သူ၏ အဘိဓမ္မာအခြေခံပြုလုပ်ကာ ပြည့်ဝစုံလင်၍ နက်နဲခေတ်မီသော အဘိဓမ္မာ တစ်ရပ် အသွင်ပေါ်အောင် ဖန်တီးခဲ့လေသည်။

စိတ်နှင့် ရုပ်တရား နှစ်ပါးအနက် ဘယ်တရား၊ တစ်ခုကို ပြဋ္ဌာန်းသည်ဆိုဖို့ ဟောရာကလိတုအတွက် မလိုအပ်ပေ။ ဟေဂယ်(လ)ကား စိတ်ကို ပဓာနဟု ဆို၏။ ရုပ်တရားသည် ဓာတ်သားမဟုတ်။ ပြောင်းလဲသော်လည်း စိတ်သို့မဟုတ် ဝိညာဏ်သာ တကယ့်ဓာတ်သား ဖြစ်၏။ ဤသို့အားဖြင့် ဟေဂယ်(လ)သည် ကမ္ဘာမှစိတ်ဖက်သို့ မတိုးဘဲ စိတ်မှ ကမ္ဘာဘက်သို့ တိုးသွားဖို့ရန် ကြိုးစားရင်း ဒွန္ဒနည်းကျ ဝါဒကို ဝိညာဉ်တော်ဝါဒဟု ခေါင်းစဉ်တပ်လိုက်လေသည်။ မာ့(ကဆ)သည် ဒွန္ဒနည်းကျဝါဒကို ဝိညာဉ်တော်ဝါဒဘောင်းမှ ကင်းဝေးအောင် ကယ်ဆယ်လိုက်သည်။ ခြေထောက်နှစ်ဖက်အားဖြင့် မြေမာပေါ်သို့ ဆွဲချခဲ့လေသည်။ ရုပ်တရားသည် ကောင်းကင်ထဲက ဝိညာဉ်(စိတ်)၏ တိုးတက်လာခြင်းမဟုတ်ဘဲ ဝိညာဉ်သာ ရုပ်ဝတ္ထုပစ္စည်းများ၏ နောက်ဆုံးပိတ်တိုးတက်မှုဖြစ်သည်။ အထက်မှ အောက်သို့ လာနေဖွယ်မလို၊ စင်စစ်သော်ကား အောက်မှ သွားဖို့သာရှိသည်။

**ဗီဇဝါဒ**

အနက္ကဆာဂိုရ်(၅၀၀–၄၂၈ ဘီစီ) ၎င်းက “ဟောရာကလိတု ယူနည်းမျိုးအားဖြင့် မီးကဲ့သို့သော ဓာတ်တစ်မျိုးတည်းကိုသာ မူလဓာတ် သို့မဟုတ် ပဓာနဖြစ်သည်ဟု ယူဆနေဖွယ်မလို။ ဗီဇ(မူလအကြောင်း)ဟူသည် အမျိုး

မျိုးရှိနိုင်၏။ ဗီဇအမျိုးမျိုးကို ရရှိခဲ့လျှင် အားလုံးပစ္စည်းများဖြစ်လာကြ၏" ဟု ပြောလေသည်။

ပရမာဏုဝါဒ

ဒေမိုကရိတု (၄၆၀-၃၇၀ ဘီစီ) သည် ဂရိတ်လူမျိုး ဒွေတဝါဒ (ထာဝရဘုရားနှင့် လောကကြီးကို တခြားစီယူသောဝါဒ) သမားများတွင်သာ ထိပ်တန်းနေရာကို ရသည် မဟုတ်သေး၊ သူ၏ ပရမာဏုဝါဒကြောင့် အရှေ့တိုင်း အနောက်တိုင်း အဘိဓမ္မာနယ်ပယ်တွင် အလွန်အဆင့်အတန်း မြင့်ခဲ့ရပေသည်။ အိန္ဒိယအဘိဓမ္မာများအတွင်းသို့ ပရမာဏုဝါဒ ဝင်ရောက်လာခြင်းမှာ ဂရိတ်လူမျိုးများနှင့် ပေါင်းစပ်မိသောကြောင့်သာဖြစ်လေသည်။ ဤအချက်ကို သံသယရှိနေဖွယ်မလိုပေ။ ဥပနိသျှဒ်နှင့် ၎င်းအရင်ကျသော စာပေများတွင်သာ မဟုတ်သေး၊ ဂျိန်းနှင့် ဗုဒ္ဓပိဋကများတွင်လည်း ပရမာဏု ဝါဒအကြောင်းကို ကျွန်ုပ်တို့ မတွေ့ဖူးပေ။ 'ဝိသေသိက' အဘိဓမ္မာသည် ဂရိတ်အဘိဓမ္မာကို အိန္ဒိယအဘိဓမ္မာအဖြစ် ပြုပြင်ထားခြင်းဖြစ်၏။

သေင်မြို့၏ မြို့အမှတ်အသား 'ဥလ္လူ' ဟူသော အမည်သည်ပင် ဝိသေသိကကျမ်း၏ 'ဩလုက္ကဒဿန'ဟူသော အမည်တွင်ရခြင်းအကြောင်း မဖြစ်ဟု အသူဆိုနိုင်အံ့နည်း။ ခရစ်မပေါ်မီ အနှစ် ၂၀၀ တစ်စိတ်တွင် ဝိသေသိကကျမ်းသည် ပရမာဏုဝါဒကို ကိုယ်ပိုင်ပြုလုပ်၍ အိန္ဒိယအဘိဓမ္မာနယ်တွင် ကိုယ်တိုင်တံဆိပ်ခတ်နှိပ်ဖို့ကြိုးစားခဲ့သေးလျှင် ၎င်းနောက် အဘိဓမ္မာများတွင် အဘယ် အိန္ဒိယ အဘိဓမ္မာမဆို ဂရိတ်အဘိဓမ္မာနှင့် လွတ်ကင်းဖို့ ခဲယဉ်းလှပေသည်။

အလယ်ခေတ်ပေါ် အားလုံးသော အိန္ဒိယပြည်သား အသိဉာဏ်ဝါဒ သမား အဘိဓမ္မာဆရာကြီးများ (နျာယဝိသေသိက၊ ဗုဒ္ဓဆိုင်ရာ၊ ဂျိန်းဆိုင်ရာ များ) သည် ပရမာဏု အကြောင်းကို အသီးသီး ကိုယ်ကြိုက် အဓိပ္ပာယ်ဖွင့် ပြချက်များနှင့်တကွ သူတို့၏ အဘိဓမ္မာအစိတ်အပိုင်းများအဖြစ် ပြုလုပ်ခဲ့ ကြလေသည်။

အဘိဓမ္မာနယ်ပယ်တွင် ပရမာဏုဝါဒကို အထက်တန်းနေရာသို့ ဒေမိုကရိတု၏ ကလောင်က ပို့ဆောင်ပေးလိုက်သော်လည်း ပထမဆုံး

တွေးတောကြံဆမိသူမှာ ဒေမိုကရိတု၏ ဆရာလေဉကိပ္ပ(LEUCIPPUS) ဖြစ်လေသည်။ ၎င်းမှာ ၅၀၀–၄၃၀ ဘီစီက ပေါ်ပေါက်ခဲ့သူဖြစ်လေသည်။ ဒေမိုကရိတုကား ဗုဒ္ဓပရိနိဗ္ဗာန်စံပြီးနောက် ၂၃ နှစ်အကြာ ၄၆၀ ဘီစီက မွေးဖွားခဲ့သူဖြစ်သည်။

ပရမာဏု ဝါဒီဒေမိုကရိတုသည် ဒွေတဝါဒ အရာတွင် ဧလီယာနယ်သားအဘိဓမ္မာဆရာများ 'အဒွေတဝါဒီများ' နှင့် ကွဲပြားခြားနားသော်လည်း နောက်ဆုံးပိတ်ပြောင်းလဲဖောက်ပြန်မှုကိုကား မယုံကြည်။ နောက်ဆုံးပိတ် ပရမာဏုကိုကား တကယ့်တကယ်ရှိ၊ နိစ္စ၊ ဓုဝ၊ မပြောင်းမလဲသော သဘောရှိ၏ဟု ယူဆယုံကြည်လေသည်။

၎င်းပြင် မြင်နေရသမျှ ဖောက်ပြန်ပြောင်းလဲမှုသည်လည်း ဝတ္ထုပစ္စည်းများမရပ်မနားပြေးလွှားလှုပ်ရှားနေခြင်းကြောင့်ဖြစ်သည်ဟု ဆိုလေသည်။ ဟုတ်မှန်လှစွာ။ တကယ့်တကယ်ရှိဓာတ်သားသည် တစ်ခုတည်း၊ တစ်လုံးတည်း၊ (အဒွေတ)မဟုတ်။ အမှန်မှာဒွေတ (နှစ်မျိုးကွဲပြားနေသောအရာဝတ္ထု) အမြောက်အမြားပင် ဖြစ်လေသည်။ အဆိုပါ မူလဓာတ်သားများသည် တစ်ခုနှင့်တစ်ခု သီးခြားကွဲပြားနေသည်။ ၎င်းဓာတ်သားများသည် တစ်ခုနှင့်တစ်ခု သီးခြားကွဲပြားနေသည်။ ၎င်းဓာတ်သားများ၏အကြား ကွက်လပ်နေရာ (အာကာသ)ရှိသည်။ မူလဓာတ်သားကိုကား အ–တိုမို (ATOMOS)၊ မဖြတ်နိုင်၊ မဖောက်နိုင်ဟု ယူဆယုံကြည်လေသည်။ အ–တိုမို (ဂရိတ်ဘာသာ)မှ ဆင်းသက်၍ အက်တွမ် (ATOM) ဖြစ်လာလေသည်။

ပရမာဏုသည် အလွန်သိမ်မွေ့၍ ခွဲခြမ်းမရသော ဓာတ်သားဖြစ်၏။ သို့သော် ဂျော်မက်ထရီ၏ ဗိန္ဒု၊ သို့မဟုတ် 'သတ္တိဗဟိုချက်' မဟုတ်။ အမှန်မှာ ပရမာဏုတွင် အတိုင်းအရှည် သို့မဟုတ် အပြန့်ရှိသည်။ သင်္ချာနည်းအားဖြင့် ခွဲခြမ်း၍ မရစကောင်းမဟုတ်။ အမှန်မှာ ကာယကံမြောက်အားဖြင့်သာ ခွဲခြမ်း၍ မရစကောင်းသောအရာဖြစ်၏။ ပရမာဏုအတွင်း၌ အာကာသမရှိဟု ဆိုလိုသည်။

ပရမာဏုများအားလုံးပင် ပုံဟန်အတိုင်းအရှည် တစ်မျိုးတစ်စားတည်း မဟုတ်။ ပရမာဏုများဖြင့် ပြုလုပ်ထားသော အတုံးအခဲများ ပုံဟန်ကွဲပြားခြင်းရှိကြလေသည်။ ပရမာဏုများ ပုံဟန်ကွဲပြားခြင်းမှာ သူတို့၏ တည်ရာ

နှင့် အစီအစဉ်အားလျော်စွာ ဖြစ်ပေသည်။

ပရမာဏုလောကကြီး၏ အစပထမဖြစ်သော ခကိန်းများသည် အုတ်များ သို့မဟုတ် အက္ခရာများနှင့် အလားတူလေသည်။ ဥပမာသော်ကား ၂ နှင့် ၃ ကွဲပြားပုံမှာ ပုံဟန်အရဖြစ်သည်။ ၃ နှင့် ၄ ကွဲပြားပုံမှာ တည်ရှိပုံကြောင့်ဖြစ်လေသည်။ အကယ်၍ '၃' ၏ မျက်နှာကို အခြားတစ်ဖက်သို့ လှည့်လိုက်လျှင် ၎င်း '၃' သည်ပင် '၄' ဖြစ်လာပေလိမ့်မည်။ ၃ ၄ နှင့် ၄ ၃ ကွဲပြားခြင်းကား ဂဏန်းများကိုထားပုံ အစီအစဉ်ကွဲပြားသောကြောင့်ဖြစ်ပေသည်။

ပရမာဏုသည် လှုပ်ရှားပြေးသွားမှုကင်းဆိတ်နေသော ဓာတ်သားမဟုတ်။ စင်စစ်သော်ကား ပရမာဏုများတွင် သဘာဝအားဖြင့် လှုပ်ရှားပြေးသွားမှုရှိလေသည်။ ပရမာဏုများသည် အမြဲတမ်းပြေးသွားလှုပ်ရှားနေကြလေသည်။ ဤကဲ့သို့ လှုပ်ရှားပြေးသွားနေသဖြင့် ပရမာဏုအချင်းချင်း ဆုံစည်းပေါင်းစပ်မိကြလေသည်။ ဤသို့အားဖြင့် ကမ္ဘာကြီးနှင့် အတုံးအခဲများ အားလုံးဖြစ်ပေါ်လာရလေသည်။

တစ်ခါတစ်ခါ အဆိုပါ အတုံးအခဲအချင်းချင်း တိုက်မိဆောင့်မိကြလေသည်။ ထိုအခါ ပရမာဏုပေါင်းများစွာမှ ပြတ်ထွက်သွားကြလေသည်။ ဤသို့အားဖြင့် ဒေမိုကရိတု၏ ပရမာဏုသဘောတရားသည် လွန်ခဲ့သောရာစုနှစ်က စက်မှုရုပ်ဝါဒနှင့် အတော်များများ ထပ်မိလေသည်။ ၎င်းပြင် ကမ္ဘာကြီးတည်ရှိကြောင်းကို အဓိပ္ပာယ်ဖွင့်ပြရာတွင်လည်း ရုပ်တရားများနှင့် ၎င်းရုပ်တရားတို့၏ ပြေးသွားလှုပ်ရှားမှုများကို လက်ကိုင်ထား၍ ဖွင့်ပြလေ့ရှိသည်။

ဒေမိုကရိတုသည် သဒ္ဒ၊ ဝဏ္ဏ၊ ရသ၊ ဂန္ဓတို့၏ သဘောကို ဝေါဟာရပညတ်အဖြစ်သာ လက်ခံယုံကြည်၏။ တရားကိုယ်အားဖြင့် မချို၊ တရားကိုယ်အားဖြင့် မခါး၊ တရားကိုယ်အားဖြင့် မပူ၊ တရားကိုယ်အားဖြင့် ပရမာဏုနှင့်သုည သဘောသာရှိသည်။ ဤသို့အားဖြင့် ပရမာဏုဝါဒီအဘိဓမ္မာဆရာများသည် ဗဟိဒ္ဓလောကနှင့် ၎င်းလောကကြီးရှိ ပစ္စည်းဝတ္ထုများကို မျက်စေ့လည်နေသောအရာ သို့မဟုတ် မျက်လှည့်တစ်ခုထက်ပို၍ မယုံကြည်ကြပေ။

## ဝိညာဉ်တော်ဝါဒ

ပလေတို (၄၂၇-၃၄၇) ဘီစီသည် ဧသင်မြို့ရှိ လူချမ်းသာတစ်ဦး၏ အိမ်တွင် မွေးဖွားခဲ့လေသည်။ သူ၏ လူတန်းစားရှိ အခြားပညာတော်သော လူများကဲ့သို့ပင် ပလေတိုသည်လည်း အတီးအမှုတ်၊ စာပေ၊ ပန်းချီနှင့် အဘိဓမ္မာဆိုင်ရာ အခြေခံပညာများကို ရရှိခဲ့လေသည်။ ၄၀၇ ဘီစီနှစ်တွင် ပလေတိုသည် အသက် ၂၀ ရွယ်သို့ ရောက်ရှိခဲ့လေသည်။ ထိုအချိန်မှာပင် ဆိုကရေးတီး၏ ထံမှောက်သို့ ဆိုက်ရောက်လာခဲ့လေသည်။ သူ့ဆရာ ကွယ်လွန်သည့် ၃၉၉ ဘီစီ တိုင်အောင် ဆရာနှင့်အတူတကွသာ နေထိုင်ခဲ့လေသည်။

အဘယ် အဘိဓမ္မာမဆို သုညထဲမှ ပေါက်ဖွားလာရိုးမရှိပေ။ ပတ်ဝန်းကျင်အခြေအနေထဲမှ ပေါက်ဖွားလာ၍ ၎င်း၏ အမှတ်တံဆိပ်ခတ်နှိပ်ပြီးသား ပါရှိလာလေသည်။

ပလေတိုသည် လူချမ်းသာ သားတစ်ယောက်ဖြစ်၏။ လူချမ်းသာ လူတန်းစား၏ ကြီးစိုးမှုမှာလည်း ထိုစဉ်အခါက ဂရိတ်ပြည်တွင် လျှော့ကျနေခဲ့လေပြီ။ လူချမ်းသာများနေရာတွင် ကုန်သည်လူတန်းစားက အင်အားကောင်းနေချိန်ဖြစ်လေသည်။ ထို့ကြောင့် လက်ရှိ ခေတ်လူ့အဖွဲ့အစည်းအခြေအနေကို ပလေတိုက မကျေနပ်နိုင်။ ၎င်းပြင် သူ၏ အပြစ်ကင်းမဲ့သော ဆရာကြီး ဆိုကရေးတီးအား ပြည်သူလူထုအစိုးရက သတ်ပစ်လိုက်သည်ကို မြင်ရပြန်သောအခါ သာ၍ စိတ်မကောင်းခြင်းဖြစ်ခဲ့ရလေသည်။ ဤကဲ့သို့ ပလေတို စိတ်မကောင်းဖြစ်ရခြင်းကို သူ၏လောကမှ လွန်မြောက်ရေးဝါဒ အဘိဓမ္မာတွင် ကျွန်ုပ်တို့ တွေ့ကြရလေသည်။ သူ့ကို တစ်ချက်တစ်ချက် ဥပနိသျှဒ်ရသေ့တစ်ဦးကဲ့သို့၊ တစ်ချက်တစ်ချက်တွင် လောကသားနိုင်ငံရေးသမား တစ်ဦးကဲ့သို့ တွေ့မြင်ကြရလေသည်။ သူသည် လက်ရှိလူ့အဖွဲ့အစည်းကို ဖျက်သိမ်း၍ လူ့အဖွဲ့အစည်းသစ်တစ်ခု တည်ဆောက်ချင်နေသူဖြစ်လေသည်။

သို့သော်လည်း သူ၏ အဖွဲ့အစည်းသစ်မှာ ဤလောကကြီးနှင့်မဆိုင်။ လုံးဝလောကကြီးမှ သီးခြားဖြစ်သော လောကုတ္တရာအဖွဲ့အစည်းမျှသာဖြစ်လေသည်။ သူသည် လက်ရှိခေတ်ဧသင်မြို့အပေါ် အဘယ်မျှ မကျေနပ်

ဖြစ်နေသည်ကို အောက်ပါစကားကိုထောက်ထား၍ သိနိုင်ပေ၏။

"မကြာသေးမီက ဧသင်တွင် ပြည်သူ့အုပ်ချုပ်ရေးခေတ်စားလာခဲ့၏။ ဤမတရားသော အုပ်ချုပ်ရေးနေရာတွင် တရားမျှတသော အုပ်ချုပ်ရေး ရောက်လာရမည်ဟု ငါထင်သည်။ ထို့ကြောင့် ပြည်သူ့အုပ်ချုပ်ရေးအသွားအလာ အစီအစဉ်များကို သတိကြီးစွာထား၍ စောင့်ကြည့်နေခဲ့၏။ သို့သော်လည်း မကြာမီပင် ယခင်အုပ်ချုပ်ရေးခေတ်ကောင်းကို မီလိုက်ကြသော လူကြီးလူကောင်းများက ပြည်သူ့အုပ်ချုပ်ရေးနောက်လိုက်နေသည်ကို တွေ့ရတော့သည်။

တော်တည့်မှန်ကန်လှစွာသော သူဟုပြောဆိုရန် ငါ့အတွက် တွန့်စရာမရှိသော ငါ၏မိတ်ဆွေလူအိုကြီးကို သူတို့က ပြည်သူ့အုပ်ချုပ်ရေးတွင် ပြည်သားတစ်ဦးအဖြစ် ခံယူရန် အမိန့်ပေးကြလေသည်။ ထိုသူကား ပြည်သူ့အုပ်ချုပ်ရေးသမားများက သူတို့လမ်းတွင် ရှုပ်မနေစေချင်သော သူဖြစ်လေသည်။ ပြည်သူ့အုပ်ချုပ်ရေးသမားများက အလိုရှိသည်မှာ သဘောတူသည်ဖြစ်စေ၊ မတူသည်ဖြစ်စေ၊ ဆိုကရေးတီးက သူတို့၏ အုပ်ချုပ်ရေးသစ်လုပ်ငန်းများ၌ ပါဝင်အကူအညီပေးစေချင်သည်။ ဆိုကရေးတီးက သူတို့အမိန့်ကို မနာခံဘဲ ငြင်းဆန်ခဲ့လေသည်။ သူတို့၏ ယုတ်မာသော လုပ်ငန်းများတွင် ပါဝင်မည့်အစား အသေခံလိုက်ရန်သာ အသင့်ပြင်ဆင်လေတော့သည်။ ငါကိုယ်တိုင် ဤအဖြစ်အပျက်နှင့် အခြားအဖြစ်အပျက်များကို မြင်ရသောအခါ အတော်ပင် စက်ဆုပ်ရွံရှာမိလေသည်။ ငါသည် ဤကဲ့သို့ စိုးရိမ်စရာကောင်းလှသော အစိုးရနှင့် အဆက်ဖြတ်လေတော့သည်။ နိုင်ငံရေးနယ်ထဲသို့ဝင်မည်ဟု အစပထမက ငါအတော်စိတ်ပါခဲ့၏။ သို့သော် အဆိုပါအဖြစ်အပျက်များကို စဉ်းစားကြည့်လိုက်သောအခါ နိုင်ငံရေးအခြေအနေ ဘယ်မျှ ဆိုးဝါးနေသည်ကို တွေ့မြင်လေသည်"

ဤကဲ့သို့ စဉ်းစား၍ ပလေတိုသည် ဤလူ့လောကအဖွဲ့အစည်းကြီး တည်ဆောက်ရေးတွင် မပါဝင်တော့ပေ။ သို့သော် စိတ်ကူးယဉ်လေထဲက ပြည်သူ့အုပ်ချုပ်ရေးမရှိလျှင် မဖြစ်ကြောင်းကိုကား ထုတ်ဖော်ကြေညာခဲ့လေသည်။

"တကယ့်အဘိဓမ္မာဆရာများ လက်ထဲသို့ နိုင်ငံရေးအာဏာမရောက်သ

မျှ၊ တစ်နည်းဆိုသော် နိုင်ငံရေးသမားများကို အဘိဓမ္မာဆရာများဖြစ်သွားအောင် စီမံနိုင်သော တန်ခိုးသတ္တိမပေါ်သေးသမျှ လူသားလောကကြီးသည် မကောင်းမှုများမှ ရှောင်ကွင်းနိုင်ကြမည်မဟုတ်" (PLATO: SEVENTH LETTER)

ပလေတိုအပေါ်သို့ သူ၏ဆရာ ဆိုကရေးတီး၏ အဘိဓမ္မာအတတ်ပညာကသာ လွှမ်းမိုးသည်မဟုတ်သေး။ ပလေတိုလက်ထက် လူ့အဖွဲ့အစည်း၏ အယူအဆများနှင့် အုပ်စိုးသူလူတန်းစားက ဆိုကရေးတီအပေါ်တွင် ပြုကျင့်လိုက်သော အပြုအမူများကလည်း များစွာ လွှမ်းမိုးခဲ့လေသည်။ ဆိုကရေးတီးကိုယ်တိုင် စာတစ်အုပ်မှ မရေးမပစ်ခဲ့။ သူ၏ အယူအဆ အတွေးအခေါ်များကို အခြားသူများ၏ကျမ်းမှ အထူးသဖြင့် ပလေတို၏ကျမ်းမှ ယူကြရလေသည်။ ဒေသင်အုပ်ချုပ်ရေးသည် အတွင်းဆွေး ပုပ်ဆွေး၍မတရားအတိပြည့်နှက်နေသည်ဟု ပလေတိုက မြင်လေသည်။ ဒေသင်အုပ်ချုပ်ရေးသမားများကို ပြည်သူက မဲဆန္ဒဖြင့်ရွေးကောက်တင်မြှောက်ထားသည်ကိုလည်း သူမြင်ရလေသည်။ ပလေတိုက အုပ်စိုးသူရော ပြည်သူ့အုပ်ချုပ်ရေးစနစ်ကိုပါ ရှုတ်ချလေသည်။ ပလေတိုသည် မြေပေါ်တွင်ရှိသော ပြည်သူ့အစိုးရနှင့် ပြည်သူ့အုပ်ချုပ်ရေးကို အနည်းငယ်မှ မျှော်လင့်အားထားခြင်းမရှိခဲ့ပေ။ ထို့ကြောင့် မြေမာပေါ်တွင် ခြေစုံရပ်၍ တရားမျှတသော အုပ်ချုပ်ရေးတစ်ခုပေါ်လာအောင် ကြိုးစားရမည့်အစား သူ့အဘိဓမ္မာတွင် လာရှိသည့်အတိုင်း ကောင်းကင်ပျံတက်ရန်သာ ကြိုးစားနေလေတော့သည်။

ပလေတို၏ အဘိဓမ္မာ၌ ကမ္ဘာနှစ်ခုရှိလေသည်။ ကမ္ဘာတစ်ခုကား ခဏမလပ်ပြောင်းလဲနေသော ရုပ်ကမ္ဘာဖြစ်၍ အခြားကမ္ဘာတစ်ခုကား ရုပ်ကမ္ဘာနှင့် သီးခြားကင်းလွတ်နေသော နိစ္စထာဝရကမ္ဘာဖြစ်လေသည်။ ဤကဲ့သို့သော ကမ္ဘာမျိုးကား စိတ်ကူးမျှသာဖြစ်နိုင်လေသည်။ ထို့ကြောင့် ပလေတိုက ၎င်းစိတ်ကူးကမ္ဘာကို 'ဝိညာဉ်တော်ကမ္ဘာ' ဟု ခေါ်ဆိုခဲ့လေသည်။

ပလေတိုသည် လူ့အဖွဲ့အစည်းကြီး၏ စံနမူနာကို ဖော်ပြရာမှာပင် သူ၏စိတ်ကူးယဉ်နိစ္စကမ္ဘာကြီးဘက်သို့ စိတ်ဝင်စားခြင်းရှိခဲ့လေသည်။ သူသည် လူ့အဖွဲ့အစည်းကြီးတွင် အပြစ်များ၊ အဆိုးများရှိနေခြင်းကြောင့် လူ့အဖွဲ့အစည်းကြီးအတွင်းမှာပင် သူတို့၏ ရောဂါပျောက်ကင်းကြောင်း ဆေးကောင်း

ဝါးကောင်းကိုရှာမည့်အစား စိတ်ကူးယဉ်ထဲမှာသာ ဆေးကောင်း ဝါးကောင်းကို ရှာဖို့ စိတ်ကူးထုတ်လေသည်။ ပလေတိုသည် လောကတွင်း အဖွဲ့အစည်းကို ရှောင်ဖယ်၍ စံပြအဖွဲ့အစည်းတစ်ခုတည်ဆောက်ရန် စီမံခဲ့လေသည်။

သူ၏ စံပြအဖွဲ့အစည်း၌ လူတန်းစား ၃ ရပ်ရှိသည်။

(၁) အုပ်စိုးသူများ (တော်တည့် မှန်ကန်စွာ စောင့်ရှောက်သူများ)

(၂) စစ်သားများ (အုပ်ချုပ်ရေး အကူအညီများ)

(၃) ပညာသည်များ (လယ်သမားနှင့် အလုပ်သမားများ)

ပလေတိုသည် လူတန်းစား ၃ ရပ်ကို ဗြာဟ္မဏများ၏ 'ပုရိသသုတ္တ' ကဲ့သို့ ကိုယ်ခန္ဓာ၏ အစိတ်အပိုင်းများသဖွယ် မှတ်သားပိုင်းခြားလေသည်။ လူတန်းစားအသီးသီး သူ့လူတန်းစားနှင့်သူ ဆိုင်ရာတာဝန်များကို ထမ်းဆောင်သင့်ကြကြောင်းလည်း ပြောဆိုလေသည်။

(၁) ရိုးရိုးလူတန်းစား (အလုပ်သမား၊ လယ်သမား) က သူတို့လုပ်ငန်းဖြစ်သော လယ်အလုပ်နှင့် အလုပ်ကြမ်းများကို လုပ်ဆောင်ကြရမည်။ ရိုးရိုးလူတန်းစားမှာ စာရေးစာဖတ်များများ တတ်ဖို့မလို။ မဲဆန္ဒပေးဖို့မလို။ အုပ်ချုပ်ရေးယန္တရားတွင် ပါဝင်မောင်းနှင်ဖို့မလို။

(၂) စစ်သားများ၏တာဝန်ကား တိုင်းပြည်တွင် ငြိမ်းချမ်းရေးနှင့် ဥပဒေတည်တံ့ရေးကို ဆောင်ရွက်ရမည်။ နိုင်ငံခြားကျူးကျော်မှုများကို ရင်ဆိုင်တိုက်ခိုက်ရမည်။ လူဦးရေ တိုးလာသောအခါ နောက်ထပ် နေရာလိုလာပေမည်။ ထို့ကြောင့် ထိုးစစ်နှင့် ခံစစ်နှစ်ခုလိုအပ်လာပေသည်။ စစ်သားသည် ထိုစစ်နှစ်မျိုးတွင် တာဝန်ကျေအောင် ကောင်းမွန်စွာ ဆောင်ရွက်နိုင်ရမည်။ ထို့ကြောင့် စစ်သားများ အတတ်ပညာ ကောင်းကောင်းတတ်ထားဖို့လိုသည်။ သို့သော် အတတ်ပညာဟူသည်မှာ သူတို့၏လက်များ လက်နက်ကို မြောက်ချီရာ၌ နိုင်နိုင်မြောက်ချီဖို့နှင့် လက်မောင်းတောင့်ဖို့ အတတ်ပညာမျိုးဖြစ်ရမည်။ စစ်သားများ၏စိတ်ကို အကြောက်ကင်းအောင်၊ အသနားကင်းအောင် လုပ်ပေးရမည်။ စစ်သားမှာ လက်မှုပညာ တတ်နေဖို့မလိုပေ။ အုပ်ချုပ်ရေး အတတ်ပညာလည်း တတ်နေဖို့မလိုပေ။ ပလေတို၏ အစီအစဉ်အရ စစ်သားလူတန်းစားသည် တစ်လက်ထက်ပြီး တစ်လက်ထက် မပြောင်းလဲသော အမြဲတမ်းဖြစ်ရမည်။

(၃) တတိယမြောက် လူတန်းစား၌ ဓာတိပင်ကိုအားဖြင့်သော်လည်းကောင်း၊ အတတ်ပညာအားဖြင့်သော်လည်းကောင်း၊ ပြည်သူလူထုအားလုံး၏ တော်တည့်မှန်ကန်သော အစောင့်အရှောက်အုပ်စိုးသူများဖြစ်နိုင်လောက်အောင် အရည်အချင်းရှိသော ပုဂ္ဂိုလ်၊ အနုပညာနှင့် အဘိဓမ္မာပညာရပ်ကို ချစ်ခင်သော ပုဂ္ဂိုလ်ထူးများ ပါဝင်ရမည်။ ကိုယ်ကျိုးရှာသမား၊ အရက်သမား၊ ဇိမ်သမားများ မပါဝင်ရ။ ငါတကော မကောစေရ။ ပလေတို၏ အလိုအရ ပြည်စောင့်အုပ်စိုးရေးသမားများသည် ကိုယ့်နိုင်ငံကောင်းစားရေးကို အမြဲစိတ်ဝင်စား နေရမည်။ နိုင်ငံတော်အကျိုးကို ထိခိုက်မည်ဆိုလျှင် ဘယ်ကိစ္စမဆို ရှုတ်ချကဲ့ရဲ့ရမည်။

ပလေတိုသည် ပြည်စောင့်အုပ်ချုပ်ရေးသမားလုပ်မည့်သူများ သင်ကြားတတ်မြောက်ရမည့် ပညာရပ်များအတွက် ထူးထူးခြားခြား စီမံကိန်းတစ်ခုပြုလုပ်ခဲ့လေသည်။ ပထမအခြေခံအတတ်ပညာများကို တတ်ရမည်။ အသက် ၂၀ အရွယ်တွင် အခြေခံပညာအစမ်းပွဲအောင်မြင်ရမည်။

၎င်းနောက် အထူးတန်းပညာတွင် အခြားဘာသာရပ်များအပြင် ဂဏန်းသင်္ချာအတတ်၊ ဂျော်မက်ထရီ၊ နက္ခတ်အတတ်ပညာများ ပါဝင်ရမည်။ နောက် ၁၀ နှစ်ကြာ၍ အသက် ၃၀ ရှိသောအခါ နောက်ထပ် အစမ်းပွဲတစ်ခု ကျင်းပပေးရမည်။ ၎င်းအစမ်းပွဲကိုအောင်မြင်လျှင် ၅ နှစ်ကြာအောင် အဘိဓမ္မာကို သင်ရမည်။ အဘိဓမ္မာဆိုရာ၌ အထူးအားဖြင့် ပလေတို၏ အဘိဓမ္မာဟု ဆိုလိုပေသည်။ ပလေတို၏ အဘိဓမ္မာ၌ ရုပ်ကမ္ဘာကြီးကို အသုံးမကျကမ္ဘာကြီးဟုဆို၍ စိတ်ကူး (ဝိညာဉ်တော်) ကမ္ဘာကိုသာ အရေးအပါဆုံး၊ အကောင်းဆုံးဟု ဆိုလေသည်။

၃၅ နှစ်အရွယ်သို့ရောက်သောအခါ ထိုအာဏာပိုင်လောင်းကို လူ့လောကကြီးအတွင်းသို့သွတ်သွင်း၍ သာမန်အာဏာပိုင်အဆင့်အတန်း ရရှိစေရမည်။ ထိုအဆင့်အတန်းတွင် သူ၏သဘောတရားရေးရာ အတတ်ပညာများကို လက်တွေ့ကျင့်သုံးကြည့်ရမည်။ ၎င်းပြင် အမျိုးမျိုးသောဖြား ယောင်းသွေးဆောင်မှုမှတ်ကျောက်တွင်တင်၍ အသားကျသွားအောင် အလေ့အကျင့်လုပ်ပေးရမည်။

ထို့နောက် ပြည်သားတစ်ဦးဖြစ်ခွင့်ဆိုင်ရာ အစမ်းပွဲအမျိုးမျိုးကို နှစ်ပေါင်းများစွာ မပြတ်ဆက်လက်ကျင်းပစစ်ဆေးပေးရမည်။ နောက်ဆုံးတွင်

အသုံးသတ် အစမ်းပွဲ ၃ ပွဲကျင်းပစစ်ဆေးရမည်။ ပထမအစမ်းပွဲကား တက်ကျမ်းဆိုင်ရာဖြစ်သည်။ တက်ကျမ်းက တိုင်းကျိုးပြည်ကျိုးဆောင်၊ တိုင်းစောင့်ပြည်စောင့်အာဏာပိုင်များတွင် အရေးအကြီးဆုံး အမြင့်မြတ်ဆုံး တာဝန်ရှိသည်ဟု ယုတ္တိများဖြင့် အခိုင်အမာပြုပေးရမည်။ ဒုတိယအစမ်းပွဲကား သူရသတ္တိဆိုင်ရာဖြစ်သည်။ မိမိတို့လုပ်ငန်းကို ရိုသေစွာ စောင့်ရှောက်သောသူများသည် မျက်နှာမထောက် မကြောက်မလန့် မိမိ၏အယူဝါဒကို မြဲမြဲဆုပ်ကိုင်ကာ တန်ခိုးကြီးမားသော ရန်ရှင်များ၊ အထက်တန်းစားများ၏ အကျိုးစီးပွား အလိုဆန္ဒများကို ပြင်းပြင်းထန်ထန်ရင်ဆိုင်ရမည်ဖြစ်၍ အရေးတကြီးလိုအပ်လှပေသည်။ တတိယအစမ်းပွဲကား ကိုယ်ကာယချမ်းသာမှုနှင့် ပတ်သက်ရမည်။ ကိုယ်ကာယချမ်းသာမှုကို အရေးမပြုမူ၍ ဘယ်ဘဝရောက်သွားသွား အာဏာပိုင်သည် မိမိတာဝန်ကို ကြွံကြွံခိုင်ခိုင် ဆောင်ရွက်ရမည်။

တိုင်းစောင့်ပြည်စောင့် အဆင့်အတန်းသို့ရောက်ရှိပြီးသော်လည်း "အာဏာတွေ့ မမေ့ဘယ်ခံနိုင်ပ" ဆိုသကဲ့သို့ လူသားသည် ဖြားယောင်းမှုဒဏ်ကို ခံရတတ်လေသည်။ ထို့ကြောင့် ပလေတိုက သာမန်အသုံးအဆောင်များမှလွဲ၍ တိုင်းစောင့်ပြည်စောင့်များထံတွင် တစ်စုံတစ်ခု ပုဂ္ဂလိကပစ္စည်းများ မထားရ။ အားလုံးတစ်နေရာတည်းတွင်နေ၊ အစားတစ်မျိုးတည်းစားဖြစ်ရမည်။ လိုအပ်သော အသုံးစရိတ်ထက်မပိုစေဘဲ လစာကို တစ်မျိုးတည်းသတ်မှတ်ပေးရမည်။ ရွှေငွေကို ထိတို့ခြင်းမပြုရ။ ရွှေငွေလက်ဝတ်လက်စားများကို မဆင်ယင်ရဟု ဥပဒေပြဋ္ဌာန်းပေးခဲ့လေသည်။

တိုင်းစောင့်ပြည်စောင့်များအား သူတို့ကိုယ်တိုင်က တောက်ပသော ကမ္ဘာထဲမှ ရွှေငွေများဖြင့် ပြုလုပ်ထားသော ရွှေကိုယ်လေး ငွေကိုယ်လေးများဖြစ်သောကြောင့် အချည်းနှီးဖြစ်သော လူသားကမ္ဘာမှ ရွှေ၊ ငွေတည်းဟူသော အိုးခြမ်းကွဲကို မလိုအပ်ဟု သင်ကြားပေးရမည်။

ပလေတိုသည် တိုင်းစောင့်များအတွက် ရွှေကိုသာ ရှောင်ကြဉ်ရမည် ဟု ပညတ်သည်ကားမဟုတ်သေး။ သမီးသားနှင့် ဇနီးမယားများလည်း ပုဂ္ဂလိကမရှိရဟု ပညတ်ခဲ့လေသည်။ ပလေတိုသည် တိုင်းစောင့်များအတွက် "ဘုံ"မယားစနစ်ထွန်းကားအောင် ကြိုးစားခဲ့သည်ဟု ဆိုလိုသည်။

ပလေတိုလက်ထက် ပြည်သူ့အုပ်ချုပ်ရေးသမားများသည် မိမိကိုယ်

ကာယချမ်းသာမှု၊ ကြွယ်ဝမှုအတွက်သော်လည်းကောင်း၊ ဇနီးမယား၊ သမီးသားနှင့် ဆွေမျိုးများအတွက်သော်လည်းကောင်း၊ တံစိုးလက်ဆောင်စား၍ မတရားမှုများကိုပြုလုပ်ကာ စီးပွားရှာနေကြလေသည်။ ထိုကဲ့သို့သော အဖြစ်မျိုးမှ လွတ်မြောက်စေရန် ရည်ရွယ်၍သာ ပလေတိုက အဆိုပါစည်းကမ်းကို သတ်မှတ်လေသည်။

ပလေတိုရင်ဆိုင်ရသော အကြီးဆုံးပြဿနာမှာ အုပ်ချုပ်ရေးသမားများကို ရွေးချယ်နိုင်သော၊ မလိုသောအချိန်တွင် ဖြုတ်ချနိုင်သော အခွင့်အရေးရှိသည့် ဧသင်ကဲသို့ ပြည်သူ့အုပ်ချုပ်ရေးနိုင်ငံတွင် ပြည်သားအဖြစ် ခံယူရရှိသူများက အဆိုပါ အုပ်ချုပ်ရေးအာဏာလက်လွှတ်ခံ၍ အောက်တန်းစားဘဝတွင် ကျေကျေနပ်နပ်ကြီး ဘယ်နည်းနှင့်နေသွားနိုင်ပါအံ့နည်းဟူသော ပြဿနာဖြစ်၏။

ပလေတိုက ဖြေဆိုလိုက်သည်။

" ထို့ကြောင့်ပင် ထိုသူများအား အတတ်ပညာများ ပေးထားရမည်။ အများစုမဲကို ကိုယ့်ဘက်ပါအောင် ဆွဲဆောင်ရမည်။ အားလုံး ပြည်သူ ပြည်သားများသည် တစ်ခုတည်းသော "ပထဝီမာတာ"၏ သားစဉ်မြေးဆက်များဖြစ်ကြောင်း ပြည်သူပြည်သားများအား ပြောထားရမည်။ ထိုသို့ပြောထားသဖြင့် လူအားလုံးပင် ပဋိသန္ဓေအားဖြင့် တစ်မျိုးတစ်စားတည်းသော သတ္တဝါများဖြစ်ကြောင်း သူတို့ သဘောပေါက်လာကြလိမ့်မည်။ ပထဝီမာတာသည် လူတန်းစားအမျိုးမျိုးကို မွေးဖွားဖန်ဆင်းရာ၌ ဓာတ်အမျိုးမျိုးကို အသုံးပြုခဲ့ကြောင်း နောက်ထပ်ဆက်လက်၍ ပြောပြရမည်။ ပထဝီမာတာက ရွှေဓာတ်နှင့်မြေဓာတ်ရော၍ ဖန်ဆင်းလိုက်သောလူများတွင် အုပ်ချုပ်နိုင်သော သတ္တိရှိသည်။ ထို့ကြောင့် အုပ်ချုပ်ရေးသမားများဖြစ်ကြသည်။ ငွေဓာတ်နှင့်မြေဓာတ်ရော၍ ဖန်ဆင်းလိုက်သောသူများသည် အကူအညီ သို့မဟုတ် စစ်သားဖြစ်ကြရလေသည်။ သို့သော် သာမန်လူများကို ဖန်ဆင်းသောအခါ၌ကား ပထဝီမာတာသည် သံဓာတ်နှင့်ကြေးဝါဓာတ် ၂ မျိုးကို ရောစပ်၍သာ ဖန်ဆင်းခဲ့လေသည်။ ထို့ကြောင့် ၎င်းတို့သည် အလုပ်သမားမျှသာဖြစ်နိုင်ကြလေသည်။

သာမန်လူများက ဤပုံပြင်များကို ယုံကြည်၍ အောက်တန်းစားဘဝ

တွင် နေသွားဖို့ အသင့်ရှိပါမည်လော။ ဤပြဿနာ၏ အဖြေအဖြစ် ပလေတိုက ပြောလေသည်။

"ငယ်ငယ်လေးကပင် ရွှေ၊ ငွေ၊ သံ၊ ကြေးဝါ ပုံပြင်ကို ပြောပေးရမည်။ သူတို့ ပုံပြင်များကို ယုံကြည်ကြပါလိမ့်မည်"

ပလေတိုသည် သူ့ခေတ်ရှိလူများ၊ ဘာသာရေးနှင့်နတ်များအကြောင်းကို ရေးသားထားသော ပုံပြင်ပေါင်း မြောက်မြားစွာကို ယုံကြည်နေကြောင်း တွေ့မြင်ရလေသည်။ ယုံကြည်မှုမှာ ငယ်စဉ်အခါက ပုံပြင်များကို နားထောင်နေရခြင်း၏အကျိုးဟု ပလေတိုနားလည်လေသည်။ ကမ္ဘာအရပ်ရပ်တွင် ပညာရှိအခေါ်ခံသူများ၊ ခေတ်ပေါ်လောကဓာတ်(ဝိဇ္ဇာ)ပညာနှင့် ရင်းနှီးမှုရှိသောသူများပင် ဘာသာရေးပုံပြင်များကို ယုံကြည်နေကြပုံနှင့် သူတို့၏ အဘိဓမ္မာများကို ပုံပြင်များဖြင့် အခိုင်အမာပြုနေကြပုံ ကျွန်ုပ်တို့ မျက်မြင်ဖြစ်ပေသည်။

ဝါဒဖြန့်ခြင်းသည် ယနေ့ခေတ်ပေါ် အထူးအဆန်းတစ်ခုမဟုတ်။ အဘိဓမ္မာဆရာတစ်ဦးဖြစ်သော ပလေတိုပင် ဝါဒဖြန့်မှုတွင် အမှားကို အမှန်ဖြစ်အောင် လုပ်နိုင်သောအင်အားရှိသည်ဟု နားလည်လေသည်။ ပလေတိုသည် သူ့ခေတ် ဧသင်မြို့ရှိ ဓလေ့ထုံးစံကိုကြည့်၍ ဤဝါဒဖြန့်အသိကို ရရှိခဲ့လေသည်။

အခြားလုပ်ငန်းများအပြင် တိုင်းစောင့်ပုဂ္ဂိုလ်များလုပ်ရသောလုပ်ငန်းကား ကလေးသူငယ်များအား သူတို့၏ဓာတ်အလိုက်ကွဲပြားသွားအောင် လုပ်ပေးနေသော လုပ်ငန်းဖြစ်လေသည်။ သံ ကြေးဝါဓာတ်ရှိသော မိဘများမှ ပေါက်ပွားသော သားစဉ်မြေးဆက်တွင် ထူးချွန်သောကလေးများ 'ထွန်း'လာဖို့ အလားအလာ ရှိသည်။ ၎င်းပြင် ရွှေဓာတ်ရှိသော မိဘများမှ များသောအားဖြင့် သံကြေးဝါဓာတ်ရှိသော သားစဉ်မြေးဆက်'ဖောက်'လာတတ်သည်ဟု ပလေတိုက ယူဆယုံကြည်လေသည်။

ဟိန္ဒူတို့၏ လူမျိုးလေးပါး (ဗြာဟ္မဏ၊ ခတ္တိယ၊ ဝေဿ၊ သုဒ္ဒ)နှင့် ပလေတို၏ လူတန်းစားအစီအစဉ်မှာ အတော်အတန် တူညီမှုရှိသော်လည်း ပလေတို၏အစီအစဉ်က ပိုမိုရက်ရောခြင်းရှိလေသည်။ အကြောင်းသော်ကား ပလေတို၏ လူတန်းစားအစီအစဉ်သည် ပဋိသန္ဓေအားဖြင့် စီစဉ်ခြင်းမဟုတ်

ပေ။ ထို့ကြောင့် အကယ်၍ အဆိုပါလူတန်းစားများ၌ ဆိုင်ရာလူတန်းစား အသိဉာဏ်ရခဲ့လျှင် သားစဉ်မြေးဆက်အတွက် အထက်တန်းနှင့် အောက်တန်းသင့်သလို ရောက်သွားနိုင်သော လမ်းစရှိသေးသည်။

ပလေတို၏ တိုင်းစောင့်များသည် ဗြာဟ္မဏအရာတွင် တည်ရှိ၍ စစ်သားများကား ခတ္တိယ၊ အလုပ်သမားများကား ဝေဿအရာတွင် တည်ရှိလေသည်။ ကျွန်များ၏ အခြေအနေကိုပြောင်းဖို့ရန် တစ်စုံတစ်ရာလိုအပ်သည်ဟု ပလေတိုက မယူဆ။ ထို့ကြောင့် ကျွန်သည် ပလေတို၏ လူတန်းစားအစီအစဉ်အပြင်ဘက်ရောက်နေသော အနိမ့်ဆုံးအတန်းအစား လူသားသတ္တဝါမျှသာဖြစ်လေသည်။

အသိဉာဏ်ကင်းမဲ့သော လူငယ်များကို အချည်းနှီးလေးလံနေသော ဝန်ထုပ်ဝန်ပိုးဟု ပလေတိုက ယူဆလေသည်။ ဤကဲ့သို့ ဝန်ထုပ်ဝန်ပိုး ဖြစ်နေသောလူများကို ကျွေးမွေးစောင့်ရှောက်နေရခြင်းဖြင့် အရည်အချင်းရှိသော ပုဂ္ဂိုလ်များ အင်အားကုန် အချိန်ကုန်ဖြစ်ရခြင်းမှာ နိုင်ငံတော်အတွက် များစွာ ထိခိုက်နစ်နာသည်ဟုလည်း ယူဆလေသည်။ လူအများ စိတ်ဝင်စားသော ဤလူငယ်မျိုးများနှင့် မဆက်ဆံဖို့ ပလေတိုက အလိုရှိလေသည်။

အလွန်ဆင်းရဲခြင်း၊ အလွန်ချမ်းသာခြင်း နှစ်မျိုးစလုံးကို အဆိုးဟု ပလေတိုက ဆိုလေသည်။ ဆင်းရဲခြင်းသည် လူကို ညံ့အောင် ဆိုးဝါးအောင် သင်ကြားပေး၍ ချမ်းသာခြင်းကား ဖိမ်ခံအောင် ပျက်စီးအောင် လုပ်ပစ်တတ်သည်ဟု ပလေတိုက ဆိုလေသည်။

ပလေတိုက သူ့လက်ထက်ရှိ ဓနရှင်လူတန်းစားနှင့်ပတ်သက်၍ ရေးသားထားလေသည်။

"နိုင်ငံတော်ကို ပစ္စည်းဥစ္စာပေါ်တွင် အမှီပြု၍ တည်ဆောက်ထားရလျှင် အခွင့်အရေးများသည် ဓနရှင်များလက်သို့ ရောက်သွားတတ်၍ လူဆင်းရဲများသည် ထိုအခွင့်အရေးများမှ လက်လွတ်ရတတ်လေသည်။ နေ့စဉ်နေ့တိုင်းဆိုလျှင် ဓနရှင်များသည် ကုသိုလ်ကောင်းမှုပြုခြင်းကို ဂရုစိုက်သလောက် လူဆင်းရဲများကို ဂရုမစိုက်ကြချေ။ သို့သော် ကာလဆိုးဝါးလာသောအခါ ဓနရှင်များသည် လူဆင်းရဲများကို အထင်မသေးခဲ့ကြတော့ပေ။ စစ်ဖြစ်သောအခါ နေပူလောင်ထားသော ကြမ်းထော်သည့် ဆင်းရဲသားများကို ဓနရှင်

အတန်းအစားထဲသို့ ဝင်ရောက်ခွင့်ပေးကြလေတော့သည်။ ဤသို့အားဖြင့် ထိုအခါမျိုးတွင် ပြည်သူ့အာဏာပေါ်ပေါက်လာရလေသည်။ သို့သော် စစ်ပွဲတွင် ဆင်းရဲသားများသည် ဓနရှင်များထက် ပို၍ကျွမ်းကျွမ်းကျင်ကျင် 'ရေရှည်' တိုက်ခိုက်နိုင်သည်။ ဓနရှင်များသည် တစ်ခါမှ မိမိတို့ အရေကို နေပူကျက်ကျက်မခံဖူးပေ။ ကိုယ်ခန္ဓာတွင် အဆီများသာ တဖြည်းဖြည်း တိုးနေကြသည်"

ပလေတိုက ပြောဖူးသည်မှာ "လူပေါင်းများစွာ ဓနရှင်ဖြစ်သွားကြရခြင်းမှာ သူတို့ထံမှပစ္စည်းကို လုယူရဲသောသူမရှိသောကြောင့်ဖြစ်သည်" ဟူ၏။

ဆင်းရဲခြင်း၏အကြောင်းများကား (၁)ဆီလျော်သောအတတ်ပညာမရခြင်း(၂) မကောင်းသောအတတ်ပညာ သို့မဟုတ် အပျော်အပါးများခြင်းနှင့် (၃) မတရာမှုများ ပြည့်နှက်နေသော လူမှုစနစ်များ၊ မတရားမှုများ ပြည့်နှက်နေသော အုပ်ချုပ်ရေးဥပဒေများ ဖြစ်သည်။

ပလေတိုသည် သူ၏ စံပြနိုင်ငံတော်တွင် လူတိုင်းစေ့အတွက် ပစ္စည်းအနည်းဆုံးအတိုင်းအရှည်ကို ပိုင်းခြားထားခဲ့သည်။ လူတစ်ယောက်သည် ပိုင်းခြားထားသော အတိုင်းအရှည်လေးဆအထိ တိုးတက်နိုင်ခွင့်ရှိသော်လည်း တစ်သောင်းအခွန်တော်ဆောင်ပြီးမှ ယူရမည်ဖြစ်သည်။ အမွေအနှစ်နှင့်ပတ်သက်၍ ပလေတို၏အယူအဆကား "မိမိသားသမီးအတွက် ပစ္စည်းဥစ္စာမရှိသော မိဘအား သားသမီးများက အလေးအမြတ်မပြုရ" ဟူ၏။

ပလေတိုသည် ပြည်သူ့အာဏာအုပ်ချုပ်ရေးကို ဆန့်ကျင်ခဲ့၏။ ဧသင်မြို့ရှိ အဆိုပါ ပြည်သူ့အာဏာအုပ်ချုပ်ရေးအောက်တွင် သူ့ဆရာ အသတ်ခံသွားရပုံကို ပလေတိုမြင်ခဲ့ရသောကြောင့် ဖြစ်လေသည်။ ပုဂ္ဂလိကပစ္စည်းသည် အုပ်ချုပ်ရေးသမားများအား လောဘကြီးအောင် တရားပျက်ကွက်အောင် ကြီးစွာအကြောင်းပြုနေသည်ဟု နားလည်ပါသော်လည်း ပြည်သူလူတန်းစား ၏ အုပ်ချုပ်ရေးအရည်အချင်းအပေါ်တွင်ကား အယုံအကြည်မရှိပေ။ ပလေတိုသည် လူ့အဖွဲ့အစည်းကို ပုဂ္ဂိုလ်တစ်ဦးစီ၏ အလယ်တွင် အစိတ်အပိုင်းတစ်ခုအနေနှင့်ပါသော ပုဂ္ဂိုလ်၏ လုပ်ပုံကိုင်ပုံတစ်မျိုးတည်းမဟုတ်၊ ဆိုလိုသည်မှာ ပုဂ္ဂိုလ်၏အသီးသီးဆုံးဖြတ်ချက်နှင့် ပုဂ္ဂိုလ်များ၏ အပေါင်းအစုအဖွဲ့အစည်းက ချသောဆုံးဖြတ်ချက်မှာ ကွဲပြားခြားနားနိုင်သည်ဆိုချက်ကို ပလေတိုက မယုံကြည်။ ထို့ကြောင့် ပလေတိုသည် ပြည်သူ့အာဏာအုပ်ချုပ်

ရေးအစား ဖခင်အာဏာအုပ်ချုပ်ရေးကို တည်ဆောက်ရန် ကြိုးစားနေလေသည်။ ဂရိတ်လူမျိုးများ ဖခင်အာဏာခေတ်ကို ဖြတ်ကျော်ခဲ့သည်မှာ အနှစ်တစ်ထောင်ကျော်လွန်ခဲ့ပြီဖြစ်သော်လည်း ထိုဖခင်အာဏာ၏ အချို့သော အမှတ်အသားများ သူတို့လက်ထက်တွင်လည်း ရှိနေပုံပေါ်လေသည်။

အဘိဓမ္မာအရာတွင် ပလေတို၏အယူအဆကို လွန်လေပြီးသောအခါက အချင်းချင်းဆန့်ကျင်ဘက်ကျနေသော အဘိဓမ္မာဆရာများ၏ အယူအဆများ ပေါင်းဆုံနေပုံအဖြစ် ကျွန်ုပ်တို့ တွေ့မြင်ကြရသည်။ မှန်မှန် အားထုတ်သွားလျှင် ဉာဏ်အလင်းကို ရနိုင်သည်ဟူသောအချက်၌ ဆိုကရေးတီးနှင့် ပလေတို အယူအဆတူမျှလေသည်။ သာမန်မျက်စိနှင့် ကျွန်ုပ်တို့မြင်ရသော အရာဝတ္ထုများအားလုံးအမြဲတမ်းပြောင်းလဲ၍ အမြဲတမ်းရွေ့လျားစီးသွားနေသော အလျဉ်များဖြစ်သည်။ထိုအရာဝတ္ထုများနှင့်ပတ်သက်၍ "မဟာသစ္စာ" သို့ ဘယ်နည်းနှင့်မျှ မရောက်နိုင်ဟူသောအချက်၌ ဟေရာကလိတုနှင့် ပလေတို အယူအဆ တူမျှလေသည်။

ပလေတိုသည် ဧလိယာမြို့သားအဘိဓမ္မာဆရာများကဲ့သို့ မပြောင်းလဲသော ကမ္ဘာတစ်မျိုးကို ယုံကြည်၏။ ပရမာဏုဝါဒီတို့၏ ဗဟုတ္တ(ဒွေတ) ဝါဒ(အရင်းခံအကြောင်းအမြောက်အမြားရှိသည်ဟူသော ဝါဒ)ကို ထောက်ခံ၍ မူလဓာတ်ဝိညာဉ်တော် အမြောက်အမြားရှိသည်ဟု ဆိုလေသည်။ ဤသို့ အားဖြင့် "ဉာဏ်၏ ယထာဘူတအာရုံကား အမြဲတမ်းပြောင်းလဲနေသော ကမ္ဘာကြီးနှင့် ၎င်းကမ္ဘာကြီးရှိ ဝတ္ထုပစ္စည်းများမဟုတ်။ အမှန်မှာ ဉာဏ်၏ အာရုံကား လောကကို လွန်သော၊ မလှုပ်ရှားသော၊ တစ်မျိုးတည်းသောသဘော ရှိသော စက္ခုန္ဒြေစသော ဣန္ဒြေတို့ဖြင့် မယူနိုင်သောအရာ ဝိညာဉ်တော် (စိတ်တော်) ဖြစ်သည်ဟူသော ဆုံးဖြတ်ချက်ကို ပလေတိုချခဲ့လေသည်။

၎င်းယူဆပုံသည် 'ပိုက်သာဂေါရပ်စ်' ၏ ပုံဟန် (အာကတိ) ဝါဒနှင့် ရောစပ် နီးနွှယ်ခဲ့လေသည်။ ဤသို့အားဖြင့် ပလေတို၏ အဘိဓမ္မာသည် ပိုက်သာဂေါရပ်စ် ဟေရာကလိတုနှင့် ဆိုကရေးတီး အဘိဓမ္မာဆရာကြီး ၃ ဦး၏ အယူအဆများ ပေါင်းစပ်မိအောင် လုပ်ခဲ့လေသည်။

စက္ခုန္ဒြေစသော ဣန္ဒြေတို့ဖြင့် ယူနိုင်သော အာရုံ (ဣန္ဒြိယပစ္စက္ခ)တို့ကို သိသော ဉာဏ်အပေါ် ပလေတိုက အရေးမပေးလှပေ။ ဣန္ဒြိယပစ္စက္ခ ဝတ္ထု

များ၏ တတယ့်တကယ်ရှိမှုကိုလည်း မဖော်ပြ၊ ပလေတိုသည် ကျွန်ုပ်တို့အား ၎င်းအရာဝတ္ထုများမှ အပြင်အပဆီသို့ မျှော်မှန်းစေ၏။ ထင်မြင်ချက်သည် မှန်သော်ရှိ၊ မှားသော်ရှိ၊ ထို့ကြောင့် ထင်မြင်ချက် သက်သက်သည် အရေးကြီးသောအရာမဟုတ်ပေ။ တကယ့်ဉာဏ်ဟူသော ဝိဝေကသတ္တိ သို့မဟုတ် ဝင်စားခြင်းမှ ပေါ်လာသည်။ ဣန္ဒြေတို့ဖြင့် ယူနိုင်သောကမ္ဘာသည် ပျက်လွယ်–စီးလွယ် 'အတု'တစ်ခု၏ တကယ်ရှိမှုဖြစ်၏။ ၎င်းကမ္ဘာသည် တကယ်ရှိမှု အကြမ်းစားခန့်မှန်းခြေမျှသာဖြစ်၏။

ဉာဏ်ကို ရရှိမှုမှာ တွေးခေါ်ဝင်စားခြင်း ၂မျိုးအပေါ်တွင် တည်ရှိလေသည်။ (၁) ဝိညာဉ် (စိတ်) လောက (IDEA) တွင် ပြန့်ကျဲနေသော ဝိသေသ (PARTICULAR)များကို နှလုံးသွင်းခြင်း(၂) ဝိညာဉ်လောကကို ဇာတိ (ARCHETYPE)သို့မဟုတ် သာမညအနေအားဖြင့် ခွဲစိတ်ပစ်ခြင်းဟူ၍ တွေးခေါ်ဝင်စားခြင်း ၂မျိုးရှိလေသည်။ အဆိုပါ သာမညနှင့် ဝိသေသသဘော ၂ မျိုးသည် အိန္ဒိယပြည်ဖြစ် နျာယကျမ်းနှင့် ဝိသေသိကကျမ်းများတွင် များစွာပါဝင်၏။ ဝိသေသိကသုတ်များတွင် ပါဝင်သော ဝတ္ထု ၆ မျိုးအနက် သာမညနှင့် ဝိသေသသည် စတုတ္ထနှင့် ပဥ္စမဝတ္ထုများဖြစ်ကြ၏။ အဆိုပါ သာမညဝိသေသတို့ ထွက်ပေါ်ရာသည် ဂရိတ်အဘိဓမ္မာဆရာကြီး ပလေတိုသာ ဖြစ်လေသည်။

တွေးခေါ်စိတ်ဝင်စားမှုသည် အသိဉာဏ်၏ အကြောင်းဖြစ်သည်ဟူရာ၌ ဝိညာဉ်တော်လောကကို တွေးခေါ်ဝင်စားခြင်းသာ ဖြစ်သင့်သည်။ ဣန္ဒြေတို့ဖြင့် ယူနိုင်သော ဗဟိဒ္ဓကမ္ဘာ၏ အရိပ် သို့မဟုတ် ခံစားခြင်းအပေါ်တွင် ဝင်စားတွေးခေါ်မှုကား ကျွန်ုပ်တို့ကို သစ္စာသို့တိုင်အောင် မရောက်စေနိုင်ဟုလည်း ပလေတိုက ယူဆလေသည်။

ပလေတိုက အချို့သော အရာဝတ္ထုများကို သယံသိဒ္ဓ(APRIORI)ဟု ဆိုလေသည်။ ၎င်းတို့အထဲတွင် ဂဏန်းကျမ်းဆိုင်ရာ ဉာဏ် (သင်္ချာ) နှင့် တက်ကျမ်းဆိုင်ရာဘာဝ၊ အဘာဝ သဒိသ ဘာဝ၊ ဘေဒ၊ ဧကတာ၊ အနေကတာဟူသော အရာဝတ္ထုများပါဝင်၏။ ၎င်းအရာဝတ္ထုများအနက် အချို့သော အရာဝတ္ထုများကို ဝိသေသိက ကျမ်း၌လည်း ဖွင့်ဆိုဖော်ပြထား၏။

ဝိညာဉ်တော်နှင့် ယထာဘူတ သဘောပေါင်းဆုံခြင်းသည် ဉာဏ်မည်

၏။ ယထာဘူတ သဘောသည် အာရုံမရှိဘဲ မဖြစ်နိုင်၊ အာရုံတစ်ခု မုချရှိရမည်။ ထိုအာရုံဟူသည်ပင် တစ်ခုတည်းသော သဘောရှိသည့် ဝိညာဉ်တော်ဖြစ်၏ဟု ပလေတိုက ဉာဏ်အခေါ်နှင့်ပတ်သက်၍ ပရိဘာသာ ပြုခဲ့လေသည်။

မှန်ကန်သော ဘာဝ ဝတ္ထုပစ္စည်းမှာ ထာဝရဖြစ်သည်။ မပြောင်းလဲ၊ အစမထင်ဖြစ်သည်။ ထို့ကြောင့် ယထာဘူတ ဉာဏ်အတွက် ဝတ္ထုပစ္စည်းများ၏ ထာဝရဖြစ်သော၊ မပြောင်းလဲသော အနှစ်သာရကို သိဖို့လိုသည်ဟု ဘာဝ ဝတ္ထုပစ္စည်းနှင့်ပတ်သက်၍ ပလေတိုက ဆိုလေသည်။

ဣန္ဒြေတို့ဖြင့် ယူနိုင်သော အရိပ်ထင်ချက် သို့မဟုတ် ဝေဒနာများမှ ရသော ဉာဏ်မဟုတ်ဘဲ ၎င်းတို့မှအပ သန့်ရှင်းသော ဝိညာဉ်တော်မှရသော ဉာဏ်သာလျှင် ဝတ္ထုပစ္စည်းတို့၌ ထက်ဝန်းကျင်(သာမည)မပြောင်းလဲသော အနှစ်သာရကို သိမှုဉာဏ်ဖြစ်လေသည်။ ၎င်းသာလျှင် သစ္စဉာဏ်ဖြစ်လေသည်။

အိန္ဒိယပြည်၌ သာမညကို အပြင်းအထန်ဆန့်ကျင်သော ရန်သူများကား ဗုဒ္ဓဘာသာဝင်များဖြစ်လေသည်။ ဆန့်ကျင်ရခြင်းအကြောင်းသော်ကား ထိုသာမည၌ နိစ္စဝါဒတည်ဆောက်ရေးကို လျှို့ဝှက်ကြိုးစားနေသည်ဟု ဗုဒ္ဓဘာသာဝင်များက ယူဆထားသောကြောင့်ဖြစ်လေသည်။

နေယာယိကဆရာများသည် ပုဂ္ဂိုလ်၊ ပုံဟန်၊ ဓာတ် ၃ မျိုးကို အမှတ်အသားပြုကြ၏။ ပစ္စက္ခဝါဒီ (လက်တွေ့သမား) များက ထင်ရှားရှိမှုဟူသည် ပုဂ္ဂိုလ်အပေါ်တွင်သာ ရှိသည်။ ဦးနှောက်မှ အပြင်ဘက်တွင် ဝိညာဉ်သို့မဟုတ် ဓာတ်ကဲ့သို့သော အရာဝတ္ထုတစ်စုံတစ်ခု၏ တကယ့်ရှိမှုကို မတွေ့ရပေဟု ဆိုကြလေသည်။ 'အန္တိစ္စထိန်'အမည်ရှိ ပုဂ္ဂိုလ်ကြီးက 'ငါသည် မြင်းတစ်ကောင်ကို မြင်ပါ၏။ သို့သော် မြင်းဓာတ် (သာမည) ကိုကား မမြင်ရပါ'ဟု ဆိုခဲ့ဖူးလေသည်။ ပိုက်သာဂေါရပ်စ်က ပုံဟန် (အာကတိ) ကို အရေးပေးကြောင်း ကျွန်ုပ်တို့ ဆိုခဲ့ပြီးလေပြီ။ ပလေတိုသည် 'သာမည' ဘက်တော်သားဖြစ်၏။ ပလေတိုသည် ပြောင်းလဲဖောက်ပြန်တတ်သော ကမ္ဘာအပြင်ပေါ်တွင် မပြောင်း လဲ မဖောက်ပြန်တတ်သော သဘောတစ်ခုတည်းရှိ အရာဝတ္ထုကို အခိုင်အမာ ပြုရန် ကြိုးစားခဲ့လေသည်။ ထိုလုပ်ငန်းအတွက်

'သာမည'သည် လက် နက်ကောင်းတစ်ခုဖြစ်၏။ အဆိုပါ လျှို့ဝှက်ချက်ကို ဗုဒ္ဓဘာသာဝင် နေယာယိက (တက်ကျမ်းဆရာ)များက ကောင်းကောင်း သိကြ၏။ ထို့ကြောင့် ရှင်ဓမ္မ ကိတ္တိကသာမညကို ရစရာမရှိအောင် လုပ်ပစ်သည်ကို ကျွန်ုပ်တို့ တွေ့နိုင်ကြ ပေသည်။

အရာဝတ္ထုတို့၏ အစဖြစ်၍ အစမရှိသော အာရုံအဖြစ်သို့ မရောက်သော မူလသရုပ်(ARCHETYPE)သည် အရာဝတ္ထုတို့အရင်ကျ၏။ ၎င်းတို့နှင့် သီးခြားကင်းလွတ်စွာ ထင်ရှားရှိခဲ့၏။ အရာဝတ္ထုတို့တွင် ပြောင်းလဲ မှုရှိ၏။ သို့သော် မူလသရုပ်ကို အဆိုပါပြောင်းလဲမှုက အနည်းငယ်မျှ မလွှမ်းမိုးနိုင်ဟု ပလေတိုက ဆိုလေသည်။

မြင်းသည် အလုံးအခဲအထူးတစ်ခုဖြစ်၏။ ၎င်းမြင်းကို ကျွန်ုပ်တို့ မျက်စိဖြင့် မြင်ရ၏။ လက်များဖြင့် ထိတို့ရ၏။ သို့မဟုတ် အခြားဣန္ဒြေများဖြင့် လက်တွေ့ယူနိုင်၏။ သို့သော် ပစ္စုပ္ပန်အတိတ်အနာဂတ်ကာလရှိ သိန်းပေါင်းများစွာ မရေတွက်နိုင်သော မြင်းများအတွင်း၌ တွေ့ရသောအဖြစ် (မြင်းဇာတ်) တည်းဟူသော အရာဝတ္ထုတစ်ခုကား မြင်းကောင်များသေကျေပျက်စီးသွားပြီးနောက်လည်း မပျောက်ပျက်တော့ပေ။ ထိုမြင်းဇာတ်သည် မြင်းကောင်များ မမွေးဖွားမီကပင် ထင်ရှားခဲ့လေသည်။ ပလေတိုက ဤမြင်းဇာတ် သို့မဟုတ် မြင်းသာမညကို မြင်းအကောင်အထည်၏အစဖြစ်၏။ အစမရှိ၊ အာရုံအဖြစ်သို့ မရောက်သော မူလသရုပ်ဖြစ်၏။ မြင်းအကောင်အထည်၏ အရင်ကျ၏။ မြင်းနှင့် သီးခြားဖြစ်၏။ လွတ်လပ်သော အရာဖြစ်၏။ ပြောင်းလဲခြင်းက မလွှမ်းမိုးနိုင်။ နိစ္စသဘောတရားတစ်ခုဟု အခိုင်အမာပြုလုပ်လိုသည်။ အကောင်အထည်အနေအားဖြင့် ကျွန်ုပ်တို့ မြင်ကြရသော အရာဝတ္ထုများ သည် အဆိုပါ အစမထင်သော 'မူလရုပ်' သာမည(မြင်းဇာတ်၊ နွားဇာတ်) ၏ အရိပ်သို့မဟုတ် မပြည့်မဝသော အတုအပသာဖြစ်သည်။ အကောင်အထည်များသည် ရောက်လာလိုက် ပျောက်သွားလိုက်နေသည်။ သို့သော် ဝိညာဉ် သို့မဟုတ် မူလသရုပ်(သာမည)ကား အမြဲတမ်းတစ်သဘောတည်း ရှိနေပေလိမ့်မည်။ လူများသည် အကောင်အထည်အနေအားဖြင့် ပေါ်လာလိုက် ပျောက်သွားလိုက် နေပေလိမ့်မည်။ သို့သော် လူဇာတ်(လူသာမည) ကား အမြဲတမ်းတည်ရှိပေလိမ့်မည်။

အချင်းချင်း ပေါင်းစပ်၍ ဝိညာဉ်(IDEA)သည် ပြည့်စုံသော အကောင်အထည်တစ်ခုကို ပြုလုပ်၏။ ၎င်းအကောင်အထည်တွင် အသီးသီးဝိညာဉ်များသည် သူ့နေရာနှင့်သူ ရှိကြ၏။

ပလေတိုလက်ထက် လူ့အဖွဲ့အစည်းကား ကျွန်နှင့်သခင်ပေါင်းစပ်ထားသော လူ့အဖွဲ့အစည်းဖြစ်၏။ ၎င်းအဖွဲ့အစည်း၌ ကိုယ်ကျိုး၊ ကိုယ်စီးပွားအကြောင်းခံ၍ အပြင်းအထန်အတွင်းကျိတ်ဆန့်ကျင်နေကြ၏။

ဤကဲ့သို့သော ဆန့်ကျင်ဘက်ဖြစ်မှုများကို နှုတ်တိုက်ချပေးသော ကဗျာများဖြင့် ပလေတိုသာ ပျောက်အောင် လုပ်ခဲ့သည်မဟုတ်သေး။ ပလေတိုအရင်ရာစုအနည်းငယ်ရှေးကျသော အိန္ဒိယပြည် ဣသိများလည်း လူတန်းစားဆန့်ကျင်မှုပပျောက်ရေးရည်ရွယ်ချက်ဖြင့်ပင် 'ပုရိသသုတ္တများ' များ ပြုလုပ်ဖန်တီး၍ ဗြဟ္မဏ၊ ခတ္တိယ၊ ဝေဿ၊ သုဒ္ဒလူမျိုးများကို ဦးခေါင်း၊ လက်မောင်း၊ ပေါင်၊ ခြေထောက်များဖြင့် ဥပမာပေး၍ လူ့တစ်ဖွဲ့တစ်စည်းလုံးဆိုင်ရာ ငြိမ်းချမ်းရေးတည်ဆောက်ရန် ကြိုးစားခဲ့ကြလေသည်။

အဘိဓမ္မာနယ်ပယ်တွင် အလားတူ ဥပမာများဖြင့် ဝိညာဉ်အနိမ့်အမြင့်အဆင့်အတန်းရှိဟန် ပလေတိုက တည်ဆောက်ပြသခဲ့လေသည်။ အမြင့်ဆုံးသောဝိညာဉ်ကား ဘုရားသခင်ဝိညာဉ်တော်ဖြစ်လေသည်။ ၎င်းဝိညာဉ်တော်ကား အားလုံးသောဝိညာဉ်တို့၏ အမွန်အစဖြစ်၏။ ၎င်းဝိညာဉ်တော်ကား ကြီးမြတ်လှစွာ၏။ ၎င်းဝိညာဉ်တော်ထက်ကြီးမြတ်သော အခြား မည်သည့်ဝိညာဉ်တော်မျှမရှိ။

ကမ္ဘာတွင် အရာဝတ္ထုနှစ်မျိုးရှိ၏။ တစ်မျိုးကား ဝိညာဉ်(မန)၊ အခြားတစ်မျိုးကား ရုပ်ဝတ္ထုဖြစ်လေသည်။ သို့သော် ထိုနှစ်မျိုးအနက် ဝိညာဉ်သာလျှင် တကယ်ရှိသော အရာဝတ္ထုဖြစ်၏။ ဝိညာဉ်သာလျှင် အဖိုးအနမတဂ္ဂထိုက်သော အရာဝတ္ထုဖြစ်၏။ အရာဝတ္ထုတိုင်း၏ အသွင်နှင့်အနှစ်သာရသည် နောက်ဆုံး၌ ဝိညာဉ်ကိုသာ အမှီပြုရလေသည်။ ကမ္ဘာ၌ ဝိညာဉ်သာ အုပ်ချုပ် မှုမောင်းနှင်မှုများကို ပြုလေသည်။ အခြားရုပ်ဝတ္ထုပစ္စည်းကား မူလမဟုတ်၊ အကျိုးတရားသာဖြစ်သည်။ တောက်ပမှုမရှိ၊ သေးတွဲ့နုံ့နှေး၏။ ဇွဲဆော်မှုမရှိ၊ အသေသာဖြစ်၏။ ကိုယ်လိုရာမသွား၊ မလိုရာသို့သွားနေသော သတ္တိများသာဖြစ်၏။ ရုပ်တရားတို့သည် အလိုဆန္ဒကင်းမဲ့စွာ ဝိညာဉ်၏

ကျွန်များသာဖြစ်ကြ၏။ ဝိညာဉ်အမိန့်အတိုင်းက နေကြရ၏။ နေရာတကာမှာ ပင် ဝိညာဉ်၏အမှတ်လက္ခဏာများ ရုပ်ပေါ်တွင် ထနေသည်။ အဆိုပါ မူလသ ရုပ် (ဝိညာဉ်) သာလျှင် အပြုသဘောပါဝင်သော အကြောင်းတရားဖြစ်၏။ ရုပ်ဝတ္ထု ကား တွဲဖက်အကြောင်းသာဖြစ်၏။

အမြင့်ဆုံးသော ဝိညာဉ်တော်ကား ဘုရားသခင်(ဖန်ဆင်းသူ DE-MIURGE )ဖြစ်၏။ ပလေတိုသည် ဖန်ဆင်းသူကို ကျောက်ဆစ်သမားနှင့် ဥပမာပေး၏။ ဖန်ဆင်းသူသည် လူသားကျောက်ဆစ်သမားကဲ့သို့ ဝိညာဉ် လောကတွက် ထင်ရှားရှိနှင့်သော နမူနာ (မူလသရုပ်သာမည) အားလျော်စွာ ရုပ်ကမ္ဘာကို ဖန်ဆင်း၏။ ဝိညာဉ်အားလျော်စွာတတ်နိုင်သမျှ ဘုရားသခင် က ပြည့်စုံသောကမ္ဘာတစ်ခုကို ဖန်ဆင်း၏။ သို့ပင် တတ်နိုင်သမျှ ပြည့်ဝ အောင် ဖန်ဆင်းပါသော်လည်း၊ အကယ်၍ ကမ္ဘာတွင် တစ်စုံတစ်ရာ မပြည့်ဝ မှုများတွေ့ခဲ့ရသော် ကျောက်ဆစ်သမားအပေါ် အပြစ်မချသင့်ပေ။ အကြောင်း သော်ကား ဖန်ဆင်းရသော အကြောင်းအရာများကား ရုပ်တရားများဖြစ်သည်။ ရုပ်တရားများသည် ဖန်ဆင်းသူ၏ လုပ်ငန်းများတွင် အနှောင့်အယှက်ပေး လေသည်။ ဖန်ဆင်းသူ ကိုယ်တိုင်ကား အမြင့်ဆုံးဝိညာဉ်တော်ဖြစ်၏။ သို့ သော် ဝိညာဉ်အပြင် ရုပ်ဝတ္ထုများလည်း မဆွကပင် ရှိနှင့်၏။ ရုပ်ကမ္ဘာနှင့် နာမ်ကမ္ဘာနှစ်မျိုး မဆွကပင် ရှိနှင့်ကြ၏။ အဆိုပါ ကမ္ဘာနှစ်မျိုးဆက်စပ်မိစေ ရန် ဝိညာဉ်အနေအားဖြင့် ထင်ရှားရှိသော မူလသရုပ်များ၂(သာမညများ) အားလျော်စွာ ရုပ်ကမ္ဘာကို စီရင်မှု၌ လက်သည် တစ်ဦးမှုချလိုအပ်ပေသည်။ ထိုလက်သည်ပင် ဖန်ဆင်းသူဖြစ်လေသည်။

ထိုဖန်ဆင်းသူကပင် အပြင်လောကနှင့် အတွင်းလောကကို ဆက်စပ် ပေးလေသည်။ ပလေတိုက ဖန်ဆင်းသူမှာ 'သိဝ'(ကောင်းသောသူ)ဟု ဆို၏။ ပလေတိုသည် ဖန်ဆင်းသူကို နေနှင့်ဥပမာပေး၏။ နေသည် အရာဝတ္ထုများ ဖြစ်ပေါ်တိုးတက်လာမှု၏ အမွန်အစလည်းဖြစ်၏။ ထိုအရာဝတ္ထုများကို သိနိုင်အောင် လှည့်ပြသော အလင်းရောင်အမွန်အစလည်းဖြစ်၏။ ဤသို့ အားဖြင့် 'သိဝ'သည် အားလုံးသော ဝတ္ထုပစ္စည်းများ၊ သတ္တာများ၊ ၎င်းတို့နှင့် ပတ်သက်နေသော ကျွန်ုပ်တို့၏ အသညာဏ်များ၏ အမွန်အစလည်းဖြစ်၏။

ပလေတို၏ အဘိဓမ္မာသည် ဆင်ခြင်တုံဝါဒနှင့်ပတ်သက်၏။ အ

ကြောင်းသော်ကား ပလေတိုသည် ဉာဏ်ရရှိရေးအတွက် လက်တွေ့အပေါ် အရေးမပေးဘဲ ဆင်ခြင်တုံအပေါ် အရေးပေးလေသည်။ လက်တွေ့ကမ္ဘာနှင့် သီးခြားဖြစ်၍ ဆင်ခြင်တုံဖြင့်ယူအပ်သော ဝိညာဉ်လောကသာလျှင် ပလေတို၏တကယ့်ကမ္ဘာဖြစ်လေသည်။ ဝိညာဉ်တော်ဝါဒသမားကား ပလေတိုမှ အစစ်ဖြစ်လေသည်။ အကြောင်းသော်ကား ဝိညာဉ်လောက(မူလသရုပ်) သာလျှင် သူ့အတွက် တစ်ခုတည်းသောအနှစ်သာရဖြစ်လေသည်။ ပလေတိုကို ဗဟိဒ္ဓဝါဒသမားဟုလည်း ခေါ်နိုင်သေးသည်။ အကြောင်းသော်ကား အပြင်အပကမ္ဘာကို အခြေခံမရှိမဟုတ်။ တကယ့်ကမ္ဘာ(ဝိညာဉ်ကမ္ဘာ)၏ အပြင်ဘက်ထွက်လာသော အလင်းရောင်ဟု ပလေတိုက ဆိုလေသည်။ တစ်ကမ္ဘာလုံးစပ်ပေးသော ဝိညာဉ်တော်(ဘုရားသခင်)၏ ရှိမှုကိုလက်ခံ၍ ပလေတိုသည် ဗြဟ္မဝါဒသမားတစ်ယောက်လည်းဖြစ်၏။ သို့သော် သူသည် ရုပ်ဝါဒသမားတစ်ဦးကား လုံးဝမဟုတ်။၊ အကြောင်းသော်ကား ရုပ်ဝတ္ထုပစ္စည်းနှင့် ၎င်းတို့ဖြင့် ပြုလုပ်ထားသော ကမ္ဘာကို ပဓာနမဟုတ်၊ အပဓာနဟုသာ ယူဆလေ၏။

သူသည် လူ့အဖွဲ့အစည်းအတွင်း၌ ပြောင်းလဲခြင်းကို အလိုရှိ၏။ သို့သော် အမာခံအထင်အရှားရှိသော လူ့အဖွဲ့အစည်းမဟုတ်ဘဲ၊ 'မူလသရုပ်' ကိုသာ အခြေခံထား၍ ပြောင်းလဲချင်လေသည်။

## အရစ္စတော် (တလ)

အရစ္စတော် (တလ)သည် ဗုဒ္ဓ(၅၆၃–၄၈၃ ဘီစီ)မှ အနှစ်တစ်ရာနောက်ကျ၍ 'ဆထဂိရာ'တွင် မွေးဖွားခဲ့လေသည်။ သူ၏ ဖခင် 'နိကိုမာကျု' သည် ဆိကန္ဒရ်၏ဖခင် မကဒူနိယာဘုရင် ဖိလစ်(ပ)၏ သမားတော်ကြီးဖြစ်လေသည်။ အရစ္စတော် (တလ) ငယ်စဉ်ကပင် ပလေတို၏ ကျော်စောသတင်းမှာ အလွန်ပျံ့နှံ့ခဲ့လေသည်။ ၁၇ နှစ်အရွယ်၌ (၃၆၇ ဘီစီ) အရစ္စတော် (တလ) သည် ပလေတို၏ကျောင်းတွင် ဝင်ရောက်၍ အနှစ် ၂၀ ကြာပြီးနောက် (၃၄၇ ဘီစီ)၌ ပလေတို ကွယ်လွန်သည်တိုင်အောင် သူ့ဆရာနှင့်အတူပင် နေထိုင်ခဲ့လေသည်။

ဖိလစ်(ပ)ဘုရင်သည် သူ့သား ဆိကန္ဒရ်(၃၅၃–၃၂၃ ဘီစီ) ပညာသင်

ကြားရေးအတွက် အရည်အချင်းပြည့်ဝသော ဆရာတစ်ယောက်အလိုရှိ၏။ ဖိလစ်သည် အရစ္စတော် (တလ) ကို မြင်မိလေသည်။

ကမ္ဘာကိုအောင်ပွဲဆင်သော ဆိကန္ဒရ်ဘုရင်ပေါ်လာအောင် ဖန်တီးရာဝယ် အရစ္စတော် (တလ) ၏လက်ရာ ထူးခြားစွာ ပါဝင်လေသည်။ ၎င်းလက်ရာ၏ ဗီဇမျိုးစေ့ကိုရှာဖွေရန် ကျွန်ုပ်တို့သည် အရစ္စတော် (တလ) ၏ဆရာ ပလေတိုနှင့် ဆရာကြီး ဆိုကရေးတီးတိုင်အောင် ဆက်လက်သွားရပေမည်။ ဆိုကရေးတီးသည် သူ၏ လွတ်လပ်သော တွေးခေါ်မှုများအတွက် ဧသင်မြို့လူထု ရွေးချယ်တင်မြှောက်ခြင်းခံရသော အာဏာပိုင်များ၏ ဒေါသအမျက်ခြောင်းခြောင်းထွက်ခြင်းကို ခံခဲ့ရလေသည်။

ပလေတိုသည် သူ့လက်ထက်ရှိ လူ့အဖွဲ့အစည်းကို မကျေနပ်၊ ထို့ကြောင့် လက်ရှိအဖွဲ့အစည်းကို ပြောင်းလဲမှုပေါ်လာအောင်လုပ်၍ ကွန်မြူနစ်ဝါဒဆိုင်ရာ လူ့အဖွဲ့အစည်းတစ်ခုတည်ဆောက်ရန် လိုလားခဲ့ပေသည်။ သို့သော်လည်း အဆိုပါ လူ့အဖွဲ့အစည်း၏ အောက်ခြေကို မြေပေါ်တွင် ပလေတိုက မချလိုခဲ့ပေ။ ပလေတိုသည် အဆိုပါ လူ့အဖွဲ့အစည်းကို 'ဝိညာဉ်လောက' မှ ဆောင်ယူလိုပေသည်။ သူ၏ အုပ်ချုပ်ရေးကိုလည်း လောကသား ရိုးရိုးများလက်သို့မအပ်နှံဘဲ လောကအပြင်ဘက်ကျသော စိတ်ကူးကမ္ဘာဆီသို့ပျံသန်းနေသော အဘိဓမ္မာဆရာများလက်ထဲသို့ ပေးအပ်လိုပေသည်။

သူ၏ ကွန်မြူနစ်ဝါဒဆိုင်ရာ လူ့အဖွဲ့အစည်းတည်ဆောက်ရေးတွင် ကမ္ဘာကိုအောင်ပွဲဆင်သော ဘုရင်အဖော်တစ်ဦးရနိုင်မည်ဟု သိခဲ့ပါမူကား ၁၈ ရာစု ၁၉ ရာစု ဥရောပတိုက်သား ဆိုရှယ်လစ်ဝါဒသမားများ–ပရူဒွန် (အေဒီ ၁၈၀၉–၆၅) အစရှိသည်တို့ကဲ့သို့ ပလေတိုလည်း ကွန်မြူနစ်ဝါဒသမား ဘုရင်တစ်ဦးကို ရှာဖွေခဲ့ပေရာသည်။

အရစ္စတော် (တလ)သည် အနှစ် ၂၀ တိုင်အောင် သူ့ဆရာ၏ အယူအဆများကို ကြားနာနေခဲ့ရ၏။ ထို့ကြောင့် ဆရာ့အယူအဆများ သူ့အပေါ်လွှမ်းမိုးမည် မှာ မလွဲမရှောင်သာပေ။

ပလေတို၏ ကွန်မြူနစ်ဝါဒနိုင်ငံသည် အရစ္စတော် (တလ) မှတစ်ဆင့် ဆိကန္ဒရ်ဆီသို့ ကမ္ဘာလုံးဆိုင်ရာ နိုင်ငံတော်သို့မဟုတ် စကြဝဠာနိုင်ငံတော်အဖြစ် ဆိုက်ရောက်သွားခဲ့လျှင် တစ်စုံတစ်ရာ အံ့ဖွယ်မရှိပါပေ။

ဗုဒ္ဓသည် မိမိ၏ ရဟန်းသံဃာများအတွင်း အသုံးအဆောင်ပစ္စည်းများ လောက်နှင့်သာ ပတ်သတ်သော စီးပွားရေး၊ ကွန်မြူနစ်ဝါဒကို အပြည့်အစုံ ဖန်တီးတည်ဆောက်ရန် လိုလားတော်မူခဲ့၏။

အကယ်၍ ၎င်းဝါဒပြန့်နိုင်စရာရှိသည်ဟု ဗုဒ္ဓယူဆခဲ့ပါမူ ကျယ်ပြန့်သော လူ့အဖွဲ့အစည်းအတွင်း၌လည်း ၎င်းဝါဒကို လက်တွေ့ကျင့်သုံးကောင်း ကျင့်သုံးပေလိမ့်မည်။ သို့သော် ဗုဒ္ဓ၏ ဆင်ခြင်တုံသည် ဗုဒ္ဓအား လက်တွေ့ မကျင့်သုံးမိအောင် တားဆီးပိတ်ပင်ထားလေသည်။

အဆိုပါ ကွန်မြူနစ်(သံဃ)ဝါဒ အယူအဆများရှိပါသော်လည်း ဗုဒ္ဓသည် စက္ကဝတ္တိဝါဒ(တစ်ကမ္ဘာလုံးတွင် ဓမ္မရာဇ်တစ်ပါးတည်း အုပ်စိုးခြင်း)ကို များစွာ ချီးမွမ်းတော်မူခဲ့၏။ အရှင်္စတော် (တလ)သည်လည်း သူနှင့်သူ့ဆရာ၏ အိပ်မက်များ အမှန်ဖြစ်လာစေရန် ဆိကန္ဒရ်အတွင်းသို့ ငယ်စဉ်ကပင် စက္ကဝတ္တိဝါဒကို တစ်စတစ်စသွတ်သွင်းလာခဲ့သည်ဆိုလျှင် ဆိုနိုင်စရာရှိပေသည်။

အရှင်္စတော် (တလ)သည် ဖသင်အစရှိသော ပြည်များ၏ ပြည်သူ့အုပ်ချုပ်ရေးကိုသာ တွေ့ဖူးသည်မဟုတ်သေး။ တိုက်ကြီး (၃)တိုက်ကို ခြုံ၍အုပ်စိုးနေသော အီရန်ပြည် စကြာဝတေးများနှင့်လည်း သိကျွမ်းလေသည်။ အရှင်္စတော်(တလ)က ဆိကန္ဒရ်ဘုရင်အတွင်းသို့ စက္ကဝတ္တိဝါဒဝင်အောင်လုပ်သည်ဟုဆိုလျှင် ကမ္ဘာကို အောင်ပွဲဆင်သည်နှင့်တစ်ပြိုင်နက် အခြားအိပ်မက်များကိုလည်း လက်တွေ့အဘယ်ကြောင့် မလုပ်လေသနည်းဟု မေးခွန်းထွက်နိုင်၏။ အဖြေကား ဤသို့တည်း။ ဆိကန္ဒရ်ဘုရင်သည် အဘိဓမ္မာဆရာ အိပ်မက်မက်နေသူမဟုတ်။ သူကား သူ့ရှေ့တွင် ဂရိတ်လူမျိုးများက သူတို့၏ အမာခံလုံများ၊ သန်လျက်များဖြင့် အောင်ပွဲဆင်ခဲ့ပုံကို မြင်နေလေသည်။ ထို့ကြောင့် ဆိကန္ဒရ်သည် သူ၏ အိပ်မက်မက်နေသော ဆရာကြီး(ဆိုကရေးတီး) ၏အဆုံးအမဟူသရွေ့ လိုက်နာရန် အတင်းအကျပ်မရှောင်သာ မလွှဲသာမဟုတ်တော့ပေ။

အရှင်္စတော် (တလ)သည် အဘိဓမ္မာဆရာမျှသာ မဟုတ်သေး။ နိုင်ငံရေးသမားတစ် ဦးလည်း ဖြစ်၏။ နိုင်ငံရေးသမားဖြစ်ကြောင်းကိုကား ၃၂၃ ဘီစီ၌ ဆိကန္ဒရ် ကွယ်လွန်သောအခါ ဖသင်ပြည်၌ မကဒူနိယာနှင့် မကဒူနိယာဆန့်ကျင်ဘက်(၂)သင်းကွဲသွားခဲ့လေသည်။ ၎င်းနှစ်သင်းအနက် မကဒူနိယာဆန့်

ကျင်ရေးကို အရစ္စတော် (တလ)က ထောက်ခံအားပေးခြင်းအားဖြင့် သိနိုင်လေသည်။

ထိုအချိန်၌ သူ့အမှားကို သူသိကောင်းသိလာပေလိမ့်မည်။ သန်လျက်မိုး၍ တစ်ဦးတည်းအုပ်စိုးမှုအရင်ကျသော ပထမပြည်သူ့အုပ်ချုပ်ရေးကုန်သည်နိုင်ငံကိုသာ အရစ္စတော် (တလ)ကြိုက်နှစ်သက်စပြုလာလေသည်။ ဤဆန့်ကျင်သောအယူအဆကြောင့် ဧသင်ပြည်ပိုင်များနှင့် အရစ္စတော် (တလ)ဆန့်ကျင်ဘက်ဖြစ်လေတော့သည်။ အရစ္စတော်(တလ)သည် အသက်ဘေးမှ သီသီကလေးလွတ်ကာ "ယုဗိုဣယာ"သို့ ထွက်ပြေးခဲ့ရလေသည်။ အဆိုပါအရပ်တွင် ထိုနှစ်အတွင်း (၃၂၂ ဘီစီ) အရစ္စတော် (တလ) ကွယ်လွန်ခဲ့လေသည်။

အရစ္စတော် (တလ)၏ ကျမ်းစာများမှာ ကျယ်ပြန့်လှပေသည်။ သူ့ခေတ်သို့တိုင်အောင် လူ့အဖွဲ့အစည်းအတွင်း စုဆောင်းလာခဲ့သော အသိဉာဏ်ဘဏ္ဍာများအတွက် အရစ္စတော် (တလ) ၏ ကျမ်းများမှာ ကမ္ဘာ့ဘဏ်တိုက် (ကမ္ဘာ့အဘိဓာန်ကြီး) သဖွယ်ဖြစ်လေသည်။ ထိုမျှသာမကသေး၊ အရစ္စတော် (တလ) ကိုယ်တိုင်ကလည်း လူတို့၏ အသိဉာဏ်တိုက်ကို အကြီးအကျယ် တိုးချဲ့ပေးခဲ့သေး၏။ အရစ္စတော် (တလ) သည် ပလေတို၏ အဘိဓမ္မာအယူအဆများနှင့် လုံးဝသဘောမတူဟုကား မဆိုနိုင်။ အရစ္စတော် (တလ) သည် ဝိညာဉ်လောကကို မငြင်းဆို၊ ဆိုကရေးတီးနှင့် ပလေတိုကဲ့သို့ ပင်ဉာဏ်အတွက် ဝိညာဉ်၏ ကြီးကျယ်မှုကို အရစ္စတော် (တလ)က ယူဆယုံကြည်လေသည်။ သို့သော် ရုပ်ကမ္ဘာနှင့်သီးခြားကင်းလွတ်၍ တစ်ခုတည်းသော ပဓာနကမ္ဘာဟု ဆိုခြင်းကိုကားလက်ခံရန် အသင့်မရှိခဲ့ပေ။ အပြင်ကမ္ဘာ(လက်တွေ့ကမ္ဘာ)ကို နားလည်ရန်၊ ၎င်းကိုဖွင့်ပြရန် မသေသောကမ္ဘာ (ဝိညာဉ်ကမ္ဘာ) လိုအပ်ခြင်းကိုကား အရစ္စတော် (တလ) က လက်ခံ၏။

ယူနစ်အဘိဓမ္မာဆရာများသည် ရုပ်သက်သက် တစ်ဖက်တည်းကိုသာ အသားပေး၏။ ပိုက်သာဂေါရပ်စ်နှင့်ပလေတိုကား မူလသရုပ် သို့မဟုတ် ဝိညာဉ် (ပုံဟန်) အသားပေး၏။ သို့သော် အရစ္စတော် (တလ) ကား နှစ်မျိုးစလုံးကို မကွဲမပြားနေသော အစိတ်အပိုင်းဟု ယူဆ၏။ မူလသရုပ် (ဝိညာဉ်) သည် ရုပ်ဝတ္ထုများတွင်ရှိ၍ ရုပ်ဝတ္ထုများလည်း မူလသရုပ် များ (ဝိညာဉ်များ)

တွင်ရှိသည်။ သာမည (ဇာတိ) သည် အကောင်အထည်များပေါ်တွင် တည်ရှိသည်။ အဆိုပါနှစ်မျိုးကို သီးခြားဟု အမှတ်အသားပြုနိုင်သည်။ သို့သော် သီးခြားဖြစ်အောင်လုပ်၍ မရစကောင်း။

ပလေတိုသည် အဘိဓမ္မာဆရာတစ်ဦးဖြစ်ရုံသာမက ဂဏန်းသင်္ချာဆရာတစ်ဦးလည်းဖြစ်သည်။ ဂဏန်းကျမ်းဆိုင်ရာ စိတ်ကူးချက်များဖြစ်သော ဗိန္ဒု၊ မျဉ်းကြောင်း၊ သင်္ချာ အစရှိသော အမှတ်အသားများ သူ၏ အဘိဓမ္မာ အပေါ်မှာ လာထင်နေသည်ကို တွေ့ရ၏။

အရစ္စတော် (တလ)သည် သတ္တဗေဒ ဆရာတစ်ဦးလည်းဖြစ်၏။ ထို့ကြောင့် ဝိညာဉ်နှင့်ရုပ်ဝတ္ထုများကို သီးခြားခွဲ၍ မကြည့်နိုင်ပေ။ ဝိညာဉ်နှင့် ရုပ်ဝတ္ထု တို့၏ နိစ္စတာ (ဗေလိယာနယ်သားများ) နှင့် အနိစ္စတာ (ဟေရာကလိတု) ကို အရစ္စတော် (တလ) က ပေါင်းဆုံပေးလေသည်။ အရစ္စတော် (တလ) သည် အရာဝတ္ထုတိုင်းမှာပင် ဝိညာဉ် (မူလသရုပ်)နှင့် ဝတ္ထုများကို မြင်လေသည်။ ရုပ်လုံးရုပ်တုများတွင် ကျောက်သားသည် ရုပ်ဝတ္ထုဖြစ်၍ ၎င်းအပေါ် ယံလွှမ်းနေသောပုံဟန်ကား ဝိညာဉ်ဖြစ်၏။ ၎င်းပုံဟန်ဝိညာဉ်သည် ကျောက်ဆစ်သမား၏ ဦးနှောက်မှထွက်၏။

သစ်ပင်များ၊ သားကောင် သို့မဟုတ် လူများတွင် အကောင်အထည်ကားရုပ်ဝတ္ထုဖြစ်၍ ရင့်ကျက်စေတတ်သောသဘော၊ ခံစားခြင်းသဘောကား ဝိညာဉ်ဓာတ်ဖြစ်လေသည်။ ပုံဟန်ကင်းသော အရာဝတ္ထုတစ်ခုမှ မရှိ။ မြေ၊ ရေ၊ မီး၊ လေများလည်း ပုံဟန်နှင့်မကင်း။ ၎င်းတို့လည်း မူလဂုဏ်ဖြစ်သော ခက်မာမှု၊ နူးညံ့မှု၊ ယိုစီးမှု၊ ပူမှု၊ အေးမှု အသီးသီးဖြင့် ဖွဲ့စည်းပေါင်းစပ်ပြုလုပ်ထားအပ်သော အရာဝတ္ထုများဖြစ်ကြသည်။

'သင်္ချ' အဘိဓမ္မာ၏ လက်ရှိစာမူတွင် အဆိုပါ မူလဂုဏ်များ 'တမ္မတ္တာ' ဟု အမည်ပေး၍ ရုပ်၏အကြောင်းဖြစ်သည်ဟု ဆိုလေသည်။ ဤသင်္ချ အဘိဓမ္မာအဆိုသည် အရစ္စတော် (တလ) ၏ အဆိုပါ စိတ်ကူးချက်မှ ယူထားချက်ဖြစ်ဟန်တူသည်။

တိုးတက်မှု (ဝါ) ပြန့်ကားမှုရှိနိုင်သော အရာသည် အရာဝတ္ထုဖြစ်၏။ အဆိုပါတိုးတက်မှု (ဝါ) ပြန့်ကားမှုမှာ အပိုင်းအခြားတစ်ခုရှိ၏။ ကျောက်တုံး တစ်တုံးသည် အရုပ်အမျိုးမျိုးဖြစ်နိုင်၏။ သို့သော် သစ်ပင်မဖြစ်နိုင်။

အပင်ပေါက်ကလေးတစ်ခုသည် အပင်ကြီးတစ်ခုဖြစ်လာနိုင်သည်။ သို့သော် သားကောင်တစ်ကောင်ဖြစ်မလာနိုင်။ ဤသို့သော တွေးခေါ်မှုအစဉ်က အရစ္စတော် (တလ) အား ဇာတိနိစ္စတာ (မျိုးမပြောင်း) သဘောတရားသို့ ဆိုက်ရောက်လေသည်။ မျိုးဇာတိများတွင် ပြောင်းလဲမှုမရှိဟု သူနားလည်ခဲ့လေသည်။

အဆိုပါ ၁၀ မျိုးအနက် ဒဗ္ဗ၊ ဂုဏ၊ ကမ္မတို့သည် ဝိသေသိကကျမ်းလာ ဝတ္ထု ၆ မျိုးတွင် ပါဝင်၏။ ကာလနှင့် ဒိသာတို့ကား ၎င်းကျမ်းလာ ဒဗ္ဗ ၉ မျိုးတွင် ပါဝင်၏။ ကြွင်းကျန်သော ပမေယများအနက် အချို့သော ပမေယများကို ဝိသေသိကကျမ်းနှင့် နျာယကျမ်းများ၌ ဖွင့်ဆိုရေးသားခဲ့၏။

ဆိကန္ဒရ်ဘုရင် မဝင်ရောက်မီက အိန္ဒိယပြည်ဖြစ် မည်သည့်ကျမ်းဂန်တွင်မှ အဆိုပါ ဒဗ္ဗစသော အကြောင်းအရာများကို ဝေဖန်ဆန်းစစ်မှုမရှိခဲ့ချေ။ ထို့ကြောင့် အိန္ဒိယပြည် အဘိဓမ္မာများအပေါ် ယွန်း (ဂရိတ်) အဘိဓမ္မာဆရာများ၏ ကျေးဇူးမကင်းကြောင်း သိရပေသည်။

အရစ္စတော် (တလ) သည် ဇျတ္တိ သို့မဟုတ် ဝိသေသကို တကယ့်ဒဗ္ဗဟု ယူဆလေသည်။ သို့သော် ဇျတ္တိ (အကောင်အထည်)ကား ပြောင်းလဲဖောက်ပြန်နေသည်။ အိုမင်း ဆွေးမြည့်နေသည်။ ကျွန်ုပ်တို့ မျက်မှောက်ပြု၍ရနိုင်သော အရာဝတ္ထုမှန်သမျှ ပြောင်းလဲဖောက်ပြန်သောသဘောရှိလေသည်။ ဘူတ (ရုပ်)နှင့် ဝိညာဉ်နှစ်မျိုးစလုံးပင် အသစ်အသစ်ဖြစ်လာသော အရာဝတ္ထုများလည်းမဟုတ်၊ အမြဲတမ်း ချုပ်ပျောက်ပျက်စီးသွားသော အရာဝတ္ထုလည်းမဟုတ်။ ၎င်းဘူတနှင့် ဝိညာဉ်တို့ကား အရာဝတ္ထုအားလုံး၏ အစမထင်သော နိစ္စမူလဓာတ်များဖြစ်ကြသည်။

ပြောင်းလဲမှု သို့မဟုတ် တိုးပွားမှု ဟူသည်မှာ သုညထဲတွင် မဖြစ်နိုင်။ တစ်စုံတစ်ခုတည်ရာမှီရာ ရှိရပေသည်။ ထိုလိုအပ်သော တည်ရာမှီရာဟူသည် အခြားမဟုတ်။ ပြောင်းလဲမှုကင်းသော အထွတ်ဆုံး (ကုဋ္ဌ) ဘူတနှင့် ဝိညာဉ် (မူလသရုပ်)များဖြစ်ကြလေသည်။ ဘူတနှင့် ဝိညာဉ်ပေါင်းဆုံမိလျှင်ပင် ပြောင်းလဲမှု လှုပ်ရှားမှု(ဂတိ)ဖြစ်လာသည်။ အရစ္စတော် (တလ) က ဂတိ (လှုပ်ရှားမှု) ၄ မျိုးရှိသည်ဟု ဆိုလေသည်။

(၁) ဒဗ္ဗဂတိ–ဖြစ်ပျက်။

(၂) ပရိမာဏဂတိ–စုပေါင်းခြင်း၊ ခွဲစိတ်ခြင်းအားဖြင့် အစိုင်အခဲ၏ အတိုင်းအရှည်(ပမာဏ)ပြောင်းလဲမှု။

(၃) ဂုဏဂတိ–အရာဝတ္ထုတစ်မျိုးမှ အခြားအရာဝတ္ထုတစ်မျိုးသို့ ပြောင်းသွားမှု–နို့မှ ဒိန်(ဒဟီ)၊ ရေမှ ရေခဲဖြစ်သွားခြင်း။

(၄) ဒေသဂတိ–တစ်နေရာမှ တစ်နေရာသို့သွားခြင်း။

အရစ္စတော် (တလ) သည် အဘိဓမ္မာဆရာတစ်ဦးဖြစ်ရုံသာမက သတ္တဗေဒဆရာကြီးတစ်ဦးလည်း ဖြစ်သည်။ သူ၏ဖခင် ကိုယ်တိုင် သမားတော်တစ်ဦးဖြစ်၍ သမားတော်များမှာ သတ္တဗေဒကို နားလည်ကျွမ်းကျင်မည်မှာ ကျိန်းသေလှပေသည်။ ဟစ်ပိုကရေးတီ(HIPPOCRATES OF COS)နှင့် သူ၏နောက်လိုက်များ သတ္တဗေဒနှင့်ပတ်သက်သော ရှာဖွေမှုများကို ခရစ်မပေါ်မီ ၅ ရာစု တွင် စတင်ခဲ့ကြသည်။ အရစ္စတိုက အဆိုပါ ရှာဖွေချက်များကို အကြီးအကျယ်တိုးတက်ချဲ့ထွင်ခဲ့လေသည်။ တစ်ဖက်တစ်လမ်းအားဖြင့် အရစ္စတော် (တလ) အား သက်ရှိတိုးတက်မှုသဘောတရားကို ထုတ်ဖော်သူဟု ဆိုသင့်လှပေသည်။

အရစ္စတော် (တလ) ၏ သတ္တဗေဒဆိုင်ရာလုပ်ငန်းများကို သူ၏တပည့် သီအိုဖရစ္စတု THEOPHRASTUS ၃၉၀–၂၈၀ ဘီစီက ဆက်လက်ခဲ့လေသည်။ သို့သော် နောက်ထပ်ဆက်လက်၍ အနှစ် ၂၀၀၀ မျှ အဆိုပါ သတ္တဗေဒပညာများ ရပ်တန့်သွားခဲ့လေသည်။

ဒါဝင်သည် အရစ္စတော် (တလ) ၏ သတ္တဗေဒဆိုင်ရာ ရှာဖွေမှုများကို များစွာ ချီး ကျူးထောမနာပြုခဲ့လေသည်။

ဂရိတ်အဘိဓမ္မာဆရာများ၏ ကျေးဇူးတင်ခံရခြင်းကို အိန္ဒိယပြည် ပညာရှိအမြောက်အမြားကပင် မခံချိမခံသာဖြစ်နေကြလေသည်။ သူတို့က အိန္ဒိယသည် အခြားမည်သည့်လူမျိုးတို့၏အကူအညီကိုမျှမယူဘဲ ကိုယ်စွမ်းကိုယ်စနှင့်ပင် အားလုံးသော အတတ်ပညာ အသိလိမ္မာများကို တိုးတက်အောင် လုပ်ဆောင်နိုင်ခဲ့သည်ဟု အခိုင်အမာလုပ်ချင်ကြလေသည်။ အိန္ဒိယနှင့် ဂရိတ်မပေါင်းစပ်မိသေးခင်က အိန္ဒိယစာပေများတွင် အနံ့ပင်မနံသေးသော အယူအဆတိုးတက်မှုအတွက်လည်း မရမက အတင်းကိုယ်လိုရာဘက်သို့ ဆွဲငင်နေကြလေသည်။ ကျွန်ုပ်တို့ သတိပြုရမည့်အချက်ကား အိန္ဒိယပြည်ထဲသို့

ဆိကန္ဒရ်ဘုရင် ဝင်လာသောအခါ (၃၃၃ ဘီစီ ဂရိတ်လူမျိုးများသည် အဘိဓမ္မာ၊ အနုပညာ၊ စာပေ စသည်တို့တွင် တိုးတက်မှုအထွတ်အထိပ်သို့ ရောက်ပြီးဖြစ်ခဲ့လေပြီ။ ထိုအချိန်နှင့် နောက်ပိုင်းများတွင် သိန်းပေါင်းများစွာသော ဂရိက်လူမျိုးတို့သည် အိန္ဒိယပြည်သို့ လာရောက်၍ အမြဲတမ်းအခြေစိုက်ကာ နေထိုင်ခဲ့ကြလေသည်။ ယနေ့သော်ကား ဂရိက်လူမျိုးများနှင့် အိန္ဒိယလူမျိုးများ သွေးရောစပ်ခဲ့ကြပြီဖြစ်ကြောင်းကို ပကတိမျက်စိဖြင့် မမြင်နိုင်ဘဲ သမိုင်းကြောင်းအသိဉာဏ်ဖြင့်သာ မြင်နိုင်လေတော့သည်။

ဂရိတ်လူမျိုးတို့၏ အသွေးအသားများသည် အိန္ဒိယလူမျိုးတို့၏ ကိုယ်ကာယအစိတ်အပိုင်းအဖြစ်သို့ တိုးတိုးတိတ်တိတ် ရောက်လာကြသည့်နည်းတူ ဂရိတ်လူမျိုးတို့၏ အသိဉာဏ်များသည်လည်း အိန္ဒိယလူမျိုးတို့၏ အသိဉာဏ်များအတွင်းသို့ အမြောက်အမြား စုဝေးသက်ဝင်ကြလေသည်။

ဂန္ဓာရကျောက်ဆစ်အတတ်ပညာတွင် ဂရိတ်လူမျိုးတို့၏ အနုပညာလက်ရာများ ထင်ထင်ရှားရှား ပေါ်လွင်၍ ဂုတ္တမင်းဆက်ကျောက်ဆစ်ပညာတွင် မထင်မရှားပေါ်လွင်နေသည်ကို တွေ့မြင်ကြရလေသည်။ ထို့အတူ အိန္ဒိယပြည်ရှိ ရဟန်းကျောင်းများတွင်ရှိကြသော ရဟန်းတော်များ၊ စာသင်ကျောင်းများတွင် ကျောင်းဆရာလုပ်၍နေကြသော ပညာတတ်၊ လူယဉ်ကျေးဂရိတ်လူမျိုးများသည် အိန္ဒိယလူမျိုးများအတွက် သူတို့လူမျိုး ပညာရှိကြီးများ၏ လက်ဆောင်တစ်ခုခုဆောင်ယူခဲ့ကြလေသည်။

ထိုစဉ်အခါ ဘာသာအမျိုးမျိုးအနက် ဗုဒ္ဓဘာသာသည် "မိလက္ခု"ဟု အခြားဘာသာတို့က ရင့်ရင့်သီးသီးဝိုင်းပယ်ထားသော ဂရိတ်လူမျိုးများအား ရက်ရက်ရောရော လက်ခံပွေ့ပိုက်ခဲ့ကြောင်း ကျွန်ုပ်တို့ ရေးသားခဲ့ဖူးလေပြီ။ ရှင်နာဂသိန်နှင့် မွေးဖွားချိန်သည် ဂရိတ်နှင့် အိန္ဒိယအဘိဓမ္မာစသည်တို့ ပေါင်းစပ်ထွေးယှက်လာခဲ့ပြီးသော အချိန်ဖြစ်လေသည်။

*

## ၃။ ရှင်နာဂသိန်၏ အတ္ထုပ္ပတ္တိ

ရှင်နာဂသိန်ကို ဂရိတ်လူမျိုးများ အုပ်စိုးထားသော ပန်ဂျဗ်ပြည်နယ်တွင် မွေးဖွားခဲ့လေသည်။ ရှင်နာဂသိန်၏ အတ္ထုပ္ပတ္တိနှင့်ပတ်သက်၍ 'မိလိန္ဒပဉှာ' တွင် တွေ့ရသမျှကား ဟိမဝန္တာတောင်အနီး(ပန်ဂျဗ်နယ်)ကဇင်္ဂလရွာ၌ သော နုတ္တရမည်သော ဗြာဟ္မဏလူမျိုးတစ်ယောက်၏အိမ်တွင် နာဂသေနကို ဖွား မြင်လေသည်။ ဖခင်နှင့်အတူ နေစဉ်ကပင် ဗြာဟ္မဏလူမျိုးတို့၏ သင်ရိုး သင်တန်းဖြစ်သော ဝေဒ၊ ဗျာကရဏ်းအစရှိသော ကျမ်းများကို သင်ကြားခဲ့ လေသည်။ ထို့နောက် ထိုစဉ်အခါက ဝတ္တနိယအရပ်နေ ရောဟဏမည်သော ပညာရှိရဟန်းတော် တစ်ပါးနှင့်နာဂသေနလုလင် အသိအကျွမ်းဖြစ်ခဲ့ လေသည်။ ထိုအခါမှစ၍ နာဂသေနသည် ဗုဒ္ဓဘာသာအယူအဆဘက်သို့ ညွတ်ယိုင်လာခဲ့လေသည်။ ရောဟဏရဟန်းတော်၏ တပည့်ဖြစ်၍ ဆရာနှင့် အတူ ဝိဇမ္ဘဝတ္ထုမည်သောအရပ်ကို ဖြတ်ကျော်ကာ ဟိမဝန္တာရှိ ရက္ခိတ တလ မည်သော အရပ်သို့ ကြွသွားလေသည်။

ထိုအရပ်မှာပင် ဆရာတော်က နာဂသေနအား ထိုခေတ်ထိုအခါက အစီအစဉ်အတိုင်း အာဂုံဆောင် ဗုဒ္ဓဘာသာမူခပါဠိတော်များကို သင်ပေးလေ သည်။ နောက်ထပ် သင်ယူလိုသေးသော ဆန္ဒရှိသဖြင့် ဆရာတော်အမိန့်အရ နာဂသေနသည် တစ်လှည့်တစ်ပတ် ခြေကျင်ခရီးဖြင့် ပြန်လာကာ ဝတ္တနိယ အရပ်ရှိ ထင်ရှားကျော်ကြားသော ပညာရှိရဟန်းတော် အဿဂုတ္တထံသို့ ဆိုက် ရောက်ခဲ့လေသည်။

အဿဂုတ္တမထေရ်သည် ရောက်လာစ အသစ်ဖြစ်သော စာသင်သား

ရဟန်းတော်ကလေး၏ ဉာဏ်စွမ်းဉာဏ်စကို စမ်းသပ်နေစဉ်အတောအတွင်း တစ်နေ့သ၌ ဒကာတစ်ဦး၏အိမ်တွင် ဆွမ်းဘုဉ်းပေးပြီးနောက် ထုံးစံအတိုင်း ဆွမ်းအနုမောဒနာတရားဟောရန် ရှင်နာဂသေနအပေါ် တာဝန်ကျလေသည်။

ထိုတရားဟောပွဲတွင် ရှင်နာဂသိန်၏ အရည်အချင်းပေါ်လွင်သွားခဲ့လေသည်။ အဿဂုတ္တသည် အရည်အချင်းကောင်းသော ရဟန်းတော်ကလေးအား အရည်အချင်းရှိသော ဆရာ့ထံတွင် အပ်နှံရန် ပဋ္ဌာနာ(ပါဋ္ဌလိပုတ်)ပြည်ရှိ အသောကာရုံကျောင်းတိုက်တွင် သီတင်းသုံးနေထိုင်တော်မူသော ဆရာတော် ဓမ္မရက္ခိတအထံသို့ ပို့လွှတ်လေသည်။

ယူဇနာ (၁၀၀)ကွာဝေးသော အရပ်သို့ ခြေကျင်ခရီးသွားရခြင်းမှာ လွယ်ကူသော အလုပ်မဟုတ်။ သို့သော် ထိုစဉ်အခါက ရဟန်းတော်များ အဆက်မပြတ်သွားလာနေကြလေသည်။ ကုန်သည်အုပ်စုများလည်း တစ်အုပ်စုမသွားလျှင် တစ်အုပ်စုက သွားနေကြသည်သာဖြစ်၏။ နာဂသေနသည် ကုန်သည်အုပ်စုတစ်စုကို တွေ့ရလေသည်။ အုပ်စုခေါင်းဆောင်ကြီးက အလွန်ဝမ်းမြောက်ကျေနပ်စွာ ပညာရှိ ရဟန်းငယ်အား အစားအသောက်နှင့်တကွ လမ်းခရီးတစ်လျှောက် ဆောင်ကြဉ်းသွားရန် တာဝန်ယူလေသည်။

ရှင်နာဂသေနသည် အသောကာရုံကျောင်းတိုက်၌ ဆရာတော် ဓမ္မရက္ခိတ၏ အထံတွင်နေထိုင်၍ ဗုဒ္ဓဘာသာဆိုင်ရာ အချက်အချာ အသိဉာဏ်နှင့် ပိဋကတ်အပြည့်အစုံရရှိရေးအတွက် လေ့လာခဲ့လေသည်။ ထိုကဲ့သို့ လေ့လာနေစဉ်အတောအတွင်း နာဂသေနအား ပန်ဂျာဗ်မှ လာရောက်ပင့်ခေါ်လေသည်။ နာဂသေနသည် တစ်ဖန် ရက္ခိတ တလအရပ်သို့ ရောက်ပြန်လေသည်။

မိနန္ဒရ်(မိလိန္ဒ)မင်း၏ နိုင်ငံတော်မှာ ယမုနာမြစ်မှ အာမု(OXUS)မြစ်အထိ ကျယ်ပြန့်လေသည်။ မိနန္ဒရ်၏ နေပြည်တော်မှာ ဗလခို(ဝါလီကဗလ္လိက)လည်းဖြစ်၏။ သို့သော် အိန္ဒိယစဉ်လာအမှတ်အသားများအရ မူလနေပြည်တော်မှာ သာဂလ(သျှာလကုဋ္ဌ)ပြည်ဖြစ်ကြောင်း သိရ၏။ 'ပလူတာက်'၏ ရာဇဝင်(သမိုင်း)တွင် မိနန္ဒရ်(MINANDER)သည် အလွန်တော်တည့်မှန်ကန်၍ ပညာရှိ တိုင်းချစ် ပြည်ချစ် ဘုရင်တစ်ပါးဖြစ်ကြောင်း ရေးခဲ့လေသည်။ မိနန္ဒရ်ကွယ်လွန်သောအခါ သူ၏ အရိုးပြာများကို ပြည်သူပြည်သား

များ စစ်ပွဲကျင်းကာ လုယက်ကြကြောင်း၊ သူ၏ အရိုးပြာများကို ဌာပနာ၍ ပြည်သူပြည်သားများက ကြီးကျယ်ခမ်းနားသော ပုထိုးများ တည်ဆောက်ကိုးကွယ်ကြကြောင်းကိုလည်း သမိုင်းတွင်ရေးခဲ့လေသည်။ မိနန္ဒရ်ဘုရင်သည် စာပေကျမ်းဂန်လေ့လာမှုနှင့် စကားစစ်ထိုးမှုတွင် များစွာ အထုံအလေ့ပါလေသည်။ အတော်အတန်ပညာရှင်တစ်ယောက်သည် သူ့ရှေ့တွင် ကြံ့ကြံ့ရပ်တည်နေနိုင်မည်မဟုတ်ပေ။

ရဟန်းတော်များက ဆိုကြသည်မှာ 'နာဂသေန၊ မိလိန္ဒမင်းကြီးသည် စကားငြင်းခုံခြင်းအားဖြင့် ပုစ္ဆာပြဿနာများမေး၍ ရဟန်းသံဃာတော် များအား အနှောင့်အယှက်ပေးနေသည်။ ရှုတ်ချကဲ့ရဲ့နေသည်။ သွားပါ၊ သင်သည် ထိုမင်းကြီးအား နှိမ်နင်းပေးပါ'

ရှင်နာဂသေနသည် သံဃာတော်များ၏အမိန့်ကို ဦးထိပ်ရွက်ပန်ဆင်၍ သာဂလမြို့ရှိ 'အသင်္ခေယျ'မည်သော ပရိဝုဏ်(ကျောင်းတိုက်)သို့ ဆိုက်ရောက်လေသည်။ မကြာသေးမီကပင် ထိုကျောင်းတိုက်တွင် သီတင်းသုံးတော်မူသော ပညာရှိပုဂ္ဂိုလ်ကြီး အာယုပါလာအား နှုတ်ဆိတ်သွားအောင် မိလိန္ဒမင်းကြီးက စကားစစ်ဆင်ခဲ့ဖူးလေသည်။

ရှင်နာဂသေနကြွလာသောသတင်း မြို့တွင်းမှာ ပျံ့နှံ့သွားလေသည်။ မိလိန္ဒမင်းကြီးသည် သူ၏ အမတ်တစ်ဦးဖြစ်သော ဒေဝမန္တိ (၎င်းကား ဂရိတ်လူမျိုးဒိမ်တြီဖြစ်ကောင်းဖြစ်လိမ့်မည်) မှတစ်ဆင့် ရှင်နာဂသေနနှင့် တွေ့ဆုံလိုကြောင်း စကားကမ်းလှမ်းသည်။ ရှင်နာဂသိန်၏ ဝန်ခံချက်ကို ရရှိသောအခါ တစ်နေ့သ၌ မိလိန္ဒမင်းကြီးသည် ဂရိတ်လူမျိုးငါးရာခြံရံကာ လှပကောင်းမွန်သော ယာဉ်ရထားစီးနင်း၍ အသင်္ခေယျပရိဝုဏ်သို့ ထွက်ခွာလာလေသည်။ မိလိန္ဒမင်းကြီးသည် ရှိခိုးဦးချဝမ်းမြောက်ဝမ်းသာ ပြောဟောပြီးနောက် ပုစ္ဆာကို စတင်ထုတ်လေတော့သည်။ မိလိန္ဒမင်းကြီးက မေးသော ပုစ္ဆာပြဿနာများကို အစွဲပြု၍ 'မိလိန္ဒပညှာ' ဟု ကျမ်းအမည်တွင်လေသည်။

ဗုဒ္ဓဘာသာစာပေတွင် 'မိလိန္ဒပညှာ'မှာ အဆင့်အတန်းမြင့်လှပေသည်။ ၎င်းကျမ်းမှာ ပိဋကတ်(၃)ရပ်တွင် မပါဝင်သော်လည်း ၎င်းကျမ်း၏ခိုင်မာမှု ကား ဘယ်ဘက်ကမှ ပိဋကတ်(၃)ရပ်အောက် မနိမ့်ကျပေ။ အဋ္ဌကထာ ဆရာ

ရှင်ဗုဒ္ဓဃောသကိုယ်တိုင်နေရာများစွာ၌ အကြောင်းအရာတစ်ခုခုကို အခိုင်အမာဖြစ်စေရန် မိလိန္ဒပဉှာကို ကိုးကားဖော်ပြရသည်အထိ ၎င်းကျမ်းမှာ အဆင့်အတန်းမြင့်လှပေသည်။

၎င်းကျမ်းနှင့်ပတ်သက်၍ အခက်အခဲဆုံးသော ပြဿနာကား ကျမ်းပြုပုဂ္ဂိုလ်မည်သူ မည်ဝါဟု ယခုတိုင်အောင် မသိရှိသေးခြင်းပင်ဖြစ်သည်။ ပညာရှိပုဂ္ဂိုလ်ပေါင်းများစွာ အပြင်းအထန်ကြိုးပမ်းကြသည်တိုင်အောင် ကျမ်းရင်းအတွင်းမှာသော်လည်းကောင်း၊ အပြင်ဘက်မှာသော်လည်းကောင်း၊ ကျမ်းပြုပုဂ္ဂိုလ်မည်သူဟု သိနိုင်လောက်သော အထောက်အထားများကို မတွေ့ကြရသေးပေ။

အချို့သောပညာရှိတို့၏ အလိုအားဖြင့် 'မိလိန္ဒပဉှာ'ကျမ်းသည် မူရင်းသက္ကတဘာသာ သို့မဟုတ် ပါကတ(ပြာကြိုက်)ဘာသာတစ်ခုခုဖြင့် ရေးသားထားရှိခဲ့၍ ကျွန်ုပ်တို့ ယခုတွေ့ရှိရသော ကျမ်းမှာ ပါဠိဘာသာပြန်ဖြစ်သည်ဟူ၏။ ၎င်းကျမ်း၏ စာသွားစာလာအနေအထားမှာ ပါဠိထက် သက္ကတဘက်သို့ ပိုမိုနီးကပ်လေသည်။

ပါဠိမူအပြင် အခြားမူတစ်မူကိုလည်းတွေ့ရလေသည်။ ၎င်းကား တရုတ်မူဖြစ်သည်။ ကျွန်ုပ်တို့ မိတ်ဆွေကြီး ဗာရာဏသီ ယူနီဗာစီတီ ပါဠိပရိုဖက်ဆာဟောင်း ဂျဂဒိဿျကာဿပမထေရ်(M.A.)နောက်ဆုံးအကြိမ် ပီနန်တွင် နေထိုင်စဉ်က တရုတ်ပညာရှိတစ်ယောက်၏အကူအညီဖြင့် တရုတ်ဘာသာမှ အင်္ဂလိပ်ဘာသာသို့ ပြန်ဆိုထားခဲ့ဖူးလေသည်။ ၎င်းကျမ်းသည် တရုတ်အခေါ်အားဖြင့် 'နာ ဆေ ပိ ဗိကု ကိန်'ဖြစ်၏။ 'နာဂသေနဘိက္ခုသုတ္တ'ဟု အနက်ရလေသည်။ ဤနေရာတွင် အချက် (၃)ချက်ကို သတိပြုရမည်။

(၁) တရုတ်မူ 'ပုဗ္ဗယောဂ'အခန်းသည် ပါဠိမူနှင့် လုံးဝကွဲပြားခြားနား၏။

(၂) တရုတ်မူသည် ပါဠိမူ၏ တတိယပရိစ္ဆေဒအထိသာ ရှိ၏။

(၃) အမေးအဖြေများမှာ အတူတူလိုပင်ဖြစ်၍ စကားအသုံးနှင့် အနေအထားသာ အတန်ငယ်ကွဲပြားခြားနား၏။

ပါဠိတွင်ပါသော မေဏ္ဍကပဉှာ၊ အနုမာနပဉှာနှင့် ဥပမာကထာပဉှာဟူသော ပရိစ္ဆေဒ ၃ ခုမှာ နောက်မှ ဆက်လက်ထားသည်ဟု ယူဆဖွယ်ရှိ

လေသည်။ ပါဠိတွင်မူ သေချာစွာကြည့်ရှုပါက မေဏ္ဍကပဉှာမစမီ မိလိန္ဒပဉှ ပဉှာနိဋ္ဌိတောဟု အဆုံးသတ်ထားသည်ကို တွေ့ကြရပေသည်။

[ဘာသာပြန်သူ့မှတ်ချက်]

မိလိန္ဒမင်းကြီးသည် ပထမနေ့၌ ကျောင်းတိုက်သို့ ထွက်ချီတော်မူ၍ ရှင်နာဂသေနအား ပြဿနာများကို မေးမြန်းလျှောက်ထားသည်။ နောက်တစ်နေ့တွင် နန်းတော်သို့ပင့်၍ မေးမြန်းလျှောက်ထားလေသည်။

ရှင်နာဂသေနသည် သူ၏ဖြေဆိုချက်များဖြင့် ဗုဒ္ဓ၏အဘိဓမ္မာဆိုင်ရာ အနတ္တဝါဒ ကံ သို့မဟုတ် ဘဝတစ်ပါး နာမ်၊ ရုပ်၊ နိဗ္ဗာန်စသော အကြောင်းများကို အဓိကထား၍ ရှင်းလင်းပေးရန် ကြိုးစားလေသည်။

### အနတ္တဝါဒ

မိလိန္ဒမင်းကြီးသည် ပထမဆုံး ဗုဒ္ဓဘာသာဝင်တို့၏ အနတ္တဝါဒကိုပင် စမ်းသပ်လိုပေသည်။ မင်းကြီးက မေးလျှောက်သည်။

(က) "အရှင်ဘုရား၊ အရှင့်အမည်တော်အသို့ခေါ်ပါသနည်း"

"နာဂသေနအမည်နှင့် (ငါ့အား)ခေါ်ဝေါ်ကြသည်။ သို့သော် နာဂသေနဟူသည် ခေါ်ဝေါ်ရန်အတွက် သက်သက်အမည်ပညတ်မျှသာဖြစ်သည်။ အကြောင်းသော်ကား ပရမတ္ထအားဖြင့် နာဂသေနဟု ခေါ်စရာပုဂ္ဂိုလ်သတ္တဝါ(အတ္တ)တစ်စုံတစ်ရာမရှိချေ"

"အရှင်၊ ပုဂ္ဂိုလ်သတ္တဝါမရှိလျှင် အရှင့်အား အဘယ်သူက အဝတ်အစားပေးလှူပါသနည်း။ လှူဖွယ်ကို အဘယ်သူက သုံးဆောင်ပါသနည်း။ အဘယ်သူက သီလကို စောင့်သုံးပါသနည်း။ အဘယ်သူ ဈာန်ဝင်စားပါသနည်း။ အဘယ်သူ အရိယာမဂ်ဆိုင်ရာ ဖိုလ်နှင့်နိဗ္ဗာန်ကို မျက်မှောက်ပြုပါသနည်း။ ဤကဲ့သို့သော ပုဂ္ဂိုလ်သတ္တဝါမရှိခဲ့လျှင် ကုသိုလ်အကုသိုလ်မရှိတော့။ ကုသိုလ် အကုသိုလ်ကို ပြုသူမရှိတော့။ အပြုခိုင်းသူမရှိတော့။ ကုသိုလ် အကုသိုလ်၏အကျိုးမရှိလေသလော။ အကယ်၍ အရှင်အားသတ်သူတစ်စုံတစ်ယောက်ရှိပါက ထိုသူအား သတ်မှုမရောက်တော့။ သို့ဖြစ်လျှင် 'နာဂသေန'ဟူသည် အဘယ်အရာနည်း။ အရှင့်ဆံများသည် နာဂသေနလော"

"မဟုတ်မင်းကြီး"

"မွေးညင်းများသည် နာဂသေနလော"

"မဟုတ်မင်းကြီး"

"ခြေသည်း၊ လက်သည်း၊ သွား၊ အရေ၊ အသား၊ အကြော၊ အရိုး၊ ရိုးတွင်းခြင်ဆီ၊ အညို့၊ နှလုံး၊ အသည်း၊ အမြှေး၊ အဖျဉ်း၊ အဆုတ်၊ အူမ၊ အူသိမ်၊ ဝမ်းမိုက်၊ (အစာသစ်) အစာဟောင်း၊ သည်းခြေ၊ သလိပ်၊ ပြည်၊ သွေး၊ ချွေး၊ အဆီခဲ၊ မျက်ရည်၊ အဆီကြည်၊ တံတွေး၊ နှပ်၊ နားဖာချေး၊ ကျင်ငယ်၊ ဦးနှောက်များ အသီးသီး နာဂသေနလော"

"မဟုတ် မင်းကြီး"

"သို့ဖြစ်လျှင် အရှင်၏ရုပ်၊ ဝေဒနာ၊ သညာ၊ သင်္ခါရ သို့မဟုတ် ဝိညာဉ်သည် နာဂသေနလော"

"မဟုတ် မင်းကြီး"

"သို့ဖြစ်လျှင် ရုပ်စသည်မှတစ်ပါး အခြားတစ်စုံတစ်ရာသည် နာဂသေနလော"

"မဟုတ်မင်းကြီး"

"အရှင်ဘုရား တပည့်တော်အရှင့်အား မေးရင်းမေးရင်း မောသွားပါပြီ။ သို့သော် အဘယ်အရာ နာဂသေနဟု မသိနိုင်သေးပါ။ သို့ဖြစ်လျှင် နာဂသေနဟူသည် သဒ္ဒါမျှသာလော။ နောက်ဆုံး နာဂသေနဟူသည် အသူနည်း"

"မင်းကြီး သင်မင်းကြီး ဤနေရာသို့ ခြေကျင်လာသလော။ သို့မဟုတ် ယာဉ်ရထားစီး၍လာသလော"

"အရှင်ဘုရား တပည့်တော် ရထားစီး၍လာပါသည်"

"မင်းကြီး။ သို့ဖြစ်လျှင် ငါ့အားပြောစေချင်၏ ။သင်မင်းကြီး၏ ရထားဟူသည် အဘယ်နည်း။ ရထားသန့်သည် ရထားလော"

"မဟုတ်ပါအရှင်"

"ဝင်ရိုးသည် ရထားလော"

"မဟုတ်ပါအရှင်"

"ဘီးများသည် ရထားလော"

"မဟုတ်ပါအရှင်"

"ရထားအိမ်ကြိုးများနှင့် နှင်တံသည် ရထားလော"

"မဟုတ်ပါအရှင်"

"မင်းကြီး ရထားသန် စသည်အားလုံး အပေါင်းသည် ရထားလော"

"မဟုတ်ပါအရှင်"

"မင်းကြီး ရထားသန်စသည်မှ တခြားရထားရှိသလော"

"မရှိပါအရှင်"

"မင်းကြီး ငါသည် သင်မင်းကြီးအား မေးရင်း မေးရင်း မောသွားပြီ။ သို့သော် အဘယ်အရာ ရထားဟူသည်ကို မသိရသေး။ ရထားဟူသည် သဒ္ဒါသက်သက်မျှလော။ နောက်ဆုံး၌အရာတွင် ရထားဟူသည် အဘယ်နည်း။ ရထားမရှိဟု သင်မင်းကြီးမုသားဆို၏။ မင်းကြီး သင်မင်းကြီးသည် ဇမ္ဗူဒိပ်တစ်ကျွန်းလုံးတွင် အကြီးဆုံးဘုရင်တစ်ပါးဖြစ်သည်။ သို့စင်လျက် အဘယ်သူအားကြောက်လန့်၍ သင်မင်းကြီး မုသားဆိုဘိသနည်း"

"အရှင်နာဂသိန်၊ တပည့်တော် မုသားမဆိုပါ။ ရထားသန်စသော ရထား၏ အစိတ်အစိတ်အပေါ်တွင် ခေါ်ဝေါ်ရန်အတွက် သက်သက် 'ရထား' ဟူသော အမည်မှည့်ခေါ်ခဲ့လေသည်"

"မင်းကြီး ကောင်းလေစွ၊ အဘယ်ရထားဟူသည်ကို သင်မင်းကြီးသိပြီ။ အလားတူပင် ငါ၏ဆံပင်အစရှိသော အစိတ်အစိတ်အပေါ်တွင် ခေါ်ဝေါ်ရန်အတွက် သက်သက် 'နာဂသေန' ဟူသော အမည်တစ်ခု မှည့်ခေါ်ခဲ့သည်။ သို့သော ပရမတ္ထအားဖြင့် 'နာဂသေန'ဟူသော ပုဂ္ဂိုလ်သတ္တဝါတစ်စုံတစ်ခုမရှိပေ။ ထို့ကြောင့် ဘိက္ခုနီဝဇိရာက ဘုရားရှင်၏ရှေ့တော်တွင်ထုတ်ဖော်ပြောဆိုခဲ့လေသည်။

အစိတ်အစိတ်ပေါ်တွင် 'ရထား'ဟူသော အမည်ဖြစ်လာသကဲ့သို့ (ရုပ်အစရှိသော)ခန္ဓာများရှိခြင်းကြောင့် သတ္တ(ဇီဝ)ဟူသော အမည်သညာပေါ်လာရ၏။

(သံယုတ္တနိကာယ ၅၊ ၁၀၊ ၇)

## ဝိညာဉ်၊ ပညာ၊ ဇီဝ

(ခ)"မင်းကြီး၊ သိမှုသည် ဝိညာဉ်၏ လက္ခဏာဖြစ်၏။ အမှန်သဘောပေါက်မှုသည် ပညာ၏ လက္ခဏာဖြစ်၏။ ဇီဝဟူသည် ဤကဲ့သို့ လက္ခဏာ

ရှိသော အရာဝတ္ထုတစ်ခုမဟုတ်"

" အရှင်ဘုရား၊ ဇီဝဟူသည် ဤကဲ့သို့ လက္ခဏာရှိသော အရာဝတ္ထု တစ်ခုမဟုတ်လျှင် ကျွန်ုပ်တို့ကိုယ်ကာယအတွင်း မျက်စိဖြင့် ရူပါရုံ၊ နားဖြင့် သဒ္ဒါရုံ၊ နှာခေါင်းဖြင့် ဂန္ဓာရုံ၊ လျှာဖြင့် ရသာရုံ၊ ကိုယ်ကာယဖြင့် ဖောဋ္ဌဗ္ဗာရုံ၊ မနဖြင့် ဓမ္မာရုံကို ရှုကြည့် နားထောင် ရှုရှိုက်လျက် လိမ်း၊ တွေ့ထိ၊ သိမှတ်ထားသော အရာကား အဘယ်နည်း"

"မင်းကြီး ငါတို့ ကိုယ်ကာယအတွင်း၌ရှိသော မျက်စိဖြင့် ရူပါရုံကို ကြည့်ရှုတတ်သော အရာသည် အကယ်၍ ကိုယ်ကာယမှ သီးခြားဇီဝတစ်ခု ဖြစ်ခဲ့လျှင် မျက်စိကို ထုတ်ယူလိုက်သောအခါ အပေါက်ကျယ်လာသောကြောင့် ဇီဝသည် ပို၍ပင် ထင်ထင်ရှားရှားမြင်ရပေမည်။ နားကိုဖြတ်လိုက်သောအခါ အပေါက်ကျယ်လာသောကြောင့် ဇီဝသည် ပို၍ ထင်ထင်ရှားရှား ကြားရပေမည်။ နှာခေါင်းကိုဖြတ်လိုက်သောအခါ ဇီဝသည် ပို၍ ထင်ထင်ရှားရှား အနံ့ရပေမည်။ လျှာကိုဖြတ်လိုက်သောအခါ ဇီဝသည်ပို၍ ထင်ထင်ရှားရှားအရသာတွေ့ရပေမည်။ ကိုယ်ကာယကို ဖြတ်လိုက်သောအခါ ဇီဝ သည် ပို၍ထင်ထင်ရှားရှားထိတွေ့ရပေမည်"

"မဟုတ်ပါအရှင်၊ ဤသို့မဟုတ်ပါ"

"မင်းကြီး၊ သို့ဖြစ်လျှင် ငါတို့ ကိုယ်ကာယ အတွင်း၌ ဇီဝ တစ်စုံတစ်ရာ မရှိပေ"

အတ္တကို လက်မခံလျှင် ပြုအပ်သော ကုသိုလ် အကုသိုလ်ကံ၏ တာဝန်ခံနှင့် ထိုကံများ အလျောက် နောက်ဘဝတွင် သုခဒုက္ခကို ခံစားစံစားမှု အသို့ ဖြစ်နိုင်ပါအံ့နည်း။ မိလိန္ဒဘုရင်က ဤအချက်ကို ဆက်လက်ဆွေးနွေးလျက် မေးလျှောက်သည်။

"အရှင်၊ အဘယ်သူ ပဋိသန္ဓေယူသနည်း"

"မင်းကြီး၊ နာမ်နှင့်ရုပ်က သန္ဓေယူသည်"

"ဤ(ဘ၀)နာမ် ရုပ်ပင် သန္ဓေယူသလော"

"မင်းကြီး ဤနာမ် ဤရုပ်ပင် သန္ဓေယူသည်ကား မဟုတ်။ လူတစ်ယောက်သည် ဤနာမ် ဤရုပ်နှင့်ပင် ကောင်းမှုကိုသော်လည်းကောင်း၊ မကောင်းမှုကိုသော်လည်းကောင်း ပြုအံ့၊ ထို ကောင်း မကောင်းသောကံ

ကြောင့် အခြားဘဝ နာမ်ရုပ်က သန္ဓေယူသည်"

"မင်းကြီး အကယ်၍ နောက်ထပ်တစ်ဖန် သန္ဓေမယူတော့အံ့။ အလွတ်ဖြစ်သွားတော့သည်သာ။ သို့သော် သန္ဓေယူသည်ဖြစ်၍ အလွတ်ဖြစ်မသွား"

"ဥပမာပေး၍ ရှင်းပါ"

"တစ်စုံတစ်ယောက်သောသူသည် အခြားတစ်စုံတစ်ယောက်သောသူ၏ သရက်သီးကိုခိုးယူအံ့၊ ထိုသူခိုးအား သရက်သီးပိုင်ရှင်က ဖမ်းဆီး၍ မင်းကြီး ဤသူ ကျွန်တော်မျိုး၏သရက်သီးကို ခိုးယူပါသည်ဟု မင်းကြီးထံလျှောက်ထားအံ့၊ ခိုးသူက 'မဟုတ်ပါ၊ ဤသူ၏ သရက်သီးများကို မခိုးယူပါ၊ ဤသူစိုက်သော သရက်ပင်မှာ တခြားဖြစ်ပါသည်။ ကျွန်တော်မျိုး ခူးယူခဲ့သော သရက်သီးများကား တခြားသာဖြစ်ပါသည်' ဟု လျှောက်ထားသော် မင်းကြီး ထိုသရက်သီးခိုးသူ အပြစ်ရသင့်သလော၊ လွတ်သင့်သလော?"

"အပြစ်ရသင့်ပါသည် ဘုရား"

"အကြောင်း အသို့နည်း"

"အရှင်ဘုရား ခိုးသူက ထိုကဲ့သို့လျှောက်ထားသော်လည်း ပထမ သရက်သီးနှင့်စပ်သော နောက်သရက်သီးများခိုးမှုအတွက် အပြစ်ရသင့်ပါသည်"

"မင်းကြီး ဤဥပဒေအတိုင်းပင် တစ်စုံတစ်ယောက်သောသူသည် ဤနာမ် ဤရုပ် ကုသိုလ် အကုသိုလ်ပြုအံ့၊ ထိုကံများကြောင့် အခြားနာမ် ရုပ်က သန္ဓေယူသည်။ ထို့ကြောင့် ထိုသူသည် သူ၏ကံများမှ မလွတ်"

"မင်းကြီး တစ်စုံတစ်ယောက်သူသည်ဆောင်းတွင်း မီးလှုံ၏။ မီးကို မသတ်ခဲ့ဘဲ ထွက်သွား၏။ ထိုမီးက အခြားသူတစ်ယောက်၏ လယ်ကို ကူးစက်လောင်ကျွမ်းသွားအံ့၊ (ဖမ်းဆီး၍ မင်းကြီးထံ ဆောင်ကြဉ်းလာသော အခါ ထိုသူကပြော၏)'ကျွန်တော်မျိုးလယ်ကို မီးမရှို့ပါ၊ ကျွန်တော်မျိုးမွေးသောမီးကား တခြား၊ လယ်ကိုလောင်ကျွမ်းသောမီးကား တခြားဖြစ်၍ ကျွန်တော်မျိုး အပြစ်မရသင့်ပါတဲ့ မင်းကြီး။ ထိုသူ အပြစ်ရသင့်သလော၊ လွတ်သင့်သလော"

"ရသင့်ပါသည်။ သူမွေးသောမီးပင် ကျယ်ပြန့်၍ လယ်ကိုပါ လောင်ကျွမ်းသွားခြင်းဖြစ်ပါသည်"

"တစ်စုံတစ်ယောက်သောသူသည် မီးခွက်ကို ဆောင်ယူ၍ သူ့အိမ်အ

ပေါ်ထပ် ခေါင်မိုးပေါ်သို့သွား၍ ထမင်းစား၏။ ထိုမီးခွက်တောက်၍ သက်ငယ်အချို့ မီးကူး၏။ မီးသည် သက်ငယ်အိမ်ကိုကူး၍ အခြားတစ်ရွာလုံးရှိ အိမ်များကိုလည်း ကူးစက်၏။ ရွာသားများက ထိုသူကိုဖမ်း၍ 'နင် ရွာထဲမှာ အဘယ်ကြောင့် မီးရှို့သနည်း' ဟု ဆိုလတ်သော် 'ငါ ရွာကို မီးမရှို့၊ ငါ မီးရောင်တွင်ထမင်းစားသောမီးခွက်ကား တခြား၊ ရွာကိုလောင်သောမီးကား တခြားသာ' ဟု အချင်းချင်းငြင်းခုံကာ သင်မင်းကြီးအထံသို့ ရောက်လာပါလျှင် မင်းကြီး ဘယ်ဘက်ကနေမည်နည်း"

"ရွာသားများဘက်က နေပါမည်ဘုရား"

"မင်းကြီး၊ ဤဥပမာအတိုင်းပင် စုတေသည်နှင့်တစ်ပြိုင်နက် တစ်မျိုးသော နာမ်ရုပ် ချုပ်ပျောက် ပျက်စီးသွားပြီး နောက်၊ နောက် ပဋိသန္ဓေနှင့် အတူ အခြားနာမ်ရုပ်ပေါ်လာသည်။ သို့သော် နောက် နာမ်ရုပ်သည် ရှေ့နာမ်ရုပ်နှင့်အကြောင်းမကင်း။ ထို့ကြောင့် ထိုသူသည် သူပြုသောကံများမှ မလွတ်"

"မင်းကြီး တစ်စုံတစ်ယောက်သော သူသည် ငွေ (အသွင်း) ပေး၍ မိန်းမငယ်တစ်ဦးနှင့် ထိမ်းမြားပြီးနောက် တစ်နေရာသို့ ထွက်ခွာသွား၏။ နှစ်အနည်းငယ်ကြာပြီးနောက် ကလေးမအရွယ်ရောက်လာ၏။ ထိုအခါ အခြားလူတစ်ယောက်က ငွေ (အသွင်း) ပေး၍ ကလေးမအား ထိမ်းမြားသိမ်းပိုက်၏။ တစ်ဖန် ပထမလူပြန်လာပြီးနောက် ထိုသူက 'နင် ငါ့မိန်းမကို ဘာကြောင့် ခိုးရသနည်း' ဆိုလတ်သော် ဒုတိယလူက 'ငါ နင့်မိန်းမကို မခိုးယူ၊ နင် ငွေပေးထိမ်းမြားသော မိန်းမငယ်ကားတခြား၊ ငါငွေပေးထိမ်းမြားသော အရွယ်ရောက်နေသည့် မိန်းမကတခြား' ဟု အဖြေပေးအံ့၊ နှစ်ဦးသား ငြင်းခုံ၍ သင်မင်းကြီးထံသို့ ရောက်လာအံ့၊ သင်မင်းကြီး ဘယ်ဘက်ကနေမည်နည်း"

"ပထမလူဘက်ကနေပါမည်၊ (အကြောင်းကား) မိန်းမငယ်ပင် ကြီးထွား၍ အရွယ်ရောက်လာခြင်းဖြစ်ပါသည် ဘုရား"

ဖြစ်ဆဲဖြစ်သော သူသည်ထိုသူပဲလော၊ အခြားတစ်ယောက်လော၊ ထိုသူထိုသူပဲလည်းမဟုတ်၊ အခြား အခြားတစ်ယောက်လည်း မဟုတ်။

"မင်းကြီး၊ သင်မင်းကြီး အလွန်ငယ်စဉ်အခါက ပက်လက်မျှသာ အိပ်တတ်သေး၏။ ထိုအခါကနှင့် ယခုကြီးပြင်းလာသောအခါ သင်မင်းကြီး

တစ်ဦးတည်းပဲလော"

"မဟုတ်ပါအရှင်၊ ယခုအခါ တပည့်တော်ကား အခြားတစ်ဦးဖြစ်သွားပါပြီ"

"မင်းကြီး၊ သင်မင်းကြီးသည် ထိုကလေးမဟုတ်တော့ဆိုလျှင် သင်မင်းကြီးမှာ အမိ၊ အဘ၊ ဆရာ တစ်စုံတစ်ယောက်မရှိတော့။ အကြောင်းသော်ကား ကိုယ်ခန္ဓာအခိုက်အတန့်အသီးသီးမှာပင် အမိအသီးသီးရှိခဲ့ပေမည်။ ကြီးပြင်းလာသောအခါ အမိသည် သီးခြားတစ်ဦးဖြစ်ရမည်။ ပညာသင်ကြားသောအခါက တစ်ယောက်၊ သင်ကြားတတ်မြောက်လာသောအခါ အခြားတစ်ယောက်ဖြစ်ရပေမည်။ အပြစ်ကို ကျူးလွန်သူက တခြား၊ ထိုအပြစ်အတွက် လက်ခြေအဖြတ်ခံရမည့်သူက တခြား ဖြစ်နေရပေတော့မည်"

"အရှင်ဘုရား ဤစကားဖြင့် အဘယ်သို့ ဆိုလိုပါသနည်း"(အရှင်ဘုရားဆိုလျှင် ဘယ်ပုံဖြေမည်နည်း)

"မင်းကြီး ငါသည် ငယ်စဉ်က တခြား၊ ယခုကြီးလာသောအခါ တခြားဖြစ်သည်ကား မှန်၏။ သို့သော်လည်း အားလုံး အခိုက်အတန့် အသီးသီး ဤကိုယ်ကာယမှာပင် အဆက်အစပ်အားဖြင့် တစ်စဉ်တစ်တန်းကြီး ဖြစ်လာခဲ့သည်"

"တစ်စုံတစ်ယောက်သူ ဆီမီးခွက်ထွန်းညှိသောအခါ ထိုဆီမီးသည် တစ်ညဉ့်ပတ်လုံးထွန်းတောက်နေအံ့လော"

"တစ်ညဉ့်ပတ်လုံး ထွန်းတောက်နေပါလိမ့်မည်"

"မင်းကြီး၊ ညဉ့်၏ ပထမယာမ်က မီးတောက်သည်ပင် ဒုတိယယာမ်၊ တတိယယာမ်များတွင် ရှိနေသေးသလော"

"မရှိပါအရှင်"

"မင်းကြီး သို့ဖြစ်လျှင် ပထမယာမ်က ဆီမီးခွက်တခြား၊ ဒုတိယယာမ်က ဆီမီးခွက်တခြား၊ တတိယယာမ်က ဆီမီးခွက်တခြားဖြစ်သလော"

"မဟုတ်ပါအရှင်၊ ထိုပထမယာမ်က ဆီမီးခွက်ပင် တစ်ညဉ့်ပတ်လုံး တောက်လင်းနေပါသည်"

"မင်းကြီး ဤဥပမာအတိုင်းပင် အရာဝတ္ထုတစ်ခု၏ ရှိမှုနှင့်ပတ်သက်၍ တစ်ခုသော အခိုက်အတန့် (ခဏ) သည် အဖြစ်၊ တစ်ခုသော အခိုက်အတန့်

သည် အပျက်၊ နောက်ထပ် ဤနည်းအတိုင်း ဖြစ်ပျက်စဉ် ဆက်လက်သွားလေသည်။ ဖြစ်စဉ်တစ်ခု၏ အခိုက်အတန့် (ခဏ) နှစ်ခုတွင် ခဏတစ်ခုမျှ အကြားမရှိ။ အကြောင်းသော်ကား တစ်ခုပျက်လျှင်ပင် တစ်ခုဖြစ်တော့သည်။ ထို့ကြောင့် ထိုသူ ထိုသူပဲလည်းမဟုတ်၊ အခြားသူလည်း မဟုတ်၊ တစ်ဘဝ၏ အဆုံးဝိညာဉ် (စေတနာ) ပျက်သွားလျှင်ပင် အခြားမဲ့တစ်ဘဝ၏ အစဝိညာဉ် ဖြစ်ပေါ်လာတော့သည်"

"အရှင် တစ်ခုသော နာမ်ရုပ်ဖြင့် ကောင်းမကောင်းသော ကံများကို ပြုခဲ့သော ထိုကံများသည် အဘယ်တွင် တည်ကြသနည်း"

"မင်းကြီး ဘယ်သောအခါမှ နောက်ချန်မနေရစ်ခဲ့သော အရိပ်ကဲ့သို့ ထိုကံများသည် ပြုသူ၏နောက်သို့ လိုက်ကြလေသည်"

"အရှင် ထိုကံများ အဘယ်တွင် တည်နေကြသည်ကို ပြနိုင်ပါသလော"

"မင်းကြီး ကံများကို အဘယ်တွင် တည်နေသည်ဟု မပြနိုင်။ သစ်ပင်တစ်ပင်တွင် လက်ရှိအနေအားဖြင့် မသီးသေးသော သစ်သီးများကို ပြနိုင်သလော"

ဗုဒ္ဓသည် ကမ္ဘာ၏ မူလဓာတ်ကို နာမ်ရုပ်အားဖြင့် ခွဲခြမ်းဝေဖန်ခဲ့၏။ ၎င်းနှင့်ပတ်သက်၍ မိလိန္ဒမင်းကြီးက မေးလျှောက်သည်။

"အရှင် နာမ်ဟူသည် အဘယ်အရာမျိုးနည်း၊ ရုပ်ဟူသည်ကား အဘယ်အရာမျိုးနည်း"

"မင်းကြီး အကြမ်းစားအရာဝတ္ထုအားလုံး ရုပ်၊ အနုစား၊ စိတ် စေတသိက်အားလုံး နာမ်၊ (၂)ခု တစ်ခုကို တစ်ခုမှီသည်။ တစ်ခုမပါဘဲ တစ်ခု မဖြစ်နိုင်၊ (၂) ခု (အမြဲတမ်း) ပေါင်းဖက်နေသည်။ အကယ်၍ ကြက်မဝမ်းတွင် (ဗီဇအနေအားဖြင့်) ကလလရေကြည်မရှိခဲ့သော် ဥလည်းမဖြစ်နိုင်။ အကြောင်းကား ကလလနှင့်ဥ (၂) မျိုး အချင်းချင်းမှီသည်။ (၂) မျိုးတစ်ပေါင်းတည်းဖြစ်သည်။ ဤကဲ့သို့သောအစဉ်သည် မပြတ်ဆက်လက်လာခဲ့သည်"

မိလိန္ဒမင်းကြီးသည် နိဗ္ဗာန်နှင့်ပတ်သက်၍ မေးမြန်းလျှောက်ထားလေသည်။

"အရှင် ချုပ်ငြိမ်းသွားခြင်းသည်လျှင် နိဗ္ဗာန်လော"

"ဟုတ်သည်မင်းကြီး၊ ချုပ်ငြိမ်းသွားခြင်းသည်လျှင် နိဗ္ဗာန်ဖြစ်၏။

ဗာလပုထုဇဉ်အားလုံးအတွင်း အပအာရုံများကို ခံစားသုံးဆောင်မှုတွင် စွဲငြိတပ်မက်နေကြ၏။ ထိုအာရုံများတွင် ပျော်မြူးနေကြ၏။ ထိုအာရုံများတွင်သာ နှစ်မြုပ်နေကြ၏။ ထိုသူတို့သည် အာရုံရေယာဉ်ကြော၌ မျောပါနေကြကုန်၍၊ ဇာတိ၊ ဇရာ၊ မရဏ၊ သောက၊ ပရိဒေဝ၊ ဒုက္ခ၊ မနသ၊ ဥပါယာသတို့မှ မလွတ်ကုန် မင်းကြီး။ သို့သော်လည်း အရိယမဂ် ပညာရှင်ကား အတွင်းအပအာရုံများကို ခံစားသုံးဆောင်မှုတွင် မစွဲငြိမတပ်မက်သဖြင့် ထိုအရိယမဂ်ပညာရှင်အား တဏှာချုပ်ခြင်းကြောင့် ဥပါဒါန်ချုပ်၏။ ဥပါဒါန်ချုပ်ခြင်းကြောင့် ဘဝချုပ်၏။ ဘဝချုပ်ခြင်းကြောင့် ဇာတိချုပ်၏။ ဇာတိချုပ်ခြင်းကြောင့် သောက၊ ပရိဒေဝ၊ ဒုက္ခ၊ ဒေါမနဿ၊ ဥပါယာသများချုပ်ကုန်၏။ ဤသို့အားဖြင့် ချုပ်ငြိမ်းသွားခြင်းသည်လျှင် နိဗ္ဗာန်ဖြစ်၏"

"ဗုဒ္ဓဘယ်မှာရှိသနည်း"

"မင်းကြီး ဘုန်းတော်ကြီး သခင်ဘုရားရှင် အနုပါဒိသေသနိဗ္ဗာန်ဓာတ်ဖြင့် ပရိနိဗ္ဗာန်စံတော်မူပြီ။ ၎င်းနောက် ဗုဒ္ဓဘယ်မှာရှိသည်ဟု ညွှန်ပြခြင်းငှာမတတ်နိုင်"

"အရှင် ဥပမာပေး၍ ရှင်းပါ"

"မင်းကြီး တောက်လင်း၍ ချုပ်ငြိမ်းသွားပြီးသော မီးတောက်မီးလျှံဘယ်မှာရှိသည်ကို ညွှန်ပြနိုင်ပါမည်လော"

"မညွှန်ပြနိုင်ပါအရှင်၊ မီးတောက်မီးလျှံချုပ်ငြိမ်းသွားပါပြီ"

နာဂသေနသည် သူ၏ပြဿနာ အဖြေများ၌ ဗုဒ္ဓ၏ အဘိဓမ္မာတွင်နောက်ထပ် အသစ်တစ်ခုမှမဆက်။ သို့သော် ဘယ်မျှရှင်းလင်းပြတ်သားအောင် ဖြေရှင်းခဲ့သည်ဟူသောအချက်ကား အထက်ပါကောက်နုတ်ချက်များအရ ထင်ရှားလှပေသည်။

ဤနေရာတွင် ကျွန်ုပ်တို့သည် ဤဆိုအပ်လတ္တံ့သော အချက်များကိုသတိထားသင့်လှပေသည်။ နာဂသေန ဖွားမြင်ရာဌာနမှာ ဟိန္ဒူကုရိတ်နိုင်ငံနှင့် ယဉ်ကျေးမှုဗဟိုဖြစ်သော ဆလာယကုဋ္ဌ(သာဂလ)အနီးအနားတွင် ဖြစ်သည်။ အိန္ဒိယအသိဉာဏ်နှင့် ဂရိတ်အသိဉာဏ် (၂) ရပ်ပေါင်းစပ်ရရှိခြင်းကြောင့်ပင်လျှင် ရှင်နာဂသိန်သည် မိလိန္ဒဘုရင်ကဲ့သို့သော တတ္တဗေဒပညာရှင်တစ်ဦးအား ကြေလည်သွားအောင် ဖြေရှင်းချေပနိုင်ခဲ့လေသည်။ မိလိန္ဒ

မင်းကြီးနှင့် ရှင်နာဂသိန်တို့၏ အမေးအဖြေဖြစ်သော မိလိန္ဒပညာသည် ဟိန္ဒူနှင့် ဂရုတ်အသိဉာဏ်များပေါင်းစပ်၍ အိန္ဒိယပြည်တွင် အယူအဆသစ်များ စတင်လာခဲ့သည့် ရာဇဝင်ပါကျယ်ဝန်းသော အဖြစ်အပျက်များ၏ နမူနာ တစ်ရပ်ဖြစ်ပေသတည်း။

* * *

## ၁။ ဗုဒ္ဓဆိုင်ရာ ဂိုဏ်းကွဲများ

ဗုဒ္ဓသည် အတ္တဝါဒကို အပြင်းအထန်ဆန့်ကျင်၏။ ရုပ်ဝါဒကိုလည်း ဆန့်ကျင်၏။ ထိုအကြောင်း ကျွန်ုပ်တို့ ရေးသားခဲ့ပြီးလေပြီ။ မောရိယမင်းများ အုပ်စိုးသောခေတ် ကုန်ဆုံးသည့်တိုင်အောင် ဗုဒ္ဓဘာသာ၏ ဗဟိုချက်ချာဌာနမှာ မဂဓတိုင်းသာလျှင်ဖြစ်၏။ သို့သော် နိုင်ငံတော်ကြီးပျက်စီးသည်နှင့် တစ်ပြိုင်နက် ဗုဒ္ဓဘာသာ၏ ဗဟိုဌာနမှာလည်း တဖြည်းဖြည်းချင်း ဗုဒ္ဓဘာသာ၏ အားအကောင်းဆုံးသော အကိုင်းအခက် (ဂိုဏ်း) ကို အရှေ့ဘက်မှ အနောက်ဘက်သို့ သယ်ဆောင်ရင်း ရွေ့ပြောင်းစပြုခဲ့လေသည်။

ဤကဲ့သို့ နေရာရွေ့ပြောင်းရာတွင် သဗ္ဗတ္ထိဝါဒဂိုဏ်းသည် မဂဓမှ ဥရမုဏ္ဍတောင်(ဂေါဝဒ္ဓန၊ မထုရာ)သို့ ရောက်ရှိခဲ့လေသည်။ ထို့နောက် ဂရိတ်တို့အုပ်စိုးချိန်တွင် ပန်ဂျဗ်၌ အခိုင်အမြဲအခြေစိုက်ရင်း ကနိဿျက လက်ထက် ခရစ်နှစ် ပထမရာစုအလယ်ပိုင်းတွင် ဂန္ဓာရ ကသ္မီရသည် သဗ္ဗတ္ထိဝါဒဂိုဏ်း၏ ဗဟိုချက်ချာဌာနဖြစ်ခဲ့လေသည်။ ဂရိတ်လူမျိုးတို့၏ အတွေးအခေါ်အနုပညာစသည်တို့နှင့် ၎င်းဂိုဏ်းပေါင်းစပ်မိသော အရပ်မှာ ၎င်းအရပ်ပင်ဖြစ်၏။ အသောကဘုရင်လက်ထက် (၂၆၉ ခရစ်မပေါ်မီ) သို့တိုင်သောအခါ ဗုဒ္ဓဘာသာဂိုဏ်းကွဲများ အောက်ပါအတိုင်းရှိခဲ့လေသည်။

(ကထာဝတ္ထုအဋ္ဌကထာ)

ဗုဒ္ဓဘာသာ –

(က) မဟာသံဃိက

(ခ) ထေရဝါဒ

**က– မဟာသံဃိက –** (၁) ဂေါကုလိက (၂) စေတျဝဟာရိက

(၁)ဂေါကုလိက – ၁။ ပညတ္တိဝါဒ၊ ၂။ ဗာဟုလိက (ဗာဟုဿုတိက)

၂။ ဗာဟုလိက–စေတျဝါဒီ

**ခ– ထေရဝါဒ –** (၁) မဟိံသာသက (၂) ဝဇ္ဇီပုတ္တက

(၁)မဟိံသာသက – ၁။ သဗ္ဗတ္ထိဝါဒ၊ ၂။ ဓမ္မဂုတ္တိက

၁။ သဗ္ဗတ္ထိဝါဒ – ကဿပီယ

ကဿပီယ – သင်္ကန္တိက

သင်္ကန္တိက – သုတ္တဝါဒီ(သုတ္တန္တိက)

(၂)ဝဇ္ဇီပုတ္တက – (၁) ဓမ္မောတ္တရီ

(၂) ဘဒ္ဒယာနိက

(၃) ဆန္နာဂါရိက (သာဏာဂါရိက)

(၄) သမ္မိတီယ

ဗုဒ္ဓပရိနိဗ္ဗာန်စံလွန်သည် (၄၈၃ ခရစ်မပေါ်မီ)မှ နောက်အနှစ်တစ်ရာ (၃၈၀ ခရစ်မပေါ်မီ) ကြာသောအခါ နှစ်ဂိုဏ်းကွဲပြားခြင်းရှိသော ထေရဝါဒ (မထေရ်ကြီးများနောက်လိုက်သောဝါဒ)နှင့် မဟာသံဃိကဟူ၍ ဂိုဏ်းကြီး ၂ ဂိုဏ်းကွဲပြားခဲ့၏။ ထိုဂိုဏ်းကြီး ၂ ဂိုဏ်းသည် ရှေးဦးစွာ အနှစ်တစ်ရာ ကျော်အတွင်း မဟာသံဃိက ၆ ဂိုဏ်းနှင့် ထေရဝါဒ ၁၂ ဂိုဏ်း ပေါင်း ၁၈ ဂိုဏ်းကွဲပြားခဲ့လေသည်။ သဗ္ဗတ္ထိဝါဒသည် ထေရဝါဒဂိုဏ်းများတွင် ပါဝင်၏။ အဆိုပါ ၁၈ ဂိုဏ်းတွင် ပိဋကသုံးပုံ(သုတ်၊ ဝိနည်း၊ အဘိဓမ္မာ)လည်းရှိ၏။ သုတ်နှင့်ဝိနည်း အနည်းအများတူညီကြ၏။ သို့သော်လည်း အဘိဓမ္မာအရာ တွင်ကား အယူအဆသာလျှင် ကွဲပြားသည်မဟုတ်၊ အဘိဓမ္မာကျမ်းစာများ လည်း ကွဲပြား၏။ ထေရဝါဒီတို့သည် အဆိုပါ ရှေးဟောင်းဂိုဏ်းများအနက် အောက်ပါဂိုဏ်း ၈ မျိုး၏ အချို့သောအယူအဆများကို သူတို့၏ အဘိဓမ္မာ ကျမ်း'ကထာဝတ္ထု' ၌ ချေဖျက်ထားခဲ့၏။

၁။ မဟာသံဃိက ၂။ ဂေါကုလိက ၃။ ကဿပီယ ၄။ ဘဒ္ဒယာနိက ၅။ မဟိံသာသက ၆။ ဝဇ္ဇီပုတ္တီယ ၇။ သဗ္ဗတ္ထိဝါဒ ၈။ သမ္မိတီယ

ကထာဝတ္ထုကျမ်းကို အသောကဘုရင်၏ ဆရာတော် မောဂ္ဂလိပုတ္တ

တိဿ၏ လက်ရာဟု ဆိုကြ၏။ သို့သော်လည်း ကထာဝတ္ထုတွင် ဖွင့်ဆိုထားအပ်သော ၂၁၄ ပါးသော ကထာဝတ္ထု(ဝါဒဆိုင်ရာအကြောင်းအရာ)များအနက် ၇၃ ပါးသော ကထာဝတ္ထုများသာ အဆိုပါရှေးဟောင်းဂိုဏ်းများနှင့်ဆက်စပ်၏။ ၎င်း ၇၃ ပါးသော ကထာဝတ္ထုများသာ မောဂ္ဂလိပုတ္တတိဿလက်ထက်တွင်ရှိ၏။ ၇၃ ပါးသော ကထာဝတ္ထုများပါသော 'ကထာဝတ္ထုကျမ်း၏ ပရိစ္ဆေဒများသာ မောဂ္ဂလိပုတ္တတိဿထေရ်၏လက်ရာဟု ဆိုနိုင်သည် ဟူလို။ ကျန်သော'ကထာဝတ္ထု'ကို အသောကဘုရင်၏နောက်ပိုင်းအောက်ပါဂိုဏ်း ၈ ဂိုဏ်းနှင့် ဆက်စပ်၏။

(၁) အန္ဓက
(၂) အပရသေလီယ
(၃) ပုဗ္ဗသေလီယ
(၄) ရာဇဂိရိက
(၅) သိဒ္ဓတ္ထက
(၆) ဝေပုလ္လဝါဒ
(၇) ဥတ္တရာပထက
(၈) ဟေတုဝါဒ

အဆိုပါရှေးဟောင်းဂိုဏ်းများ၏ အဘိဓမ္မာပိုင်းဆိုင်ရာ အယူအဆများကို ဖော်ထုတ်ရန် မလိုအပ်ပေ။ အကြောင်းသော်ကား ၎င်းအယူအဆများသည် "စံပြကျမ်း"အထည်ကိုယ်မှ အပြင်အပဖြစ်သော အကြောင်းအရာများသာဖြစ်၏။ သို့သော် ဤမျှကား သတိပြုအပ်၏။ ဗုဒ္ဓဘာသာဝင်တို့၏ထင်ရှားသော အဘိဓမ္မာဂိုဏ်းကြီး ၄ ဂိုဏ်းရှိသည့်အနက် သဗ္ဗတ္ထိဝါဒဂိုဏ်းနှင့် သုတ္တန္တိကဂိုဏ်း အဘိဓမ္မာကား ရှေးဟောင်း ၁၈ ဂိုဏ်းနှင့် ဆက်စပ်၏။ ကျန်သောယောဂါစာရနှင့် မဓျမိက ဂိုဏ်းများကား ၁၈ ဂိုဏ်းမှ အလွန်နောက်ကျ၍ ခရစ်နှစ်ပထမရာစုအတွင်း ဂိုဏ်းသစ်များ ဖြစ်ကြ၏။ ထိုဂိုဏ်းများ၏ တိုးတက်ပွင့်ကားလာသောအစဉ်နှင့်ပတ်သက်၍ "မဟာယာနဗုဒ္ဓဘာသာအကြောင်း" တွင် ကျွန်ုပ်တို့ရေးသားခဲ့ပြီးလေပြီ။ မဟာသံဃိကဂိုဏ်းများတွင် 'စေတျဝါဒ'မည်သော ဂိုဏ်းတစ်ဂိုဏ်းရှိ၏။ ၎င်းဂိုဏ်း၏ ဗဟိုချက်ချာဌာနကား အန္ဓနိုင်ငံတော်အတွင်း ဓညကဋကရှိ မဟာစေတျ (=မဟာထူပ)ဖြစ်

၏။ ထိုဌာနကို အကြောင်းပြု၍ ၎င်းဂိုဏ်း၏ အမည်စေတျဝါဒီဟုတွင်၏။ အန္ဓနိုင်ငံတော်၏အနောက်ပိုင်း (ယခုအခေါ် မဟာရာသျှတြ)၌ သမ္မိတီယဂိုဏ်းအားကောင်း၏။ အဆိုပါစေတျဝါဒီဂိုဏ်းနှင့် သမ္မိတီယဂိုဏ်းနှစ်ဂိုဏ်းမှ ရှေ့သို့ဆက်လက်၍ မဟာယနဂိုဏ်း၏ တိုးတက်လာပုံမှာ ဇယားပါအတိုင်း ဖြစ်၏။

ယောဂါစာရကျမ်းကို အင်တိုက်အားတိုက်ထောက်ခံသော 'လင်္ကာဝတာရသုတ္တ'သည် ဝေပုလ္လဝါဒဆိုင်ရာ ပိဋကနှင့် ဆက်စပ်၏။ နာဂဇ္ဇုန၏ မဇ္ဈိမက (=သုည) ဝါဒကို ထောက်ခံသောအားဖြင့် ပညာပါရမိတာသုတ်များနှင့် အခြားသောသုတ်များကိုရေးစီရင်ခဲ့ကြ၏။ သို့ရာတွင် နာဂဇ္ဇုနသည် သူ၏အဘိဓမ္မာကိုထောက်ခံချက်ပေးဖို့အတွက် ၎င်းသုတ်များကို မလိုအပ်ပေ။ နာဂဇ္ဇုနသော်ကား မိမိ၏အဘိဓမ္မာကို ပတိစ္စသမုပ္ပာဒ် (=ပြတ်တောက် သောအလျဉ်သဘောဖြင့်ဖြစ်ခြင်း) သဘောအပေါ်တွင် အမှီသဟဲပြုထား ခဲ့၏။

'ကထာဝတ္ထု'ကျမ်းလာ နောက်ပိုင်းဂိုဏ်းများတွင် ဥတ္တရာပထနှင့် ဟေတုဝါဒဟူသော ဂိုဏ်းအမည် နှစ်မျိုးကို ကျွန်ုပ်တို့ဖတ်ရှုရ၏။ ဥတ္တရာပထဟူသည်မှာ ကသ္မီရ-ဂန္ဓရတိုင်းရှိ ဂိုဏ်းတစ်ခုဖြစ်ကြောင်းမှာ သံသယဖြစ်ဖွယ်မလိုပေ။ သို့သော် ဟေတုဝါဒ၏တည်ရာဌာနနှင့်ပတ်သက်၍ ကျွန်ုပ်တို့မသိကြရပေ။



ပလေတို၏ ဝိညာဉ်တော်ဝါဒကို ပတိစ္စသမုပ္ပာဒ်နှင့် ဆက်စပ်လိုက် လျှင် ထိုဝါဒသည် လွယ်ကူစွာပင် ယောဂါစာရဝိညာဉ်တော်ဝါဒဖြစ်သွားလေတော့၏။ သို့သော် ယောဂါစာရဝိညာဉ်တော်ဝါဒကို ထုတ်ဖော်သောအဘိဓမ္မာဆရာအသင်္ဂ၏ ဇာတိပဝတ္တိကို ပေသျှာဝရ်(ဂန္ဓာရတိုင်း)ဟု သိရသည်မှာ အပိုအမိုဖြစ်သော အထောက်အထားယခုတိုင် ကျွန်ုပ်တို့ထံတွင် မရှိသေးပေ။

နာဂဇ္ဇုနနောက် ဗုဒ္ဓအဘိဓမ္မာပြန့်ပွားတိုးတက်မှုတွင် အားအကောင်းဆုံးလက်ရာမှာ အသင်္ဂနှင့် ဝသုဗန္ဓုပဌာန်လူမျိုး ညီနောင် ၂ ဦး၏လက်ရာဖြစ်လေသည်။ နာဂဇ္ဇုနမတိုင်မီ အနှစ်တစ်ရာက အမာခံဗုဒ္ဓဘာသာဝင်အတွေးအခေါ်သမားကြီးတစ်ဦးဖြစ်သော အဿဃောသကို ကျွန်ုပ်တို့ကြည့်လိုက်လျှင် သူ၏ ပဝတ္တိကိုလည်း ပေသျှာဝရ်(ဂန္ဓာရတိုင်း)ဟုသာ သိရသေးသည်။

ဤအချက်ကိုထောက်ထားသဖြင့်လည်း ဗုဒ္ဓအဘိဓမ္မာအပေါ်သို့ ဂရိလူမျိုးများ၏ လွှမ်းမိုးမှုကျရောက်ကြောင်း မချသိရပေသည်။

အဿဃောသကို မဟာယာနများက သူတို့၏ ဆရာများတွင် သွတ်သွင်းထားကြ၏။ ၎င်းအချက်ကို အခိုင်အမာထောက်ခံသောအားဖြင့် 'မဟာယာနသဒ္ဓုပ္ပာဒ' ကျမ်းကို အဿဃောသ၏ လက်ရာအဖြစ် တင်ပြကြ၏။ သို့သော် 'ဗုဒ္ဓစရိတ'၊ 'သုန္ဒရာနန္ဒ'၊ 'သာရိပုတ္တပ္ပကရဏ'ကဲ့သို့သော ကဗျာပြဇာတ်ကျမ်းများကို ဖတ်ရသူ၊ တိဗက်ဘာသာသို့ ပြန်ဆိုထားသော ၎င်းဆရာရေးသဗ္ဗတ္ထိဝါဒီသုတ်အဖွင့်များကိုတွေ့ရသူ၊ 'သဗ္ဗတ္ထိဝါဒီဆရာများ' ကို စေတီပုထိုးပြုလုပ်၍ ကိုးကွယ်သည့်ပြင် ပိဋကတ်သုံးပုံ၏အဖွင့်(ဝိဘာသာ)အတွက် သဗ္ဗတ္ထိဝါဒီဆရာများအစည်းအဝေးကို ခေါ်ယူကျင်းပခဲ့သော ကနိဿျကဘုရင်ကို တွေးမိသူမှန်က အဿဃောသကို သဗ္ဗတ္ထိဝါဒီမထေရ်တစ်ဦးမှ လွဲ၍ အခြားတစ်မျိုးမဆိုနိုင်ပေ။ [ပြိုက္လ–ခင် (တိဗ္ဗတ်)၌ ထိန်းသိမ်းထား အပ်သော သက္ကတ ဘာသာပေစာတစ်ခု၏ အဆုံး၌ အဿဃောသကို သဗ္ဗတ္ထိဝါဒီဘိက္ခုဟု ရေးထားသည်ကို တွေ့ရ၏]

ရှိစေဦးတော့၊ ဂရိတ်လူမျိုးများနှင့် သကမျိုးများ ကြီးစိုးစဉ်အချိန် အဆိုပါရေးဟောင်းဗုဒ္ဓဘာသာဂိုဏ်းများအကြောင်းကို ယခုထက် နက်နက်နဲနဲလေ့လာနိုင်လျှင် အဆိုပါဂိုဏ်းများသမိုင်းကြောင်းသာမက အိန္ဒိယအဘိဓမ္မာ၏ အကြီးအကျယ်တိုးတက်ခဲ့သော သမိုင်းကြောင်းကို အနည်းနှင့်အများတွေ့နိုင်ပေလိမ့်မည်။ သို့သော် တရုတ်၊ တိဗက်ဘာသာပြန်များ၊ ၎င်းပြင် ဂိုဗီသဲကန္တာရကြီးက ဤအချက်တွင် ကျွန်ုပ်တို့အား များစွာ အထောက်အကူပြုနိုင်ပေသည်။ ၎င်းအချက်သည် ရှေ့သို့ဆက်လက်ရှာဖွေဖို့အချက်ဖြစ်၏။ အိန္ဒိယနှင့် ဂရိတ်အတွေးအခေါ်များ ဂန္ဓာရတိုင်းတွင် ပေါင်းဆုံခဲ့ရာ ထိုပေါင်းစုံမှုတွင် အဿဃောသသည် မိမိ၏ ခေတ်မီသော ကဗျာပြဇာတ်များကိုသာမက အဘိဓမ္မာများကိုပါ ဂရိတ်နှင့်ဆက်စပ်ပေးသော ကွင်းဆက်တစ်ခုဖြစ်ကြောင်း၊ အဿဃောသနှင့် နာဂဇ္ဇုန တစ်နည်းနည်းအားဖြင့် အဆက်အသွယ်ရှိကြောင်း၊ ထို့နောက် အိန္ဒိယအဘိဓမ္မာများကို ပုံစံအသစ်ထုထောင်၍ နာဂဇ္ဇုနက အဘိဓမ္မာစက်ကို လှည့်လည်ခဲ့ကြောင်းမှလွန်၍ အပိုကျွန်ုပ်တို့ မပြောနိုင်ကြပေ။

ဘီစီ ၃ ရာစု သမ္မိတီယျ စေတျဝါဒီ (မဟာသံဃိတ)

အန္ဓက

ဘီစီ ၁ ရာစု ဝေပုလ္လ ပုဗ္ဗသေလီယ အပရသေလီယ ရာဇဂိရိက သိဒ္ဓတ္ထတ

အေဒီ ၁ ရာစု မဟာယာန

*

## ၂။ နာဂဇ္ဇုနနှင့် သုညဝါဒ

**အတ္ထုပ္ပတ္တိ၊** နာဂဇ္ဇုန (ခရစ် ၁၇၅) သည် ဝိဒဗ္ဘ (=ဗရာရ်) နယ်တွင် ဗြာဟ္မဏ တစ်ဦး၏အိမ်တွင် ဖွားမြင်ခဲ့၏။ သူ၏ ငယ်စဉ်ကအကြောင်းနှင့်စပ် လျဉ်း၍ ကျွန်ုပ်တို့ ခန့်မှန်းနိုင်သောအချက်ကား သူသည် ဉာဏ်ထက်သော ကျောင်း သားတစ်ဦးဖြစ်၍ ဗြာဟ္မဏကျမ်းဂန်များကို နက်နက်နဲနဲလေ့လာခဲ့သည်ဟူ သော အချက်ဖြစ်၏။ ရဟန်းဖြစ်သောအခါ နာဂဇ္ဇုနသည် ဗုဒ္ဓ ဘာသာကျမ်းစာများကိုလည်း ငယ်စဉ်က နက်နဲမှုမျိုးဖြင့်ပင် လေ့လာခဲ့လေ သည်။ နောင်သောအခါ နာဂဇ္ဇုနသည် သိရီပဗ္ဗတ(=နာဂဇ္ဇုနီကောဏ္ဍာ၊ ဂုံတူရ်) ကို သူ၏အမြဲနေရာဌာနတစ်ခုအဖြစ် ပြုလုပ်ခဲ့လေသည်။ ၎င်းဌာနသည် ကျော်ကြားထင်ရှားခြင်း၊ ကာလညောင်းခြင်းနှင့်အမျှ ချဲ့ကားသွားသော ယုံ တမ်းစကားများကြောင့် သိဒ္ဓိပေါက်ဌာန (သိဒ္ဓဌာန) တစ်ခုဖြစ်သွားလေသည်။ နာဂဇ္ဇုနကို ဆေးကျမ်းနှင့် ဓာတုဗေဒကျမ်းဆရာဟုလည်း ပြောဆိုကြ၏။ သူ၏ "အဂ်ဋ္ဌဟဒယ"မည်သော ဆေးကျမ်းသည် ယခုထက်တိုင် တိဗက် ပြည်ဆေးဆရာများ၏ အခိုင်ခဲ့ဆုံးကျမ်းစာတစ်စောင်ဖြစ်နေ၏။ သို့သော် လည်း နောက်နောင်ဗုဒ္ဓဘာသာစာပေများတွင် ကျွန်ုပ်တို့တွေ့ရသော နာဂဇ္ဇုန၏ သိဒ္ဓိပေါက်ခြင်း၊ မန္တန်များကို စီရင်ခြင်း၊ တိုးပွားအောင်ပြု လုပ်ခြင်းအကြောင်းများသည် ကျွန်ုပ်တို့၏ အဘိဓမ္မာဆရာ နာဂဇ္ဇုနနှင့် တစ်စုံ တစ်ရာပတ်သက်ခြင်းမရှိပေ။

နာဂဇ္ဇုနသည် အန္ဓနိုင်ငံတော်ဘုရင် ဂေါတမီပုတ္တယညသိရီ (ခရစ်နှစ် ၁၆၆-၁၉၆) နှင့် ခေတ်ပြိုင်ဖြစ်သည်ဟူသော ဝင်တာနစ်၏အယူအဆသည်

ယုတ္တိ တန်ပြန်ရှိ၏။ (HISTORY OF INDIAN LITERATURE. VOL.II PP: 346-48)

နာဂဇ္ဇုနအမည်ဖြင့် ကျမ်းပေါင်းများစွာ ထင်ရှားရှိကြ၏။ သို့သော် ၎င်း၏ တကယ့်လက်ရာ(ကျမ်း)များကား

၁။ မဇ္ဈိမက ကာရိကာ

၂။ ယုတ္တိသဋ္ဌိကာ

၃။ ပမာဏဝိဒ္ဓံသန

၄။ ဥပါယာ ကောသလ္လ

၅။ ဝိဂ္ဂဟဗျာဝတ္တနီ

၎င်းကျမ်းများအနက် (၁)နှင့် (၅) ၂ စောင်ကိုသာ မူရင်းသက္ကတဘာသာနှင့်တွေ့ရှိရ၏။ [ ဝိဂ္ဂဟဗျာဝတ္တနီကို JOURNAL OF THE BIHER AND ORISSA RESEARCH SOCIETY PATNA, VOL XXIII ၌ ကျွန်ုပ် တည်းဖြတ်ထားသည် ]

နာဂဇ္ဇုနသည် ဝိဂ္ဂဟဗျာဝတ္တနီ၌ ဆန့်ကျင်ဘက်ဖြစ်သော တက္က (LOGIC)များကို ချေဖျက်၍ (အဘိဓမ္မဆရာကြီး)"ကန့်"၏ ဝတ္ထုနှစ်-ဝတ္ထုသာရ(THING IN ITSELF)နှင့် ပြောင်းပြန်ဖြစ်သော ဝတ္ထုသုညတာ ဝတ္ထုတို့၏ အတွင်း၌ နိစ္စဓာတ်တစ်ခုမျှမရှိ။ ဝတ္ထုဟူသည်မှာ ပြတ်တောက်သော အလျဉ်မျှသာဖြစ်၏ ဟူ၍ အခိုင်အမာဆုံးဖြတ်ခဲ့၏။

## (က) သုညသဘော

နာဂဇ္ဇုနကို ကာရိကာရေးနည်းစတင်တီထွင်သူဟု ခေါ်သမုတ်အပ်၏။ ကာရိကာ၌ ဂါထာကဲ့သို့ မှတ်လွယ်ခြင်း၊ သုတ်စဉ်ကဲ့သို့ကျယ်နေသော အကြောင်းအရာများကို အကျဉ်းချုံးသောစကားလုံးများဖြင့် ဆိုလွယ်ခြင်း သဘောရှိ၏။ နာဂဇ္ဇုန၏ ကာရိကာဖြင့်ရေးသားထားရှိသောကျမ်းမှာ အနည်းဆုံး ၃ ကျမ်းရှိ၏။ (၁-၂-၅)။ "ဝိဂ္ဂဟဗျာဝတ္တနီ' ၌ ကာရိကာ ၇၂ ခုပါ၏။ ၎င်းတို့အနက် နောက်ဆုံး ၂ ဂါထာမှာ ကျမ်း၏ အရေးကြီးပုံနှင့် နမက္ကာရဂါထာများဖြစ်၏။ ထို့ကြောင့် မူလကျမ်းရင်းတွင် ကာရိကာ ၇၀ သာရှိ၏။ ၎င်းကျမ်းသည် သုညသဘောနှင့်ပတ်သက်၍ ရေးသားထားသော

ကျမ်းဖြစ်၏။ ထို့ကြောင့် "ဝိဂ္ဂဟဗျာဝတ္တနီ"၏ ဒုတိယအမည် "သုညတာသတ္တတိ"ခေါ်တွင်ကြောင်း သိရ၏။ အဆိုပါ ကာရိကာများ၏ လွယ်ကူသောအဖွင့်ကို ကျမ်းဆရာကိုယ်တိုင် ရေးသားခဲ့၏။

နာဂဇ္ဇုနသည် နောက်နှောင်းအခါ ဗုဒ္ဓဘာသာဆိုင်ရာ ဟုတ်သည်ဖြစ်စေ၊ မဟုတ်သည်ဖြစ်စေ၊ ကျမ်းတကာ၏ အများသုံးထုံးစံတစ်ခုဖြစ်သော နမက္ကာရ(ဘုရားရှိခိုး)နှင့် ဂန္ထပ္ပယောဇန(ကျမ်းအကျိုး)များကို ကျမ်းဦးများ တွင် မထားခဲ့ပေ။

နာဂဇ္ဇုနသည် ၇၀ ခမြောက်သော ကာရိကာ၌ သုညသဘော၏ ကြီးကျယ်ပုံကို ဖော်ပြရေးသားထားခဲ့လေသည်။

"အကြင်သူ ဤသုညသဘောကို သိစွမ်း၏။
ထိုသူ ဘာဝမဆိုသိ၏။ အကြင်သူ သုညသဘောကို မသိ။
ထိုသူ ဘာကိုမှ မသိနိုင်"
[ပဘာဝတိ သုညာတာယံ ယဿ ပဘာဝန္တိ တဿ သဗ္ဗတ္ထာ၊
ပဘာဝတိ န တဿ ကိဥ္စ နဘာဝတိ သုညတာ ယဿ]

၎င်းကာရိကာအဖွင့်၌ ဆရာနာဂဇ္ဇုနကရေးသားဖွင့်ဆိုပုံမှာ အကြင်သူ သုည သဘောသိ၏။ ထိုသူ ပတိစ္စသမုပ္ပာဒ်ကို သိ၏။ ပတိစ္စသမုပ္ပာဒ်ကို သိသူ သည် သစ္စာလေးပါးကို သိ၏။ သစ္စာလေးပါးကိုသိလျှင် ထိုသူအား တဏှာချုပ်မှု(နိဗ္ဗာန်)အစရှိသော သဘောများကိုရနိုင်၏။ ပတိစ္စသမုပ္ပာဒ်ကိုသိသော ပုဂ္ဂိုလ်သည် အဘယ်တရားသည် ဓမ္မ၊ အဘယ်တရားကား ဓမ္မ၏ အကြောင်း၊ အဘယ်တရားကား ဓမ္မ၏အကျိုးဟုသိနိုင်၏။ ထိုသူသည် အဓမ္မ၊ အဓမ္မ ဟေတု၊ အဓမ္မဖလများကား အဘယ်နည်းဟု သိနိုင်၏။ အဆိုပါ ဓမ္မ၊ အဓမ္မ စသော အကြောင်းအလုံးစုံကိုသိသောသူသည် သုဂတိ–ဒုဂ္ဂတိ၊ သုဂတိ– ဒုဂ္ဂတိသို့လားခြင်း၊ သုဂတိ–ဒုဂ္ဂတိသို့လားကြောင်း၊ သုဂတိ–ဒုဂ္ဂတိမှ လွတ် မြောက်ကြောင်းများကို သိစွမ်းနိုင်၏။

နာဂဇ္ဇုန၏ သုညတာ(သုညသဘော)ဖြင့် ယူအပ်သောအနက်ကား ပတိစ္စသမုပ္ပာဒ်သဘောတည်း (ဝိဂ္ဂဟဗျာဝတ္တနီ ၂၂– "ယ္ဓဟဟိယော ပတိစ္စ ဘာဝနံဘာဝေါသာ သုညတာ၊ ကသ္မာ၊ နိဿဘာဝတ္တာ။ ယေဟိ ပတိစ္စ သမုပ္ပန္နာ ဘာဝါတေန သဿဘာဝါ ဘဝန္တိသဘာဝါ ဘာဝတော။ ကသ္မာ၊ ဟေတုပ္ပစ္စ

ယာပေက္ခတ္တာ၊ ယဒိ ဟိ သဘာဝတော ဘာဝါ ဘဝေယျုံ၊ ပစ္စက္ခာနေနာပိ ဟောတုပ္ပစ္စယံ ဘဝေယျုံ")

ကမ္ဘာကြီးနှင့် ၎င်းကမ္ဘာရှိ ရုပ်တရား၊ နာမ်တရား အလုံး (အတ္တ၊ ဒဗ္ဗ အစရှိသော) မည်သည့် ထာဝရနိစ္စဝတ္ထုမှမဆို လုံးဝဆိတ်သုဉ်း၏။ ဆိုလိုသည်ကား ကမ္ဘာကြီးသည် အဖြစ်အပျက်များသာဖြစ်၏။ ဝတ္ထုအစုအပေါင်း မဟုတ်။ နာဂဇ္ဇုနသည် သူ၏ကျမ်းပထမပိုင်း ကာရိကာ ၂၀ တွင် ပုဗ္ဗပက္ခ၏ စွဲချက်များကို ဖော်ပြ၏။ ထို့နောက် ကျမ်း၏နောက်ပိုင်းတွင် အဆိုပါ စွဲချက်များကိုအဖြေပေးလျက် သုညသဘောကို အခိုင်အမာရေးသားခဲ့၏။ အကျဉ်းအားဖြင့် နာဂဇ္ဇုန၏ တက္ကအစီအစဉ်သည် ဆိုလတ္တံ့သောအတိုင်း ဖြစ်၏။

### ပုဗ္ဗပက္ခ (ရှေ့ပိုင်း)

(က) ဝတ္ထုသာရမှ ငြင်းဆန်ခြင်း သို့မဟုတ် သုညဝါဒသည် မမှန်။ အကြောင်းသော်ကား (၁)အကြောင်းယုတ္တိအနေအားဖြင့် အသုံးပြုထားသော သဒ္ဒါများလည်း သုည–အသာရဖြစ်သွားပေလိမ့်မည်။ (၂) သုညမဟုတ် ဆိုလျှင်လည်း ပထမစကား "အရာဝတ္ထုအားလုံး သုညဖြစ်၏ " ဟူသောစကား မှားရပေလိမ့်မည်။ (၃) သုညသဘောကို အခိုင်အမာပြုပေးရန် အထောက် ပမာဏ တစ်ခုမှမရှိ။

(ခ) အားလုံးသောဘာဝများ (ဝတ္ထုများ)သည် တကယ်ရှိမှုများဖြစ်ကြ၏။ အကြောင်းသော်ကား (၁)အကောင်းအဆိုးကွဲပြားမှုကို အားလုံးကပင် ဝန်ခံ၏။ (၂) ဝတ္ထုမဟုတ်လျှင် ၎င်း၏အမည်ပင် မရှိနိုင်တော့ပေ။ (၃)ဝတ္ထုရှိမှုကို တားမြစ်ခြင်းသည် ယုတ္တိမရှိ။ (၄)တားမြစ်အပ်သောအရာကိုလည်း အခိုင်အမာ ပြုလုပ်မပေးနိုင်ပေ။

### ဥတ္တရပက္ခ(နောက်ပိုင်း)

(က) အရာဝတ္ထုအလုံး၏ သုညသဘော(ဝါ) ပတိစ္စသမုပ္ပါဒ်သဘောသည် အခိုင်အမာဖြစ်၏။ အကြောင်းသော်ကား (၁) ကမ္ဘာကြီး၏ ဝတ္ထုမဲ့သဘောကို လက်ခံခြင်းသည် သုညသဘောတရားနှင့် မဆန့်ကျင်။ (၂) ထို့ကြောင့် သုညသဘောကို လက်ခံခြင်းသည် ကျွန်ုပ်တို့နှင့် ပတိညာဉ်နှင့် မဆန့်ကျင်။ (၃)ဝတ္ထုပစ္စည်းများ၏ တကယ်ရှိသဘောကို အခိုင်အမာပြုလုပ်ပေး

သော အထောက်ပမာဏများကို အခိုင်အမာပြုလုပ်မပေးနိုင်ပေ။ (၃း၁)ပမာဏကို အခြားပမာဏတစ်ခုဖြင့် ပြုလုပ်မပေးနိုင်ပေ။ အကြောင်းသော်ကား ဤကဲ့သို့သော အခိုက်အတန့်တွင် အခိုင်အမာပြုပေးခြင်းခံရသော ၎င်းပမာဏသည် ပမာဏမဟုတ်တော့။ ပမေယဖြစ်သွားလိမ့်မည်။ (၃း၂) ပမာဏသည် မီးကဲ့သို့ မိမိကိုယ်ကို မိမိ အခိုင်အမာပြုပေးနိုင်၏။ (၃း၃) ပမာဏသည် ပမေယဖြင့် အခိုင်အမာပြုပေး၍ရနိုင်သောအရာမဟုတ်။ အကြောင်းသော်ကား ပမေယကိုယ်တိုင်က သိဒ္ဓိမဟုတ် သာချသာ ဖြစ်၏။ (၃း၄)ပမာဏသည် သံယောဂ (=တိုက်ဆိုင်မိခြင်း)ဖြင့် အခိုင်အမာပြုလုပ် ပေးနိုင်သောအရာမဟုတ်။ အကြောင်းသော်ကား တိုက်ဆိုင်ခြင်းသည် တစ်စုံတစ်ခုသော ပမာဏမဟုတ်ချေ။

(ခ) ဘာဝ ဝတ္ထုတို့၏ သုညသဘောသည် မှန်၏။

အကြောင်းသော်ကား

၁း သုညသဘောသည် အကောင်းအဆိုး ကွဲပြားမှုနှင့် မဆန့်ကျင်။ ထိုကဲ့ သို့သော ကွဲပြားမှုသည် ပတိစ္စသမုပ္ပာဒ်ကြောင့်သာဖြစ်၏။

အကယ်၍ ပတိစ္စသမုပ္ပာဒ်ကို အမှီသဟဲမပြုဘဲ ပရမတ္ထသဘောအားဖြင့် အကောင်းအဆိုးကွဲပြားခဲ့ပါလျှင် အကောင်းအဆိုးကွဲပြားမှုသည် မရွှေ့လျား တစ်သဘောတည်းဖြစ်ပေလိမ့်မည်။ သို့ဖြစ်လျှင် ဗြဟ္မစရိယ အစရှိသော ကြိုးပမ်းမှုဖြင့် အလိုဆန္ဒအားလျော်စွာ ထိုကွဲပြားမှုကို ပြောင်းလဲသွားအောင် မပြုနိုင်ပေရာ

၂း သုညသဘောဖြစ်ခဲ့လျှင် အမည်မရှိနိုင်ဟူသော အမှတ်အသားလည်း မှား၏။ အကြောင်းသော်ကား အမည်ကို ကျွန်ုပ်တို့သည် တကယ်ရှိဟု မမှတ်ယူကြဘဲ တကယ်မရှိသောအရာဟုသာ မှတ်ယူကြကုန်၏။ ဘာဝ (ထာဝရ မပြောင်းလဲသော ဝတ္ထုသာရ)မှာသာ အမည်ရှိရမည်။ အဘာဝ ဝတ္ထုမှာ အမည်မရှိရဟူ၍လည်း တစ်စုံတစ်ရာစည်းကမ်းချက်မရှိ။

၃း ပဘိ သေဓကို အခိုင်အမာပြုမပေးနိုင်ဟူသော စကားလည်း မှား၏။ အကြောင်းသော်ကား ပတိသေဓ မဟုတ်သော အရာကို အခိုင်အမာပြုပေးရန် ပမာဏ စသည် လိုအပ်ရာကျပေလိမ့်မည်။

အက္ခပါဒ၏ နျာယ သုတ္တကို ဖွင့်သော ပျမာဏသိဒ္ဓိပကရဏနှင့် ဝိဂ္ဂ

ဟဗျာ၀တ္တနိကျမ်း ၂ကျမ်းသည် တစ်ခုတည်းသော အကြောင်းအရာ၏ ဟို ဘက်သည်ဘက်တွင် တည်ရှိနေကြ၏။ အက္ခပါဒသည် သူ၏ န္ယာယ သုတ္တ၌ နာဂဇ္ဇုန၏ အဆိုပါ အယူအဆကို ချေဖျက်ခဲ့ကြောင်း တစ်နေရာတွင် ကျွန်ုပ် တို့ဆိုခဲ့ပြီးလေပြီ။ (အက္ခပါဒသည် နာဂဇ္ဇုန၏ ဤအယူကို ပယ်ဖျက်ခဲ့ ကြောင်း ဝိဂ္ဂဟဗျာ၀တ္တနီ၏ ဘူမိကာ (PREFACE)တွင် ကျွန်ုပ်တို့ ဆိုခဲ့ပြီး လေပြီ)

ကျမ်းကို နိဂုံးချုပ်လျက် နာဂဇ္ဇုနက ဆိုခဲ့လေသည်။

"သုညသဘော ပတိစ္စသမုပ္ပာဒ်နှင့် အနက်အဓိပ္ပာယ်များစွာ ပါဝင်သော မဇ္ဈိမာပတိပဒ်(အလယ်လမ်း)ကို ဟောတော်မူခဲ့သော အတုမဲ့ဗုဒ္ဓအား ရှိခိုးပါ ၏" (ဝိဂ္ဂဟဗျာ၀တ္တနီ ၇၂)

"ယောသုညတံ ပတိစ္စသမုပ္ပာဒံ
မဇ္ဈိမံပတိပဒမနေကတ္ထံ၊
နိဇာဂါဒ ပဏာမာမိ
တမပတိသမံ ဗုဒ္ဓံ"

(၃း၁) ပမာဏဝိဒ္ဓံသနကျမ်း၌ နာဂဇ္ဇုနသည် ပမာဏဝါဒကို ပယ်ဖျက်ခဲ့ ၏။ နာဂဇ္ဇုနသည် ပမာဏဝါဒကို ပယ်ဖျက်သော်လည်း ပရမတ္ထသဘော ထားဖြင့်သာ ပမာဏကို ပယ်ဖျက်ခဲ့၏။ ဝေါဟာရသစ္စာအနေအားဖြင့် ပမာဏကို နာဂဇ္ဇုက မငြင်းဆန်ပေ။

သို့သော် နာဂဇ္ဇုနသည် သူ၏ကျမ်းများ၌ ပမာဏကဲ့သို့ အားကောင်း သော အရာကိုပါ ပယ်ဖျက်ခဲ့ခြင်းအတွက် သက်ရောက်သောအကျိုးကား မဇ္ဈမိကအဘိဓမ္မာသည် ဝေါဟာရသစ္စာကို လက်ခံ၍ ဝတ္ထု၏တည်ရှိခြင်းကို အားပေးသောအဘိဓမ္မာဖြစ်ရမည့်အစား အလုံးစုံကိုချေမှုန်းဖျက်ဆီးပစ်သော 'နတ္ထိဝါဒ ဖြစ်သွားခဲ့ရလေသည်။ (သဗ္ဗဒဿနသင်္ဂဟ၊ ဗောဒ္ဓဒဿန)ပမာဏ ဝိဒ္ဓံသနကျမ်း၌ အက္ခပါဒကဲ့သို့ ပမာဏ၊ ပမေယအစရှိသော ၁၈ ပါးသော အရာများကို အကျဉ်းချုပ်ရေးသားဖွင့်ဆိုထား၏။ ထို့အတူ ဥပါယကော သလ္လကျမ်း၌လည်း စကားစစ်ထိုးခြင်းဆိုင်ရာအကြောင်းများ (နိဂ္ဂဟဋ္ဌာန၊ ဇာတိစသည်)နှင့် ပတ်သက်ရာတွင် ရေးသားခဲ့၏။ ၎င်းတို့ကို အက္ခပါဒ သုတ်များတွင်လည်း ကျွန်ုပ်တို့တွေ့ကြရ၏။ ခရစ် ၄၇၂ ခုနှစ်တွင်ဥပါယ

ကောသလ္လကို တရုတ်ဘာသာသို့ ပြန်ဆိုခဲ့၏။ (NANJIO 1257)ဤကဲ့သို့ ကျမ်းလာစကားချင်း ရှုပ်ထွေးမှုနှင့်ပတ်သက်၍ "နောက်လိုက်များအနက် တစ်ဦးတစ်ယောက်က အခြားဆရာရေးကျမ်းမှယူ၍ မိမိဆရာ၏ကျမ်းတွင် ဆက်ထားခြင်းဖြစ်သည်"ဟူ၍သာ ပြောနိုင်ပေသည်။

## (ခ) မဇ္ဈိမိကကာရိကာကျမ်းအယူအဆ

အဘိဓမ္မာအမြင်ဖြင့် ကြည့်လျှင် နာဂဇ္ဇုန၏လက်ရာများတွင် 'ဝိဂ္ဂဟဗျာဝတ္တနီ'နှင့် 'မဇ္ဈိမိက ကာရိကာ'ကျမ်းနှစ်စောင်သာ အဆင့်အတန်းမြင့်လေသည်။ နာဂဇ္ဇုန၏ သုညသဘောဖြင့် ယူအပ်သောအဓိပ္ပာယ်ကား ပတိစ္စသမုပ္ပာဒ်ဖြစ်၏။ ထိုအချက်ကို ဝိဂ္ဂဟဗျာဝတ္တနီကျမ်း၌ ကျွန်ုပ်တို့ တွေ့ရ၏။ နာဂဇ္ဇုနသည် ပတိစ္စသမုပ္ပာဒ်၏ အနက် ၂ မျိုးကို ယူဆထား၏။ (၁) ပစ္စယ (အကြောင်း-ဟေတု၊ သို့မဟုတ် ကာရဏ)ကြောင့် ဖြစ်ခြင်း၊ 'အရာဝတ္ထုအားလုံး ပတိစ္စသမုပ္ပန္နဖြစ်၏' ဟူသော စကား၏အနက်အဓိပ္ပာယ်ကား အရာဝတ္ထုအားလုံး မိမိတို့၏ဖြစ်မှု၌ မိမိသဘောကိုရစေရန် အခြားပစ္စယကြောင်း သို့မဟုတ် ဟေတုကြောင်းကို မှီရ၏။ (=တစ်ပါးကို မှီရ၏) (၂)ပတိစ္စသမုပ္ပာဒ်၏ ဒုတိယအနက်ကား ခဏိကသဘောတည်း။ အရာဝတ္ထုအားလုံး ခဏခန့်ဖြစ်ပြီးနောက် ပျက်စီးသွား၏။ ဖြစ်ပျက် နောက်အခြားအရာဝတ္ထုအသစ် သို့မဟုတ် အဖြစ်အပျက်အသစ်သည် ခဏခန့်အတွက် ရောက်လာပြန်၏။ ဆိုလိုသည်ကား ဖြစ်ပုံသည် ပြတ်တောက်သော အလျဉ်ကဲ့သို့ပင်တည်း။ ပတိစ္စသမုပ္ပာဒ်ကိုပင် အလယ်လမ်းကြောင်းဖြစ်ကြောင်း ဆိုခဲ့ပြီးလေပြီ။ ဗုဒ္ဓသည် အတ္တဝါဒီလည်းမဟုတ်၊ ရုပ်ဝါဒီလည်းမဟုတ်၊ စင်စစ်သော်ကား ဗုဒ္ဓ၏ လမ်းစဉ်သည် ထိုဝါဒ ၂ မျိုးတို့၏ အလယ်၌ ဖြစ်၏။ ဗုဒ္ဓသည် 'ပြတ်တောက်သောအလျဉ်'ကို လက်ခံကြောင်းကိုလည်း ဆိုခဲ့ပြီးလေပြီ။

အတ္တဝါဒီတို့၏ မပြတ်ထင်ရှားရှိနေမှုကို ဆန့်ကျင်၍ ဗုဒ္ဓက "ပြတ်တောက်သော(ဝိစ္ဆိန္န)" သို့မဟုတ် "ပတိစ္စ"ကို သုံးစွဲတော်မူ၏။ ရုပ်ဝါဒီတို့၏ အချင်းခပ်သိမ်းပြတ်သွားခြင်း(ဥစ္ဆေဒ)ကို ဆန့်ကျင်၍ "အလျဉ်" (သမုပ္ပာဒ်) ကို သုံးစွဲတော်မူ၏။

တစ်ပါးသော အကြောင်းကိုမှီ၍ ဖြစ်ခြင်းဟူသော အဓိပ္ပာယ်ကိုယူ၍ ဖြစ်ပျက်ရှိသော တရား၏ပရမတ်သဘောမဟုတ်ကြောင်း နာဂဇ္ဇုနက အခိုင်အမာဆိုခဲ့လေသည်။

မဇ္ဈိမက အဘိဓမ္မာသည် ဝတ္ထု၏ဘောဂဏ်ကို ပရမတ်သဘောအဖြစ် စဉ်းစား၍ ဆိုခဲ့လေသည်။

" ဘာဝလည်းမဟုတ်၊ အဘာဝလည်းမဟုတ်၊ ဘာဝ–အဘာဝ ၂ မျိုးလည်းမဟုတ်၊ ဘာဝ–အဘာဝ ၂ မျိုးမဟုတ်လည်း မဟုတ်"

"ကာရက(ပြုသူ)ဟူသည်ကို ကမ္မ(ပြုခြင်း)ကိုအကြောင်းပြု၍သာဆိုနိုင်၏။ ၎င်းနှစ်မျိုးကို လွတ်၍ အခြားသော(ဘောဂဏ်၏) အခိုင်အမာဖြစ်ကြောင်းကို ငါတို့မတွေ့နိုင်(မဇ္ဈိမက–ကာရိကာ ၆၂) ဤသို့အားဖြင့် ကာရကနှင့် ကမ္မ၏ တကယ်ရှိမှုသည် အချင်းချင်းမှီနေ၏။ သီးခြားကင်းလွတ်စွာ ၂ ခုအနက် တစ်ခုစီ၏ အရှိသဘောသည် အခိုင်အမာမဖြစ်နိုင်ပေ။ တစ်ဖန်ကိုယ်တိုင်အခိုင်အမာမဖြစ်သော အရာဝတ္ထုသည် အခြားအရာဝတ္ထုတစ်ခုကို အဘယ်မှာ အခိုင်အမာပြုပေးနိုင်အံ့နည်း။ ဤသို့သောအကြောင်းယုတ္တိကို ဆောင်ယူ၍ အဘယ်အရာဝတ္ထုတစ်ခုခု၏ ဘောဂဏ်ကိုမှ အခိုင်အမာပြုလုပ်မပေးနိုင်။ ဘာသဘော၊အဘာဝသဘောလည်း ကာရကနှင့် ကမ္မကဲ့သို့ တစ်ခုသည် တစ်ခုအား မှီတင်းနေ၏။ ထို့ကြောင့် ၎င်းသဘော ၂ရပ်သည် သီးခြားသာဆိုလျှင် ၂ မျိုးစလုံးကိုပင် အခိုင်အမာပြုလုပ်မပေးနိုင်ပေဟု နာဂဇ္ဇုနက ဆိုခဲ့လေသည်။

ကတ္တားနှင့်ကံကို တားမြစ်၍ နာဂဇ္ဇုနက ဆိုပြန်၏။

"ဘာဝ သဘောရှိသော ကာရကသည် ဘာဝသဘောရှိသော ကမ္မကို မပြုလုပ်ပေ။(အကြောင်းသော်ကား) ဘာဝသဘောအဖြစ်ဖြင့် ကြိယာမရှိနိုင်ပေ။ ထို့ကြောင့် ကံတွင် ကတ္တားကို မလိုအပ်ပေ။

ဘာဝသဘောအတွက် ကြိယာမရှိပေ။ ထို့ကြောင့် ကတ္တားတွင် ကံမလိုပေ။ *(၎င်း ၅၈–၅၉)*

ဤသို့အားဖြင့် အချင်းချင်းမှီတင်းနေသော ဘောဂဏ်ရှိသည့် အရာဝတ္ထုများတွင် ကတ္တား၊ ကံ၊ ကာရဏ၊ ကြိယာများကို အခိုင်အမာပြုလုပ်မပေးနိုင်ပေ။

"သဘာဝအားဖြင့်သော်လည်းကောင်း၊ ပရဘာသအားဖြင့်သော်လည်းကောင်း၊ သဘာဝ–ပရဘာဝ ၂ မျိုးအားဖြင့်သော်လည်းကောင်း၊ အကြောင်းကင်းလျက်သော်လည်းကောင်း အဘယ်မှာမှ ဘောဂဏ်တစ်စုံတစ်ခုမရှိပေ (၄င်း– ၄)

ကျိုးကြောင်းဆက်သဘောကို ပယ်ဖျက်၍ နာဂဇ္ဇုနက ရေးသားခဲ့၏။

"အရာဝတ္ထုသည် ဘာဝသဘောရှိငြားအံ့၊ ထိုသို့ဘာဝသဘောရှိနေသည့်အတွက် အကြောင်းမလိုအပ်တော့ပေ။ အကယ်၍ အဘာဝသဘောရှိနေခဲ့လျှင် အဘာဝသဘောအတွက် အကြောင်းမလိုအပ်တော့ပေ"

(မြဦးချိုကဲ့သို့သော အဘာဝအရာဝတ္ထုအတွက် အကြောင်းဘယ်မှာ လိုအပ်ပါမည်နည်း) (၄င်း– ၂၂)

ဖြစ်တည်နှင့်ပျက် (ဉပါဒ် ဌီနှင့် ဘင်)ကို အခိုင်အမာပြုပေးရန် ကျိုးကြောင်းဘာဝ–အဘာဝသဘောအစရှိသည်ကို စိစစ်နေရခြင်းဖြင့် နောက်ဆုံးတွင်ဖြစ်တည်နှင့် ပျက်တို့သည် အချင်းချင်း မှီတင်းနေကြကြောင်းကိုသာ ကျွန်ုပ်တို့သိကြရ၏။ ဤကဲ့သို့သော အခြေအနေတွင် ၎င်းသဘောတရားများကို အခိုင်အမာပြုမပေးနိုင်တော့ပေ။

ဗုဒ္ဓအဘိဓမ္မာ၌ အရာဝတ္ထုများကို သင်္ခတ(=ကတ)နှင့် အသင်္ခတ (=အကတ)အားဖြင့် ၂ မျိုးပိုင်းခြား၍ အရာဝတ္ထုအားလုံးကို သင်္ခတ၊ နိဗ္ဗာန်ကို အသင်္ခတဟု ဆိုခဲ့၏။ နာဂဇ္ဇုနက ဤသင်္ခတ၊ အသင်္ခတအစွဲကို ပုတ်ခတ်လျက်ဆိုခဲ့လေသည်။

"ဉပါဒ်၊ ဌီ၊ ဘင်တို့အခိုင်အမာဖြစ်လျှင် သင်္ခတသည် အခိုင်အမာမဖြစ်တော့ပေ။ သင်္ခတအခိုင်အမာမဖြစ်ဘဲ အသင်္ခတသည် အဘယ်မှာ အခိုင်အမာဖြစ်ပါတော့အံ့နည်း" (၄င်း– ၅၆)

ကမ္ဘာကြီးနှင့် ၎င်းကမ္ဘာရှိ အရာဝတ္ထုများကို သဲ တံလျှပ်ဟုဆိုလျက် နာဂဇ္ဇုနက ရေးသားခဲ့၏။ (၄င်း– ၅၆)

"(သဲကန္တာရ၏)လှိုင်းများကို ရေထင်သော်လည်း ထိုသဲကန္တာရတွင်းသို့ ရောက်သွားမှ ယောကျ်ားသည် 'ဤသဲများကား ရေမဟုတ်'ဟုသိသော် ထိုသူလူအ၊ လူမိုက်သာတည်း။ ထို့အတူ တံလျှပ်နှင့်တူသော (ဤ)လောကကို "အရှိ"သဘောနားလည်ထားသော ပုဂ္ဂိုလ်၏ "မရှိ"ဟူသော နားအလည်များ

မှုသည်လည်း မိုက်မဲသောသဘောမှမလွတ်ပေ”

အခြားတစ်ပါးကို မှီနေသောဖြစ်ခြင်း(ပတိစ္စသမုပ္ပာဒ်)ဖြစ်သဖြင့် အဘယ် အရာဝတ္ထုကိုမှ သိဒ္ဓ၊ အသိဒ္ဓ၊ သိဒ္ဓါသိဒ္ဓ၊ နေဝသိဒ္ဓ-နာသိဒ္ဓဟု မဆိုနိုင်တော့ သကဲ့သို့ ပတိစ္စသမုပ္ပာဒ်၏ အနက်ကို ပြတ်တောက်သောအလျဉ်သဘောဖြင့် ဖြစ်ခြင်းဟု ယူဆလျှင် ကမ္ဘာ၌ အကျိုးအကြောင်း ကံ ကတ္တား အစရှိသော အစီအစဉ်မရှိနိုင်ပေ။ အကြောင်းသော်ကား ၎င်းအရာဝတ္ထုအနက်တစ်ခုသော အရာဝတ္ထုသည် အခြားအရာဝတ္ထုလုံးဝချုပ်ပြတ်သွားမှ အရှိသဘောသက် ရောက်လာသောကြောင့်တည်း။

## (ဂ) အဆုံးအမများ (သိက္ခာများ)

အန္ဓအနွယ်ဘုရင်များ၏ဘွဲ့တော်မှာ သာတဝါဟန(သာလိဝါဟနလည်း ရှိ၏) ဖြစ်၏။ ထိုစဉ်က သာတဝါဟနဘုရင် (ယညသိရီဂေါတမီပုတ္တ) သည် နာဂဇ္ဇုန၏ မိတ်ဆွေဖြစ်၏။

၎င်းမိတ်ဆွေသည် သာမန်ဘုရင်မဟုတ်။ ကြီးကျယ်သော ဘုရင်တစ် ပါးဖြစ်၏။ ထိုအကြောင်းကို နာဂဇ္ဇုနနောက် အနှစ် ၄၀၀ ကြာသောအခါ ဝါဏမည်သော စာရေးဆရာကြီးရေးသားအပ်သော “ဟဿစရိတ”ကျမ်းလာ ဤဝါကျဖြင့် သိရ၏။

“နာဂဇ္ဇုန မည်သော ရဟန်းသည် လည်ဆွဲကို နဂါးမင်းထံမှတောင်း ၏။ ရလည်းရ၏။ (ထို့နောက်) ထိုလည်ဆွဲကို (သူ၏) မိတ်ဆွေတော်သူ သမုဒ္ဒရာသုံးစင်းကိုပိုင်သတော်မူသော သာတဝါဟနဘုရင်အား ပေးသနား တော်မူ၏” (“တမေကာဝလိ . . .တသ္မာ နာဂရာဇတော နာဂဇ္ဇုနောနာမ ... ဘိက္ခုအဘိက္ခိ၊ လဘီစ၊ . . .တိသမုဒ္ဒါဓိပတိနော သာတဝါဟနနာမဿ နရိန္ဒဿ သုဟဒဿ သော အဒါသိ တံ” (ဟဿစရိတ-၇)

အဆိုပါဝါကျ၌ သာတဝါဟနကို သမုဒ္ဒရာသုံးစင်း(အာရပ်ပင်လယ်၊ အိန္ဒိယတောင်ပိုင်းပင်လယ်၊ ဘင်္ဂလားအော်၏အရှင်၊ ထို့ပြင် နာဂဇ္ဇုန၏ မိတ်ဆွေဟု ရေးဆိုထားခဲ့၏။ နာဂဇ္ဇုနကဲ့သို့ ထက်မြက်ကျော်ကြားသော ပညာ ရှင်တစ်ပါးသည် ၎င်း၏ နိုင်ငံတော်တွင် မွေးဖွား၍ နေထိုင်ခဲ့လျှင် ၎င်းဘုရင်က ထိုပညာရှင်အား အဘယ်မှာ ချစ်ကြည်ရင်းနှီးမှုကိုမပြဘဲ နေပေအံ့ နည်း။

နာဂဇ္ဇုနသည် သူ၏မိတ်ဆွေ သာတဝါဟန ဘုရင်အား အဆုံးအမ များပါသော "မေတ္တာစာ" တစ်စောင်ရေးပေးခဲ့၏။ ၎င်းမေတ္တာစာ၏ တိဗက်နှင့် တရုတ်ဘာသာပြန် နှစ်မျိုးကို ယခုတိုင် ကောင်းမွန်စွာ သိမ်း ဆည်းထားအပ်၏။ ထိုမေတ္တာစာ၌ နာဂဇ္ဇုနက သူ၏မိတ်ဆွေအား ပေးခဲ့ သော အဆုံးအမများအနက် အချို့ကား ဤဆိုလတ္တံ့သော အတိုင်းဖြစ်၏။

**မေတ္တာစာကောက်နုတ်ချက်**

စည်းစိမ်ဥစ္စာကို ရွေ့လျားပြောင်းလဲ၍၊ အနှစ်သာရမရှိဟု နားလည် ၍ ရဟန်းများ၊ ဗြာဟ္မာများ၊ သူဆင်းရဲများနှင့် မိတ်ဆွေများအား ပေးပါလေ။ ဒါနထက် ကြီးကျယ်သော မိတ်ဆွေတစ်ပါး တခြားမရှိပေ။ (၆)

အပြစ်မဲ့၊ မြင့်မြတ်၊ မရောမယှက်၊ အစွန်းအကွက်မရှိသော သီလ (သူတော်ကျင့်)ကို (အလုပ်သဘောအားဖြင့်)ပေါ်လာအောင် ပြုကျင့်ပါ။ တန်ခိုး၊ ဩဇာအားလုံး၏ တည်ရာကား သီလဖြစ်၏။ ဥပမာ ထာဝရ၊ ဇင်္ဂမ၊ ဝတ္ထုအားလုံး၏ တည်ရာမြေဖြစ်ရသကဲ့သို့တည်း။ (၇)

သူတစ်ပါးမယားကို မျက်မွေးထော်လော် မော်မကြည့်နှင့်။ အကယ် ၍ မြင်ရလျှင် အသက်အရွယ်အလိုက် အမိ၊ နှမ သို့မဟုတ် သမီးကဲ့သို့ နှလုံးသွင်းပါ။ (၂၁)

သင်သည် လောကကို သိအောင်လုပ်ပါ။ လောကဓမ်တရား (၈)ပါး၊ လာဘ၊ အလာဘ၊ သုခ၊ ဒုက္ခ၊ ယသ၊ အယသ၊ နိန္ဒာ- ပသံသာ၌ အမျှသဘောထားပါ။ အကြောင်းသော်ကား လောကသည် သင်၏ကြံတိုင်း မအောင် ဆောင်တိုင်း မမြောက်နိုင်သောအရာဖြစ်၏။ (၂၉)

နှမကဲ့သို့ စကားချိုသာသော၊ အဆွေခင်ပွန်းကဲ့သို့ အောင်မြင် ကြောင်းကို ညွှန်ကြားသော၊ အမိကဲ့သို့ အကျိုးစီးပွားကို လိုလားတောင့်တ သော၊ အစေခံကဲ့သို့ အမိန့်အတိုင်း ပြုလုပ်သော မိန်းမတစ်ဦး(မိမိ၏ မယားမိဖုရား)ကို အိမ်ထောင်ထိန်းနတ်သမီးကဲ့သို့ မြတ်နိုးတနာပြုပါ။ (၃၇)

"ငါသည် ရုပ်ဘရားမဟုတ်" ဟု သင်လက်ခံယုံကြည်လျှင် ရုပ် သည် အတ္တမဟုတ်။ အတ္တသည် ရုပ်တွင်မရှိ၊ ရုပ်သည် အတ္တ၌မနေဟု သိ သွားလိမ့်မည်။ အလားတူပင် အခြားသော (ဝေဒနာစသည့်) ခန္ဓာ ၄ပါးနှင့်

ပတ်သက်၍လည်း သိလိမ့်မည်။ (၄၉)

ခန္ဓာငါးပါးတို့သည် ဣဿရ၊ ကာလ၊ ပကတိ၊ သဘာဝ၊ ဣဿရ (ထာဝရဘုရား)ကြောင့်လည်း ဖြစ်ကြသည်မဟုတ်။ အကြောင်းကင်း၍လည်း မဖြစ်ကြ။ အဝိဇ္ဇာနှင့် တဏှာကြောင့် ဖြစ်ကြသည်ဟု သိပါလေ။ (၅၀)

ဘာသာရေးဆိုင်ရာ အလေ့အကျင့်များ (–သီလဗ္ဗတပရာမာသ) မိစ္ဆာဒိဋ္ဌိ(သက္ကာယဒိဋ္ဌိ)နှင့် သံသယ(ဝိစိကိစ္ဆာ)တွင် စွဲငြိမှုသည် နှောင်ကွင်း နှောင်ကြိုး(သံယောဇဉ်) ၃ မျိုးဖြစ်၏။ (၅၁)

*(ဒီဃနိကာယ ၃၊ ၁၀၊ သံဂီတိ ပရိယာယ သုတ်)*

နာဂဇ္ဇုန၏ အဘိဓမ္မာ သုညဝါဒသည် ဝတ္ထုရှိဝါဒကို မိစ္ဆာဝါဒဖြစ် အောင် ပြုလုပ်၏။ ကမ္ဘာကို သုညဟု အမှတ်အသားပြု၍ လောကပြဿနာ များ၏ အရှိသဘောကို ငြင်းဆန်ရာ ဤသုညဝါဒထက်သာသော အဘိဓမ္မာ ကို အဘယ်မှာ ရနိုင်ပါအံ့နည်း။ ထို့ကြောင့် အကယ်၍ ဤကဲ့သို့သော အဘိဓမ္မာဆရာကြီးသည် ဧကရာဇ် ယညသီရိဂေါတမိပုတ္တ၏ ရင်းနှီးသော မိတ်ဆွေဖြစ်သည်ဆိုလျှင် အံ့သြစရာမရှိပါပေ။

*

## ၃။ယောဂါစာရနှင့် အခြားအဘိဓမ္မာများ

မဓျမိကနှင့် ယောဂါစာရသည် မဟာယနနှင့် ဆက်သွယ်သော အဘိဓမ္မာများဖြစ်ကြ၏။ သဗ္ဗတ္ထိဝါဒနှင့် သုတ္တန္တိကအဘိဓမ္မာများကား ဟီနယာန(ထေရဝါဒ)နှင့် ဆက်သွယ်၏။ အဆိုပါ ဗုဒ္ဓအဘိဓမ္မာ ၄ မျိုးကို အကယ်၍ ကောင်းကင်မှ မြေပြင်သို့ဆွဲချလိုက်လျှင် အောက်ပါအတိုင်း သိရပေ၏။

**ဝါဒများ**

(၁) သုညဝါဒ

(၂) ဝိညာဉ်တော်ဝါဒ

(၃) ဗာဟျ အတ္တဝါဒ

(၄) ဗာဟျ-အဗ္ဘန္တရ-အတ္တဝါဒ

**အမည်များ**

(၁) မဓျမိက

(၂) ယောဂါစာရ

(၃) သုတ္တန္တိက

(၄) သဗ္ဗတ္ထိဝါဒ

**ဆရာများ**

(၁) နာဂဇ္ဇုန၊ အရိယဒေဝ၊ စန္ဒကိတ္တိ၊ ဘာဗျ၊ ဗုဒ္ဓပါလိတ

(၂) အသင်္ဂ၊ ဝသုဗန္ဓု၊ ဒိန္နာဂ၊ ဓမ္မကိတ္တိ၊ သန္တရက္ခိတ
(၃) သံဃဘဒ္ဒ၊ ဝသုဗန္ဓု၏ (အဘိဓမ္မကောသ)

ယောဂါစာရ အဘိဓမ္မာ၏ မူလဗီဇကို ဝေပုလ္လသုတ်များတွင် တွေ့ရသည်။ ၎င်းအဘိဓမ္မာနှင့်စပ်လျဉ်းသော လံကာဝတာရ၊ သန္ဓိ-နိမ္မောစန အစရှိသော သုတ်များသည် အပြင်(ဗာဟျ)လောက၏ အရှိသဘောကို ငြင်းဆန်၍ (ရုပ်မပါသောသဘော၊ မန)ကို တစ်ခုတည်းသော ဝတ္ထုဟုလက်ခံယူကြ၏။ "အကြင်တရားသည် ခဏိကမဟုတ်၊ ထိုတရားသည် သဘာဝသဘော တရား ဟုတ်ကိုမဟုတ်"

ဤသုတ်၏ခြွင်းချက်သည် ဗုဒ္ဓအဘိဓမ္မာ၌ ရှိကိုမရှိနိုင်။ ထို့ကြောင့် ယောဂါစာရဂိုဏ်း၏ ဝိညာဉ်သည်လည်း ခဏိကသာဖြစ်၏။ အခြားသော အယူအဆပေါင်းများစွာကဲ့သို့ပင် ယောဂါစာရအယူအဆကို ပထမ စတင်တီထွင်သော ပုဂ္ဂိုလ်နှင့်ပတ်သက်၍ ကျွန်ုပ်တို့တစ်စုံတစ်ရာမသိရပေ။ ခရစ်နှစ် ၄ ရာစုတိုင်အောင် ယောဂါစာရအဘိဓမ္မာသည် မထင်မရှားဆင်းသက်လာခဲ့လေသည်။ သို့သော် ၄ ရာစုနောက်ပိုင်း၌ အသင်္ဂနှင့် ဝသုဗန္ဓုမည်သော အဘိဓမ္မာဆရာ၊ ညီနောင် ၂ ဦး ပေသျှာဝရ်တွင် ဖွားမြင်ခဲ့၏။ ၎င်းတို့၏ ကြီးမားသောကျမ်းများကြောင့် ဤယောဂါစာရအဘိဓမ္မာသည် အလွန်အားကောင်း၍ ထင်ရှားခဲ့လေသည်။

ယောဂါစာရသည် ယောဂါဝစရ(=ယောဂီ)သဒ္ဒါမှလာ၏။ ၎င်းယောဂါဝစရသဒ္ဒါကို ရှေးဟောင်းပိဋကများတွင် တွေ့ရ၏။ သို့သော် ဤနေရာ၌ကား ၎င်းသဒ္ဒါကို အဘိဓမ္မာဆိုင်ရာဂိုဏ်း၏အမည်အနေအားဖြင့် အသုံးပြုထား၏။ ဤအမည်တွင်ရခြင်း၏အကြောင်းကား ယောဂါစာရအဘိဓမ္မာကို စီစဉ်သူ အရိယအသင်္ဂ၏ မူလကျမ်းကြီးသည် "ယောဂါစာရဘူမိ"ဖြစ်၏။ အသင်္ဂထေရ်နှင့်ပတ်သက်၍ ကျွန်ုပ်တို့ရှေ့တွင် ဆိုလတ္တံ့။ ဤနေရာ၌ ဝိညာဏဝါဒကို နာဂဇ္ဈုနနှင့် ၎င်းအရင်ကျပုံရသည်ဟု အသိအမှတ်ပြု၏။ ၎င်းဝါဒတွင် ဂန္ဓာရသို့ ရောက်ရှိနေကြသော ဂရိက်လူမျိုးများမှတစ်ဆင့် ပလေတို အဘိဓမ္မာ၏ အရှိန်အဝါ မုချလွှမ်းမိုးခဲ့၏။ ထိုအကြောင်းကို အနည်းငယ်ဆိုခဲ့မည်။

"အာလယဝိညာဉ်(သမုဒ္ဒရာ)မှ ပဝတ္တိဝိညာဉ်လှိုင်းတံပိုးများ ထလာကြ၏"
(လင်္ကာဝတာရ သုတ္တ ၅၁)

ကမ္ဘာ၏မူလဓာတ်ကို ဤအဘိဓမ္မာ၏အခေါ်(ပရိဘာသာ)အားဖြင့် "အာလယဝိညာဉ်"ဟုခေါ်၏။ ဝိညာဉ်သမုဒ္ဒရာမှ ဣန္ဒြေ ၅ပါးနှင့် မနဆိုင်ရာ ဝိညာဉ် ၆ပါးဖြစ်ပွားလာကြ၏။ ၎င်းတို့ကို ပဝတ္တိဝိညာဉ်ဟု ခေါ်၏။
(၎င်း)

"လေတည်းဟူသော အကြောင်း တိုက်ခိုက်ခြင်းကြောင့် သမုဒ္ဒရာမှ တလိမ့်လိမ့် လှိုင်းတံပိုးများ ထကြွလာ၍ ၎င်းတို့အလျဉ်မပြတ်ဖြစ်သကဲ့သို့ အာရုံတည်းဟူသော လေတိုက်ခတ်ခြင်းကြောင့် ဆန်းဆန်းပြားပြားထကြွလာသော ဝိညာဉ်၏ လှိုင်းတံပိုးများနှင့်အတူ အာလာယသမုဒ္ဒရာသည် အမြဲတမ်းအပြုအမူရှိနေလေသည်"

အတွင်းပိုင်း ဥေယျတရား(ရုပ်မပါသော ဝိညာဉ်)သည် အရာဝတ္ထုဖြစ်၏။ ၎င်းသည်ပင် အပြင်အပ တရားကဲ့သို့ အသွင်ဆောင်၏။ ခန္ဓာ၊ ပစ္စယ (=ဟေတု)၊ အဏု၊ ရုပ်တရားအားလုံးပင် ဝိညာဉ်မျှသာတည်း။ ၎င်းအာလယဝိညာဉ်လည်း ပတိစ္စသမုပ္ပာဒ်ဖြစ်၍ ခဏခဏပြောင်းလဲသော သဘောရှိ၏။ ခဏိကသဘောရှိခြင်းကြောင့် ၎င်းအာလယဝိညာဉ်သည် အချိန်တိုင်း အသစ်ဖြစ်သောသဘောကို ဆောင်ယူနေ၏။ ထို့ကြောင့်ပင် ကမ္ဘာကြီးသည်ဆန်းဆန်းပြားပြားဖြစ်နေ၏။

သဗ္ဗတ္ထိဝါဒဟူသည်မှာ ဗုဒ္ဓအဘိဓမ္မာအခန်း၌ ကျွန်ုပ်တို့ဆိုခဲ့ပြီးသော သဘောတရားပင်တည်း။ ၎င်းဝါဒသည် အပရုပ်၊ အတွင်းဝိညာဉ် ၂ မျိုးစလုံး၏ ပတိစ္စသမုပ္ပာဒ်သဘောကို လက်ခံ၏။

သုတ္တန္တိကဂိုဏ်းသည် သူတို့ကိုယ်ကို သူတို့ ဗုဒ္ဓ၏ သုတ္တန်များကို လိုက်နာသူများဟု ခေါ်သမုတ်ကြ၏။ ၎င်းဂိုဏ်းသည် ဝိညာဉ်ဝါဒမှ ပြောင်းပြန် ဗာဟျအတ္ထဝါဒီများဖြစ်၏။ ခဏိကဖြစ်သော ရုပ်သာလျှင် မူလဓာတ်ဖြစ်၏ဟု ဆိုလိုသည်။

* * *

## ၁။ ဗုဒ္ဓဆိုင်ရာအမြင်၏ နောက်ဆုံးတိုးတက်ပွင့်ကားမှု

အသင်္ဂ (ခရစ် ၃၅၀) – အဘိဓမ္မာ၏ နောက်ဆုံးတိုးတက်ပွင့်ကားမှု အဆင့် အတန်းသို့ရောက်စေရန် ပထမဆုံးအပြင်းအထန်ကြိုးပမ်းမှုကို အသင်္ဂနှင့် ဝသု ဗန္ဓုခေါ် ပေသျှာဝရ်နယ်သား ပဌာန်ညီနောင်၂ ဦးပြုခဲ့၏။ နောင်တော်အသင်္ဂသည်ယောဂါစာရဘူမိ၊ ဥတ္တရတန္တရ (၎င်းကျမ်း ၂စောင်ကို တရုတ်ဘာသာပြန်၊ တိဗက်ဘာသာပြန်အနေဖြင့် ပထမတွေ့ခဲ့ရ၏။ သို့သော် ၎င်းတို့၏ သက္ကတဘာသာကိုမူ တိဗက်တွင် ကျွန်ုပ်တွေ့ရှိ၏။ ၎င်းကျမ်းဖိုတိုမူနှင့် လက်ရေးမူ အိန္ဒိယသို့ ရောက်ရှိပြီးခဲ့လေပြီ) ကဲ့သို့သောကျမ်းများကို ရေး၍ ဝိညာနဝါဒကို အထောက်အကူပြုခဲ့၏။ ညီငယ်ဝသုဗန္ဓု၏ ဉာဏ်ပတိဘာန်မှာ နောင်တော်ထက်ပင် အဘက်ဘက်ကစုံလင်၏။ ဝသုဗန္ဓုသည် တစ်ဖက်က ဝေဘာသိကအယူနှင့် ကိုက်ညီသည့်ပြင် ဗုဒ္ဓအမြင်နှင့်ကိုက် ညီချက်များသော သူ၏အကောင်းဆုံးကျမ်း အဘိဓမ္မာကောသနှင့် ၎င်း၏ဘာသာအကျယ်ကို (အဘိဓမ္မာကောသကို ကိုယ်ပိုင်ဝုတ္တိနှင့်တကွ ပထမ ကျွန်ုပ်တည်းဖြတ်စီစဉ်ခဲ့လေပြီ) ရေးခဲ့၏။ အခြားတစ်ဖက်က ဝိညာနဝါဒနှင့်စပ်လျဉ်း၍ ဝိညတ္တိမတ္တတာသိဒ္ဓိ၏ ဝိံသိကာ (ကာရိကနှစ်ဆယ်) နှင့် တိံသိကာ (ကာရိကသုံးဆယ်)ကိုရေး၍ မိမိနောင်တော်၏လုပ်ငန်းကိုပို၍ အခြေတကျခိုင်မာသော အနေအားဖြင့် အဘိဓမ္မာဆရာများ ရှေ့မှောက်သို့တင်ပြခဲ့၏။ တတိယလုပ်ငန်းကား အရေးအပါဆုံးဖြစ်၏။ ၎င်းကား ဝါဒဝိဓာနမည်သော တက်ကျမ်းကို ရေးသား၍ အိန္ဒိယတက်ကျမ်းအတတ်ပညာက နာဂဇ္ဇုန၏ စူးရှထက်မြက်သော အမြင်မှရလိုက်သော ထက်သန်မှုကို နောက်ထပ်စည်းစနစ်ကျနအောင်

ပြုလုပ်ပေးခြင်းဖြစ်၏။ ထို့နောက် အကြီးဆုံးသောလုပ်ငန်းကား "အိန္ဒိယပြည် အလယ်ပိုင်းခေတ် တက်ကျမ်းဖခင်" ဒိန္နာဂကဲ့သို့သော တပည့်များကို သင်ကြားပေး၍ ယနေ့တိုင်အောင် ပြုလုပ်ပေးခဲ့သော ကြိုးပမ်းမှုကို ကြီးမားသော အလျှဉ်တစ်ခုအဖြစ် ဆက်လက်သွားရန် ပြင်ဆင်ခဲ့ခြင်းဖြစ်၏။

ဗုဒ္ဓဘာသာဝင်တို့၏ ဝိညာနဝါဒ–ခဏိကဝိညာနဝါဒ၏ ကြွေးမြီသည် သင်္ကရာစရိယနှင့် ၎င်း၏ အဘိုးဆရာဖြစ်သူ ဂေါ်ဍပါဒ၏ မဏ္ဍုကျကာရိကာ"အလာဘ သန္တိပကရဏ"သည် အရေခြုံမဟုတ်။ ပေါ်ပေါ်လွင်လွင်သဘောအားဖြင့်ပင် ဗုဒ္ဓဘာသာဆိုင်ရာ ဝိညာနဝါဒီကျမ်းတစ်ခုဖြစ်၏။ ဗုဒ္ဓဘာသာဝိညာနနှင့် အသင်္ဂအဘယ်မျှ ဆက်သွယ်နေသည်ကိုသိနိုင်သော အချက်ကား ဝိညာနဝါဒသည် သူ၏အမည်ထက် "ယောဂါစာရအဘိဓမ္မာ" ဟူသောအမည်ဖြင့် ပိုလွန်ထင်ရှားနေခြင်းနှင့်"ယောဂါစာရ" သဒ္ဒါကို အကြီးဆုံးကျမ်း"ယောဂါစာရဘူမိ"မှ ယူထားခဲ့ခြင်းဖြစ်၏။

## အဿဃုဃ္ဃတ္တိ

အသင်္ဂသည် ပေသျှာဝရ်နယ် ဗြာဟ္မဏအမျိုးအနွယ်(ပဌာန်)တစ်ခုတွင် မွေးဖွားခဲ့၏။ ၎င်း၏ညီ ဝသုဗန္ဓုသည် ဗုဒ္ဓဘာသာလောကရှိ ထိပ်တန်းအဘိဓမ္မာဆရာများတွင် ပါဝင်၏။ ဝသုဗန္ဓု၏ မူလကျမ်းရင်း အမြောက်အမြားပင် ကာလ၏ ဝါးမျိုခြင်းခံသွားကြရလေပြီ။ ၎င်း၏ အဘိဓမ္မာကောသကျမ်းသည် အလွန်ကြီးမားသော ကျမ်းတစ်ခုဖြစ်၏။ သို့သော် ၎င်းကျမ်းမှာ သဗ္ဗတ္ထိဝါဒ အဘိဓမ္မာ၏ကွင်းဆက်ကောင်းသော စစ်တမ်းမျှသာဖြစ်၏။ ထို့ကြောင့် ၎င်းကျမ်းနှင့်ပတ်သက်၍ ကျွန်ုပ်တို့ အထူးမရေးသားတော့ပေ။ ဝသုဗန္ဓုသည် အဘိဓမ္မာကောသ၏ ဘာသျ(အဖွင့်)ကျယ်ကို ရေးသားခဲ့၏။ ကံကောင်းထောက်မသဖြင့် ၎င်းကျမ်းသက္ကတဘာသာမူရင်းကို ကျွန်ုပ်တို့ဗက်အသွားတွင်ရခဲ့၏။ ၎င်း၏နောင်တော် အသင်္ဂရေးဝိညာဉ်ပါဒနှင့် ပတ်သက်သည့် "ဝိညတ္တိမတ္တတာသိဒ္ဓိ"အမည်ရှိသောကျမ်း၏ "ဝိံသိကာ"နှင့် "တိံသိကာ"မည်သော ကျမ်းကိုလည်း တွေ့ရှိ၍ ထုတ်ဝေပြီးလေပြီ။ ဝသုဗန္ဓုသည် "အလယ်ပိုင်းခေတ်တက်ကျမ်းဖခင်" ဒိန္နာဂ၏ ဆရာဖြစ်၏။ ၎င်း

ကိုယ်တိုင်လည်း "ဝါဒဝိဓာန"အမည်အားဖြင့် တက်ကျမ်းနှင့်ပတ်သက်၍ ကျမ်းတစ်စောင် ရေးသားခဲ့၏။ သို့သော် တပည့်၏ ထူးခြားသော ဉာဏ်ရည်ဉာဏ်သွေးရှေ့တွင် ဆရာ၏ လက်ရာများ ဖုံးကွယ်သွားခဲ့ရလေသည်။ ဝသုဗန္ဓုသည် သမုဒ္ဒဂုတ္တ၏ သားတော် စန္ဒဂုတ္တ(ဝိက္ကမဒိစ္စ)၏ စာသင်ဆရာဖြစ်ခဲ့သေး၏။ ဤသို့အားဖြင့် ဝသုဗန္ဓုသည် ခရစ်နှစ် ၄ ရာစုနောက်ပိုင်းတွင် ရှိခဲ့သေး၏။ (ကျွန်ုပ်၏ "ဝါဒနျာယ" နှင့် "အဘိဓမ္မကောသ" နိဒါန်းတို့ကို ကြည့်ပါ)

အသင်္ဂ၏ အတ္ထုပ္ပတ္တိနှင့်ပတ်သက်၍ ၎င်းသည် ယောဂါစာရ အဘိဓမ္မာ၏ ပထမဆရာဖြစ်ကြောင်း၊ ကျမ်းပေါင်းများစွာ၏ ကျမ်းပြုဖြစ်ကြောင်း ဝသုဗန္ဓု၏နောင်တော်ဖြစ်၍ ပေသျှာဝရ်တွင်နေကြောင်း။ ဤမျှထက် အလွန် ကျွန်ုပ်တို့ မသိကြရပေ။ သူသည် ခရစ်နှစ် ၃၅၀ တွင် မုချရှိနေပေလိမ့်မည်။ ၎င်းအချိန်ကား နာဂဇ္ဈုနမှ နှစ်ပေါင်း ၁၇၅ နှစ် နောက်ကျ၏။ ကျွန်ုပ်တို့သိရသမျှ နဂဇ္ဈုန၏ ကျမ်းများသည် အိန္ဒိယပြည် တက်ကျမ်းအတတ်ပညာဆိုင်ရာ ရှေးအကျဆုံးကျမ်းများဖြစ်၏။ ဂရိတ်အဘိဓမ္မာ၏ ဝါဒပေါင်းအမြောက်အမြားကို အိန္ဒိယအဘိဓမ္မာများသို့တိုင်အောင် ဖြောင့်တန်းစွာ ပို့ပေးသော ကွင်းဆက်များကို ယခုအခါ ရှာမရတော့သကဲ့သို့ပင် နာဂဇ္ဈုနကိုအသင်္ဂ၊ ဝသုဗန္ဓုနှင့် ဆက်စပ်ပေးသော ကွင်းဆက်ကိုလည်း ကျွန်ုပ်တို့မသိကြရတော့ပေ။ အသင်္ဂကို ဝါဒသျှတ္တရာ(တက်ကမ်းအတတ်)တွင် အပြည့်အစုံတတ်ကျွမ်းကြောင်း "ယောဂါစာရဘူမိ"အရ ကျွန်ုပ်တို့သိရ၏။

*

## ၂။အသင်္ဂ၏ ကျမ်းများ

မဟာယာနသုတ္တာလင်္ကာရ၊ ယောဂါစာရ-ဘူမိဝတ္ထုသင်္ဂ ဟဏီ၊ ဗောဓိသတ္တ-ပိဋကာဝ ဝါဒ ဤကျမ်း ၅ကျမ်းကို ယခုတိုင်အောင် အသင်္ဂ၏ အဘိဓမ္မာဆိုင်ရာ ကျမ်းများတွင် ပါဝင်သည်ဟု ကျွန်ုပ်တို့သိရ၏။ ၎င်းကျမ်းများအနက် နောက် ၂ကျမ်းအကြောင်းကို "ယောဂါစာရဘူမိ"မှ သိရခြင်းသာဖြစ်၏။ ပထမ ၃ ကျမ်းကိုကာ တိဗက်ဘာသာပြန်၊ တရုတ်ဘာသာပြန်များရှိ၍ ပထမကပင် သိခဲ့ရ၏။

ယောဂါစာရဘူမိကျမ်း-အသင်္ဂ၏ ဤကြီးမားသော ကျမ်းကို အောက်ပါအတိုင်း ဘူမိပေါင်း ၁၇ မျိုးခွဲခြားထား၏။

၁။ ဝိညာနဘူမိ

၂။ မနဘူမိ

၃။ သဝိတက္က-သဝိစာရာဘူမိ

၄။ အဝိတက္က-ဝိစာရမတ္တာဘူမိ

၅။ အဝိတက္က-အဝိစာရာဘူမိ

၆။ သမာဟိတာဘူမိ

၇။ အသမာဟိတာဘူမိ

၈။ သစိတ္တကာဘူမိ

၉။ အစိတ္တကာဘူမိ

၁၀။ သုတမယီဘူမိ

၁၁။ စိန္တာမယီဘူမိ

၁၂။ ဘာဝနာမယီဘူမိ
၁၃။ သာဝက ဘူမိ
၁၄။ ပစ္စေကဗုဒ္ဓဘူမိ
၁၅။ ဗောဓိသတ္တဘူမိ
၁၆။ သောပဓိကာဘူမိ
၁၇။ နိရုပဓိကာဘူမိ

## ဘူမိ (၁)

*** ၁။ (ဣန္ဒြေငါးပါးတို့၏) ဝိညာဉ်ဘူမိများ**

*** ၂။ ဣန္ဒြေငါးပါး၏ ဝိညာဉ် (ဉာဏ်)**

*၁။ စက္ခုဝိညာဉ်*

(၁) ဝိညာဉ်တို့၏ သဘာဝ

(၂) ၎င်းတို့၏ အာသယ(သဟာသူ သမနန္တရ၊ ဗီဇ)

(၃) ၎င်းတို့၏ အာလမ္ဗနများ (OBJECTS)ဝဏ္ဏ၊ သဏ္ဌာန၊ ဝိညတ္တိ (=ကြိယာ)

(၄) ၎င်းတို့၏ အဖော်များ (သဟာယ-သဟာယောဂီ)

(၅) ကမ္မ

(က) မိမိ မိမိတို့၏ အာရုံဖြစ်သော အာလမ္ဗန၏ ကြိယာ (=ဝိညတ္တိ)

(ခ)မိမိ၏ သရုပ်(လက္ခဏာ)၏ အပြုအမူ(=ဝိညတ္တိ)

(ဂ)ပစ္စုပ္ပန်ကာလ၏ ဝိညတ္တိ

(ဃ)တစ်ခုသောခဏ၏ ဝိညတ္တိ

(င)မနရှိသော ဝိညာဉ်၏ နောက်သို့လိုက်ခြင်း

(စ)အကောင်းအဆိုး၏ နောက်သို့လိုက်ခြင်း

*၂။ သောတဝိညာဉ်(သဘာဝစသည်နှင့်တကွ)*

*၃။ ဃာဏ(န)ဝိညာဉ် (၎င်း)*

*၄။ ဇိဝှါဝိညာဉ် (၎င်း)*

*၅။ ကာယဝိညာဉ်(သဘာဝစသည်နှင့်တကွ)*

* ၃။ ဝိညာဉ် ၅ ပါးဖြစ်ပေါ်ပုံ

* ၄။ ဝိညာဉ် ၅ ပါးတို့နှင့်တကွ စပ်နေသောစိတ်

* ၅။ ဝိညာဉ် ၅ ပါး၏အဖော်အစရှိသည်တို့ကို 'တစ်ခရီးသွား' အစရှိသည်နှင့် ဥပမာပေးပုံ။

## ဘူမိ (၂)

### မနဘူမိ

* ၁။ မန၏သဘာဝ အစရှိသည်

*၁။ မန၏ သဘာဝ*

*၂။ မန၏ အာသယ*

*၃။ မန၏ အာလမ္ဗန(=ဝိသယ)*

*၄။ မန၏ သဟာယ(=သဟယောဂီ)*

*၅။ မန၏ ထူးခြားသော လုပ်ငန်း*

(၁) အာလမ္ဗနဝိညတ္တိ

(၂) ထူးခြားသော လုပ်ငန်း

(က) အာရုံကိုအထူးအထွေကြံစည်ခြင်း

(ခ) စူးစိုက်ခြင်း (ဥပနိဇ္ဈာန)

(ဂ)မူးယစ်ခြင်း

(ဃ)ရူးသွပ်ခြင်း

(င)အိပ်ခြင်း

(စ)နိုးခြင်း

(ဆ) မိန်းမောခြင်း

(ဇ) မိန်းမောရာမှ ပြန်လည်လာခြင်း

(ဈ) ကာယကံ၊ဝစီကံကို ပြုစေခြင်း

(ည) တပ်မက်မှုကင်းခြင်း

(ဋ) ကောင်းသောအခြေအနေ၏ အမြစ်ကိုဖြတ်ခြင်း

(ဌ) ကောင်းသောအခြေအနေ၏ အမြစ်ကိုဆက်ခြင်း

* ၂။ မန၏ ကိုယ်ကာယမှ ရွေ့လျောခြင်းနှင့်ဖြစ်ခြင်း
  ၁။ ကိုယ်ကာယမှ ရွေ့လျောခြင်း (အသက်ထွက်ခြင်း၊ သေခြင်း)
  ၂။ တစ်ခုသော ကိုယ်နှင့်အခြားသော ကိုယ်၏အကြား အခိုက်အတန့်ရှိ သိမ်မွေ့သော ကာယရှိသောမန(=အန္တရာဘဝ)
* ၃။ အခြားကိုယ်ကာယ၌ဖြစ်ခြင်း၊
  ၁။ ဖြစ်မှုရှိသော ဌာနသို့သွားလိုခြင်း၊
  ၂။ ကိုယ်ဝန်ယူခြင်း
  (၁) ကိုယ်ဝန်ဆောင်ရာအကူအညီများ
  (၂) ကိုယ်ဝန်ဆောင်ရာ အဖျက်အဆီးများ
  (က) ယောနိ (မိန်းမကိုယ်) ၏ အပြစ်များ
  (ခ) မျိုးစေ့အပြစ်များ
  (ဂ) ရှေးကံ၏ အပြစ်များ
  (၃)အန္တရာဘဝအယူသို့ပြောင်းခြင်း
  (၄) အကုသိုလ်များသော အမျိုးနှင့် ကုသိုလ်များသောအမျိုး
  (၅) သားအိမ်တွင် အာလယဝိညာဉ် (အလျဉ်)ကို ဆက်နည်း
  (၆) ကိုယ်ဝန်၏ အထူးထူးသော အခိုက်အတန့်များ
  (က) ကလလ(ရေကြည်)အခိုက်အတန့်
  (ခ)အဗ္ဗုဒ(အမြှုပ်)အခိုက်အတန့်
  (ဂ)ပေသိ (သားတစ်)
  (ဃ)ဃန (အခဲ)
  (င) ပသာခ(အခက်)
  (စ) ဆံပင်၊ မွေးညှင်း၊ ခြေသည်း၊ လက်သည်း၊ အခိုက်အတန့်
  (ဆ) ဣန္ဒြေများပေါ်လာခြင်း
  (ဇ) မိန်းမ ယောကျ်ား လိင်ပေါ်လာခြင်း
  (၇) ကိုယ်ကာယတွင် ပြောင်းလဲခြင်း
  (က) အရောင်တွင်ပြောင်းခြင်း
  (ခ) အရေတွင်ပြောင်းခြင်း
  (ဂ) အင်္ဂါအစိတ်အပိုင်းတွင် ပြောင်းခြင်း

(ဂ) ကိုယ်ဝန်အခိုက်အတန့်တွင် ယောကျ်ား၊ သို့မဟုတ် မိန်းမဟု သိနိုင်သော အမှတ်အသား

၃။ *မီးဖွားခြင်း*

၄။ *ကလေးစောင့်ရှောက် မွေးမြူခြင်း*

၅။ *ကမ္ဘာပျက်ခြင်းနှင့် ပေါ်လာခြင်း*

(၁) ကမ္ဘာပျက်ပုံအစဉ်

(က) နတ်တို့သက်တမ်း

(ခ) ကပ်၏ အတိုင်းအရှည်

(၂) ကမ္ဘာပေါ်လာပုံ

(က) လောကအမျိုးမျိုးပေါ်လာပုံ

(ခ) ဗြဟ္မလောကစသည် ပေါ်ပေါက်လာပုံ

(ဂ) မြေကြီးပေါ်လာပုံ

(ဃ) မြင်းမိုရ်တောင် စသည်ပေါ်လာပုံ

(င) ငရဲပေါ်လာပုံ

(စ) ကျွန်းများပေါ်လာပုံ

(ဆ) နဂါးပြည်ပေါ်လာပုံ

(ဇ) ဘီလူး (ယက္ခ)ပြည် ပေါ်လာပုံ

(ဈ) ဝေဿဝဏ အစရှိသော နတ်မင်းကြီးလေးပါးပေါ်လာပုံ

(ည) ဟိမဝန္တာပေါ်လာပုံ

(ဋ) အနဝတတ်အိုင်(=မာန်သရောဝရ်)ပေါ်လာပုံ

(ဌ) မြင်းမိုရ်တောင်၏ နံပါးများပေါ်လာပုံ

*** ၄။ သတ္တဝါများပေါ်လာပုံ**

၁။ *ကမ္ဘာဦးသတ္တဝါ(=လူသား)*

(၁) ၎င်းတို့၏အစာအာဟာရ

(၂) စိတ်ပြောင်းသဖြင့် အာဟာရများ ပျောက်ကွယ်ခြင်း

(၃) ဘုရင်ကို ပထမဆုံးရွေးကောက်ခြင်း

၂။ *ဂြိုဟ်နက္ခတ်စသည် ပေါ်လာပုံ(ဝိညာဉ်ဖြစ်ပေါ်ပုံ)*

(၁) သတ္တဝါတို့ ကိုယ်ရောင် ပျောက်ကွယ်ခြင်း၊ နေ၊ လ၊ နက္ခတ်စသည်

ပေါ်လာပုံ(ဝိညာဉ်ဖြစ်ပေါ်ပုံ)

(၂) နေနှင့်လ အသွားများ

(၃) ဥတုပြောင်းလဲပုံ

*** ၅။ ဦးစွန်းအထောင်ရှိသော လောက (LOCAL UNIVERSE) (ဗုဒ္ဓခေတ်)**

*** ၆။ ရုပ်**

*၁။ ရုပ်၏ ဗီဇ(မူလရုပ်)*

*၂။ မဟာဘုတ်*

*၃။ ပရမာဏု (အဝယဝ)*

*၄။ ဒွဲ ၁၄ ပါး*

*၅။ ဘုတ်တို့၏ တွဲစပ်ပုံ၊ သို့မဟုတ် ကွဲပြားပုံ*

*** ၇။စိတ်**

*** ၈။ စိတ်နှင့်စပ်သော (စေတသိက်)တရား**

*၁။ မနသိကာရ စေတသိက်စသည်*

(၁) ၎င်းတို့၏သဘာဝ

(၂) ၎င်းတို့၏လုပ်ငန်း

*** ၉။ ကာလသုံးပါး (ဓာတီ၊ ဓရာ စသည်)**

*** ၁၀။ ခြောက်မျိုးပြားသော ဝိညာဉ်**

*၁။ ဝိညာဉ်တို့၏ အကြောင်း ၄ မျိုး*

(၁) အကြောင်း(ပစ္စယ)

(၂) အကြောင်းအပြား

*၂။ အာယတန ၆ ပါး*

(၁) ဣန္ဒြေအပြား

(က) စက္ခုအပြား

(ခ) သောတ

(ဂ) ဃာဏ(န)

(ဃ) ဇိဝှာ

(င) ကာယ

(စ) မနု
(၂) အာလမ္ဗန ၆ ပါး
(က) ရူပအပြား
(ခ)သဒ္ဒအပြား
(ဂ) ဂန္ဓ
(ဃ) ရသ
(င) ဖောဋ္ဌဗ္ဗ
(စ) ဓမ္မအပြား
* ၁၁။ဝတ္ထု ၉ မျိုးပါသော ဗုဒ္ဓဝစန(ဘုရားစကားတော်)

## ဘူမိ (၃၊၄၊၅)

(သဝိတက္က–သဝိစာရာဘူမိ၊ အဝိတက္က–ဝိစာရမတ္တာ ဘူမိ၊ အဝိတက္က အဝိစာရာဘူမိ) (သဝိတက္က သဝိစာရာဘူမိ)

*** ၁။ ဓာတုပညတ်အားဖြင့်**

*၁။ ဓာတ်ကို ပညတ်ခြင်းအားဖြင့်*
(၁) ကာမ(=ကြမ်းတမ်းသော) ဓာတု(=လောက)
(၂) ရူပဓာတု
(၃) အာရုပ္ပဓာတု

*၂။ အတိုင်းအရှည်ကို ပညတ်ခြင်းအားဖြင့်*
(၁) ကိုယ်ကာယအတိုင်းအရှည်
(၂) သက်တမ်းအတိုင်းအရှည်

*၃။ ခံစားမှုကို ပညတ်ခြင်းအားဖြင့်*
(၁) ဒုက္ခကို ခံစားခြင်း
(က) ငရဲ
– ငရဲကြီး(၈ မျိုး)
– ငရဲငယ်(၄ မျိုး)
– ငရဲအေး(၈ မျိုး)
– သီးခြားငရဲ

(ခ) တိရစ္ဆာန်
(ဂ) ပေတ ယောနိ
(ဃ) မနုဿ ယောနိ
(င) ဒေဝယောနိ
(၂) သုခကို စံစားခြင်း
(က) ငရဲမျိုး၌
(ခ) တိရစ္ဆာန်မျိုး၌
(ဂ) လူသားမျိုး၌ (စကြဝတေးဖြစ်၍)
(ဃ) နတ်မျိုး၌
– နတ်ပြည်၌ ဣန္ဒနှင့် နတ်မြို့၊ မြောက်ကျွန်းနှင့်အသုရာ
– ရူပဘုံရှိဗြဟ္မာ
– အရူပဘုံရှိဗြဟ္မာ
(၃) ဒုက္ခသုခ်အထူး
(၄) အာဟာရကို သုံးဆောင်ခြင်း
(၅) အသုံးအဆောင်

*၄။ ဥပပတ္တိ(=ပဋိသန္ဓေ)*

*၅။ အတ္တဘော*

*၆။ အကြောင်းနှင့်အကျိုးအခိုက်အတန့်*

(၁) အကြောင်းနှင့်အကျိုးလက္ခဏာ
(၂) ဟေတု–ပစ္စယာ၏တည်ရာ
(၃) ဟေတုပစ္စယအပြား
(က) ဟေတုအပြား
(ခ) ပစ္စယအပြား
(ဂ) ဖလအပြား

*၇။ ဟေတု–ပစ္စယ–ဖလစနစ်*

(က)ဟေတုပညတ်
(ခ) ပစ္စယပညတ်
(ဂ) ဖလပညတ်

(ဃ) ပေတုစနစ်

* ၂။ **လက္ခဏာပညတ်အားဖြင့်**

၁။ သရီရစသည်

(၁) သရီရ

(၂) အာလမ္ဗန(=အာရုံ)

(၃) အခြင်းအရာ

(၄) အကြောင်း(သမုဋ္ဌာန်)

(၅) အထူးအပြား

(၆) အဆုံးအဖြတ်

(၇) ဖြစ်စဉ်

၂။ ဝိတက်-ဝိစာရ ဂတိအပြားအားဖြင့်

(၁) နိရယဂတိ

(၂) ပေတနှင့် တိရစ္ဆာနဂတိ

(၃) ဒေဝဂတိ

(က) ကာမလောကနတ်

(ခ) ပဥ္စမဈာန်ဘုံနတ်

* ၃။ **ယောနိသော မနသိကာရ ပညတ်အားဖြင့်**

၁။ အဓိဋ္ဌာန

၂။ ဝတ္တု

၃။ ရှာမှီးခြင်း

၄။ သုံးဆောင်ခြင်း

၅။ ကျင့်ခြင်း

* ၄။ **အယောနိသော မနသိကာရ ပညတ်အားဖြင့်**

၁။ သူတစ်ပါးတို့၏ အယူဝါဒ

(၁) သန္တ(ဘာဝ)၊ ဝါဒ(သချိုအဘိဓမ္မာ)

(၂) အနဘိဗျတ္တိဝါဒ(သချိုနှင့်ဗျာကရဏ်း)

(၃)ဒဗ္ဗသန္တဝါ (သဗ္ဗတ္ထိဝါဒီ)

(၄) အတ္တဝါဒီ (ဥပနိသျှဒ်)

(၅) သဿတဝါဒ (ကစ္စာယန)
(၆) ပုဗ္ဗကတဟေတုဝါဒ(ဂျိန်း)
(၇) ဣဿရာနိမ္မာနဝါဒ(နေယာယိက)
(၈) ဟိံသာဓမ္မဝါဒ (ယညိကနှင့် မိမံသက)
(၉) အန္တာနန္တိကဝါဒ
(၁၀) အမရာဝိက္ခေပဝါဒ (ဗေလဋ္ဌပုတ္တ)
(၁၁) အဟေတုဝါဒ(ဂေါသာလ)
(၁၂) ဥစ္ဆေဒဝါဒ (လောကာယတ)
(၁၃) နတ္ထိကဝါဒ (ကေသလမ္ဗလ)
(၁၄) အဂ္ဂဝါဒ(ဗြာဟ္မဏ)
(၁၅) သုဒ္ဓိဝါဒ(ဇိန်း)
(၁၆) ဇောတိသသကုန(ကောကတုကမင်္ဂလ)ဝါဒ

*** ၅။ ကိလေသပညတ်အားဖြင့်**

*၁။ ကိလေသာ(စိတ်အညစ်အကြေး)*

*(၁) ကိလေသာတို့၏သဘာဝ*
(၂) ကိလေသာအပြား
(၃) ကိလေသာအကြောင်း
(၄) ကိလေသာ၏ အခိုက်အတန့်
(၅) ကိလေသာလမ်းပေါက်
(၆) ကိလေသာလွှန်ကဲခြင်း
(၇) ကိလေသာဖောက်ပြန်ခြင်း
(၈) ကိလေသာ၏ပရိယာယ်
(၉) ကိလေသာ၏အပြစ်

*၂။ ကမ္မ*

*၃။ ဓာတိ*

(၁) ကမ္မအပြား
(၂) ကမ္မဖြစ်စဉ်

*** ၆။ ပတိစ္စသမုပ္ပါဒ်**

## ဘူမိ(၆)
## (သမာပတ္တိဘူမိ)

* ၁။ ဈာန်
    ၁။ အမည်ကို ရေတွက်ခြင်း (နာမဂဏနာ)
    (၁) ဈာန်
    (၂) ဝိမောက္ခ
    (၃) သမာဓိ
    (၄) သမာပတ္တိ
    ၂။ ဗျဝတ္ထာန် (ပိုင်းခြားသတ်မှတ်ခြင်း)
* ၂။ ဝိမောက္ခ
* ၃။ သမာဓိ
* ၄။ သမာပတ္တိ

## ဘူမိ(၇)
## (အသမာပတ္တိဘူမိ)

## ဘူမိ(၈၊ ၉)
## (အစိတ္တကာ ဘူမိ)

## ဘူမိ(၁၀)
## (သုတမယီဘူမိ)

ဝိဇ္ဇာ ၅ မျိုး
* ၁။ အဇ္ဈတ္တဝိဇ္ဇာ
    ၁။ ဝတ္ထုပညတ်
    (၁) သုတ္တဝတ္ထု
    (၂) ဝိနယဝတ္ထု
    (၃) မာတိကာဝတ္ထု

၂။ သညာဘေဒပညတ်

(၁) ပဒ

(၂) သန္တိ(ဝိပ္ပလ္လာသ)

(၃) ပပဥ္စ

(၄) ဋ္ဌိတိ

(၅) တတွ

(၆) သုဘ

(၇) ဝရ

(၈) ပသမ

(၉) ပကတိ

(၁၀) ယုတ္တိ

(၁၁) သံမကတ

(၁၂) အဘိသမယ

၃။ ဗုဒ္ဓသာသနာ၏ အတ္တပညတ်

၄။ ဗုဒ္ဓဟောတော်မူအပ်သော ဧယျတို့၏ သတ်မှတ်ချက်

*** ၂။ ဝိစိကိစ္ဆာ ဝိဇ္ဇာ**

*** ၃။ ဟေတု(=ဝါဒ)ဝိဇ္ဇာ**

၁။ ဝါဒ

(၁) ဝါဒ

(၂) ပတိဝါဒ

(၃) ဝိဝါဒ

(၄) အပဝါဒ

(၅) အနုဝါဒ

(၆) အဝဝါဒ

၂။ ဝါဒ၏ အဓိကရုဏ်း(=အကြောင်း)

၃။ ဝါဒ၏ အဓိဋ္ဌာန်(=သတ်မှတ်ချက်) (၁၀ မျိုး)

(၁) သာဓျ ၂ မျိုး

(၂) သာဓန ၈ မျိုး

(က) ပတိညာ
(ခ) ဟေတု
(ဂ) ဥဒါဟရဏ
(ဃ) သာရုပ္ပ (တူခြင်း)
- လိင်္ဂသာဒိဿ (အသွင်းတူခြင်း)
- သဘာဝသာဒိဿ (သဘာဝတူခြင်း)
- ကမ္မသာဒိဿ (အလုပ်တူခြင်း)
- ဓမ္မသာဒိဿ (ဓမ္မတူခြင်း)
- ဟေတုဖလသာဒိဿ (ကြောင်းကျိုးတူခြင်း)
(င) ဝေရုပ္ပ(မတူခြင်း)
(စ) ပစ္စက္ခ
- အ-ပရောက္ခ(မျက်ကွယ်မဟုတ်သောအရာ)
- အနုဗ္ဗုဟိတအနုဗ္ဗုဟျ (အတွေးမဟုတ်သောအရာ)
- အ-ဘန္တေ(ဖောက်ပြန်ခြင်း ကင်းသောအရာ)
(ဘန္တိများ-သညာ၊ သချိာ၊ သဏ္ဌာန၊ ဝဏ္ဏ၊ ကမ္မ၊ စိတ္တ၊ ဒိဋ္ဌိဘန္တိများ) [ပစ္စက္ခအပြား-ဣန္ဒြိယ-ပစ္စက္ခ၊ မန-ပစ္စက္ခ၊ လောကပစ္စက္ခ၊ သုဒ္ဓ(=ယောဂိ) ပစ္စက္ခ]
(ဆ) အနုမာန
- လိင်္ဂအားဖြင့်
- သဘာဝအားဖြင့်
- ကမ္မအားဖြင့်
- ဓမ္မအားဖြင့်
- ဟေတု-ဖလအားဖြင့်
(ဇ) အတ္တာဂမ(=သဒ္ဒ)

*၄။ ဝါဒါလင်္ကာရများ(စကားတန်ဆာများ)*

(၁) မိမိနှင့်သူတစ်ပါး၏ဝါဒကိုသိမှု
(၂) ဝါက္ကမ္မသမ္ဘန္ဒတာ(အပြောလိမ္မာမှု)
(က) အဂါမ္ဘဘာသဏ(ဂါမ္ဘဒေါသကင်းအောင် ပြောမှု)

(ခ) လဃုဘာသဏ(ချင့်ချိန်၍ပြောမှု)
(ဂ) ဩဇာသီဘာသဏ(စကားလုံးပြောင်ပြောင်ပြောမှု)
(ဃ) ပုဗ္ဗာပရသမ္ဗန္ဓဘာသဏ(ရှေ့နောက်ညီညွတ်အောင်ပြောမှု)
(၃) ရဲရင့်ခြင်း
(၄) တည်တံ့ခြင်း
(၅) ဒက္ခိည(=ရက်ရောမှု)

*၅။ ဝါဒနိဂ္ဂဟ(စကားရှုံးခြင်း)*

(၁) ကထာစာဂ(စကားလွတ်ခြင်း)
(၂) ကထာမာဒ(စကားရှုံးနိမ့်ခြင်း)
(၃) ကထဒေါသ(စကားအပြစ်သင့်ခြင်း)
(က) စကားဆိုး(ဒုဗ္ဗစန)
(ခ) အမျက်ပါသောစကား(သံရဒ္ဓဝစန)
(ဂ) မသိနိုင်သောစကား(အ ဂမကဝစန)
(ဃ) မချင့်ချိန်ဘဲပြောသောစကား (အ မိဘိဝစန)
(င) အနက်လွတ်ကင်းသောစကား( အနတ္တဝစန)
(စ) အခါမဟုတ်ဘဲပြောသောစကား(အကာလဝစန)
(ဆ)မတည်တံ့သောစကား(အဋ္ဌိရဝစန)
(ဇ) မပြောင်လက်သောစကား(အဒိတ္တဝစန)
(ဈ) မဆက်စပ်သောစကား( အပ္ပဗန္ဓ ဝစန)

*၆။ ဝါဒ နိဿရဏ(စကားထွက်လမ်း)*

(၁) ဂုဏ်နှင့်ဒေါသကိုစူးစမ်းခြင်း (ဂုဏဒေါသပရိက္ခာ)
(၂) ပရိသယကို စူးစမ်းခြင်း(ပရိသာပရိက္ခာ)
(၃) ကျွမ်းကျင်မှုကို စူးစမ်းခြင်း(ကောသလ္လ ပရိက္ခာ)

*၇။ ဝါဒအား ကျေးဇူးများသောအကြောင်းများ*

*** ၄။ သဒ္ဒဝိဇ္ဇာ**

၁။ ဓမ္မပညတ်
၂။ အတ္တပညတ်
၃။ ပုဂ္ဂလပညတ်

၄။ ကာလပညတ်
၅။ သချိုပညတ်
၆။ အဓိကရဏပညတ်

* ၅။ သိပ္ပကမ္မဋ္ဌာန ဝိဇ္ဇာ

## ဘူမိ (၁၁)
## (စိန္တာမယီဘူမိ)

* ၁။ သဘာဝသုဒ္ဓိ

* ၂။ ဉေယျ (ပမေယ) တို့၏အပေါင်း

*၁။ သန္တ-ဘာဝ(ဝတ္ထု)*

(၁) သလက္ခဏဘာဝ
(၂) သာမညလက္ခဏဘာဝ
(၃) သင်္ကေတလက္ခဏဘာဝ
(၄) ဟေတုလက္ခဏဘာဝ
(၅) ဖလ လက္ခဏ ဘာဝ

*၂။ အသန္တ-အဘာဝ(ဝတ္ထု)*

(၁) အနုပ္ပန္နအဘာဝ
(၂) နိရုဒ္ဓအဘာဝ
(၃) အညောညအဘာဝ
(၄) ပရမတ္ထ အဘာဝ

*၃။ အတ္ထိသဘော(အတ္ထိတ္တ)*

*၄။ နတ္ထိသဘော(နတ္ထိတ္တ)*

* ၃။ ဓမ္မအပေါင်း

*၁။ သုတ်၏ အနက်အပေါင်း*

*၂။ ဂါထာအနက်အပေါင်း*

(ဤအခန်း၌ ပိဋကလာ ရာပေါင်းများသော ဂါထာများကို စုထား၏။)

## ဘူမိ(၁၂)
## (ဘာဝနာမယိဘူမိ)

* ၁။ ဌာနအားဖြင့် အကျဉ်းချုံးခြင်း

*၁။ ဘာဝနာ၏ အကြောင်း*

*၂။ ဘာဝနာ၏ အသိဉာဏ်*

*၃။ ယောဂ ဘာဝနာ*

*၄။ ဘာဝနာအကျိုး*

* ၂။ အင်္ဂါအားဖြင့် အကျဉ်းချုံးခြင်း

*၁။ လောကမှ ဆုတ်နစ်မှုပြည့်စုံခြင်း*

*၂။ သူတော်တရားနာကြားမှု ပြည့်စုံခြင်း*

(၁) မှန်ကန်စွာ ဟောခြင်း

(၂) မှန်ကန်စွာ နာခြင်း

(၃) နိဗ္ဗာန်ကို ဦးတည်ခြင်း

(၄) စိတ်၏လွတ်လပ်မှုကို ရင့်ကျက်စေတတ်သော ပညာ၏ ရင့်ကျက်ခြင်း

(၅) ပတိပက္ခဘာဝနာ

## ဘူမိ (၁၃)
## (သာဝကဘူမိ)

## ဘူမိ (၁၄)
## (ပစ္စေကဗုဒ္ဓဘူမိ)

* ၁။ အနွယ် (ဂေါတမ)

*၁။ အညစ်အကြေးနည်းသောအနွယ်*

*၂။ ကရုဏာနည်းသောအနွယ်*

*၃။ အလတ်စားဣန္ဒြေရှိသောအနွယ်*

* ၂။ မဂ်

✱ ၃။ အသိဉာဏ်(သမုဒါဂမ)

၁။ ကြွံချိုကဲ့သို့ တစ်ဦးတည်းနေသူ

၂။ အစုအပေါင်းနှင့်နေသူ

✱ ၄။ နှောင်အိမ် (စာရ)

## ဘူမိ (၁၅)
## (ဗောဓိသတ္တဘူမိ)

## ဘူမိ (၁၆)
## (ဥပါဓိသဟိတာဘူမိ)

ပညတ် ၃ မျိုးတို့ဖြင့်

၁။ ဘူမိပညတ်

၂။ ဥပသမပညတ်

၃။ ဥပဓိပညတ်

(၁) ပညတ္တိဥပဓိ

(၂) ပရိဂ္ဂဟာဥပဓိ

(၃) ဋ္ဌိတိပညတ္တိ

(၄) ပဝတ္တိပညတ္တိ

(၅) အန္တရာယပညတ္တိ

(၆) ဒုက္ခပညတ္တိ

(၇) ရတိပညတ္တိ

(၈) အညပညတ္တိ

## ဘူမိ(၁၇)

၁။ ဘူမိပညတ်ဖြင့်

၂။ နိဝတ္တိပညတ်ဖြင့်

(၁) ဂုပသမာနိဝတ္တိ

(၂) အဗျာဗာဓနိဝတ္တိ

၃။ နိဝတ္တိပရိယာယဝိညတ်ဖြင့်
"ယောဂါစာရဘူမိ"(သက္ကတ)ကို မဟာမဟော ပရျာယ ဝိဓုသေခရ ဘဋ္ဋ ရှာစရိယ တည်းဖြတ်နေ၏။

*

## ၃၊ အဘိဓမ္မာအယူအဆ

အသင်္ဂသည် ခဏိက ဝိညာနဝါဒီဖြစ်၏။ ၎င်းဝိညာနဝါဒသည် အသင်္ဂ အရင်ကပင် "လင်္ကာဝတာရသုတ္တ" "သန္ဓိနိမ္မောစနသုတ္တ"ကဲ့သို့သော မဟာယာနသုတ်များတွင် ထင်ရှားရှိခဲ့၏။ အဆိုပါသုတ်များကို "ဗုဒ္ဓဝစန" ဟု ခေါ်ဆိုအပ်၏။ သို့သော် များစွာသောမဟာယာနသုတ်များကဲ့သို့ ဤသုတ်များလည်း ဗုဒ္ဓအမည်တပ်ထားသော လုပ်သုတ်များသာဖြစ်၏။ လင်္ကာဝတာရသုတ်ကို ဗုဒ္ဓသည် အိန္ဒိယပြည်၏တောင်ဘက်လင်္ကာ (သီဟိုဠ်) ကျွန်းရှိ တောင် (သမန္တကူဋ?) ပေါ်တွင် ဟောတော်မူခဲ့၏။ အမှန်အားဖြင့် ၎င်းသုတ်ကို တောင်ဘက်သို့ဆွဲမသွားဘဲ မြောက်ဘက်ဂန္ဓာရတိုင်း တောင် တန်းများဆီသို့ ဆွဲဆောင်သွားခြင်းက ပို၍ယုတ္တိတန်လေသည်။

ဗုဒ္ဓဘာသာဝင်တို့၏ ဝိညာန ဝါဒသည် ဗုဒ္ဓ၏ "သဗ္ဗံအနိစ္စံ"(=အားလုံးမမြဲ) သို့မဟုတ် ခဏိကဝါဒကို ပလေတို၏ ဝိညာနဝါဒနှင့် ရောစပ်ထားခြင်းမျှသာဖြစ်၏။ ဤကဲ့သို့ ရောစပ်ခြင်းကို ဂရိတ်လူမျိုးတို့၏ အနုပညာနှင့် ရောစပ်ခြင်းကြောင့် ဂန္ဓာရကျောက်ဆစ်အတတ်ပညာပေါ် လာရာဖြစ်သော ဂန္ဓာရတိုင်းတွင် ပြုခဲ့၏။ ဝိညာနဝါဒီတို့က ဝိညာဉ်ကိုသာ ပရမတ္ထသဘောတရားဟု ယူဆကြ၏။ ထိုအကြောင်းကို ဆိုခဲ့ပြီးလေပြီ။ ၎င်းတို့သည် ဣန္ဒြေငါးပါးတို့၏ ဝိညာဉ်ငါးပါးနှင့် ခြောက်ခုမြောက်ဖြစ်သော မနောဝိညာဉ်မှတစ်ပါး ခုနစ်ခုမြောက် အလယဝိညာဉ်တစ်ခုကိုလည်း လက်ခံယူဆကြ၏။ ၎င်းအာလယ ဝိညာဉ်သည်ပင် လှိုင်းတံပိုးများထနေသော သမုဒ္ဒရာဖြစ်၏။ ၎င်းအာလယ ဝိညာဉ်ကြောင့် လှိုင်းတံပိုးကဲ့သို့

သော ကမ္ဘာ၏ရုပ်တရား နာမ်တရားများ ပေါ်လာလိုက် ပျောက်သွားလိုက် ဖြစ်နေကြရပေသည်။

ဤနေရာ၌ ကျွန်ုပ်တို့သည် အသင်္ဂ၏ အဘိဓမ္မာအယူအဆများကို ၎င်း၏ ယောဂါစာရဘူမိကို အမှီပြု၍ ဖော်ပြရပေသည်။ ယောဂါစာရဘူမိသည် ကောင်းစွာဖွဲ့ထုံးထားအပ်သော အဘိဓမ္မာကျမ်းတစ်ခုမဟုတ်။ ၎င်းကျမ်းသည် ဗုဒ္ဓဃောသ၏ "ဝိသုဒ္ဓိမဂ်"ကဲ့သို့ များသောအားဖြင့် ဗုဒ္ဓဘာသာဆိုင်ရာ သီလ၊ သမာဓိ၊ ပညာ(သဒ္ဒါစာရ၊ ယောဂနှင့် ဓမ္မတတွ)များ၏ စစ်တမ်းအကျယ်ဖြစ်၏။ အသင်္ဂသည် မိမိနှင့်ခေတ်ပြိုင်ငယ်ရွယ်သူ (ဗုဒ္ဓဃောသ)ကဲ့သို့ ဗုဒ္ဓ၏ ဂါထာတစ်ပုဒ်ကို အမှီပြု၍ သူ၏ကျမ်းများကို ရေးသားခြင်းမဟုတ်။ "ဂါထာတ္တ-ပဝိစယ"၌ ဟီနယာန၊ မဟာယာန ၂ မျိုးစလုံး၏ (၁၇၈) ဂါထာကို စုပေါင်းထားအပ်၏။ ဗုဒ္ဓ ၂ မျိုးစလုံး၏ (၁၇၈) ဂါထာကို စုပေါင်းထားအပ်၏။ ဗုဒ္ဓဃောသကဲ့သို့ အသင်္ဂလည်း သုတ္တတို့၏ ဘာသာစကား အသွားအလာကို အဘယ်မျှ များများလိုက်သနည်းဆိုသော် အလွန်ပြုပြင်ထားအပ်သော သက္ကတခေတ်ပေါ်မဟုတ်ဘဲ ပိဋကခေတ်ပေါ် ကျမ်းစာအုပ်ကို သက္ကတစကားလုံးများသို့ ပြောင်းထားသကဲ့သို့ပင် တစ်ခါတစ်ခါ အထင်မှားရ၏။ ဗုဒ္ဓဃောသသည် သူ၏ ကျမ်းကို ပါဠိဘာသာဖြင့် ရေးသားထားခဲ့၏။ ၎င်းကို ဝသုဗန္ဓု-ကာလိဒါသခေတ် သက္ကတဘာသာကဲ့သို့ ပြုပြင်ရန် ထိုစဉ်အခါက အခွင့်မရခဲ့ပေ။ ထို့ကြောင့် ဗုဒ္ဓဃောသသည် ပါဠိဘာသာ စကားအသွားအလာကို လိုက်နာရန် မလွဲသာ မရှောင်သာသော အချက်တစ်စုံတစ်ရာမရှိခဲ့ပေ။ အသင်္ဂသည် သူ၏ ကျမ်းကို ဗုဒ္ဓ၏အမည်ဖြင့် ထုတ်ဖော်ရန်ပင် အလိုမရှိပေ။ ထို့နောက် တစ်စုံတစ်ခုသောအကြောင်းကို အကျဉ်းအားဖြင့် ဆိုပင် မဆိုနိုင်သော စကားအသွားအလာကို အသင်္ဂသည် အဘယ်ကြောင့် လက်ခံလေသနည်း။ သုတ္တ(ပါဠိတော်)အသွားအလာနှင့် ရင်းနှီးမှုရှိသောသူ၏ စာဖတ်ပရိသတ် လွယ်ကူမှုရှိစေရန် ရည်ရွယ်၍ အသင်္ဂက ဤကဲ့သို့ ပြုခဲ့ခြင်းဖြစ်တန်ရာ၏။

ကျွန်ုပ်တို့သည် ဤနေရာတွင် "ယောဂါစာရဘူမိ" ကို အပြည့်အစုံ အကျဉ်းချုပ်၍ မပြလိုတော့ပေ။ ထို့ကြောင့် ၎င်းကျမ်းတွင်လာသော အသင်္ဂ၏ ဒွေ ယျ(=ပမေယ) ဝိညာနဝါဒ၊ ပတိစ္စသမုပ္ပာဒ၊ ဟေတု(=ဝါဒ) ဝိဇ္ဇာ၊ ပရဝါဒ

ကို ချိုးဖျက်ခြင်းနှင့် ဒဗ္ဗ–ပရမာဏုနှင့် ပတ်သက်သော အယူအဆများကို ဖော်ပြရုံလောက်နှင့်ပင် ကျေနပ်ရောင့်ရဲရပေမည်။

## ဧေယျ (=ပမေယ)အကြောင်း

အစမ်းသပ်ခံသောအရာဝတ္ထုကို ဧေယျဟုခေါ်၏။ ၎င်းဧေယျတို့ကား ၄ ပါးအပြားရှိ၏။

ဘာဝသဘော

အဘာဝသဘော

အတ္ထိသဘော

နတ္ထိသဘော

*(က) ဘာဝ–ဘာဝသည် ၅ မျိုးရှိ၏။*

(၁) သလက္ခဏ (မိမိသဘောအားဖြင့်ဖြစ်သော) ဘာဝ

(၂) သာမညလက္ခဏ (ဇာတိအစရှိသောသဘောအားဖြင့်ဖြစ်သော)ဘာဝ

(၃) သင်္ကေတလက္ခဏ (အမှတ်အသားပြုထားအပ်သော) ဘာဝ

(၄) ဟေတုလက္ခဏ (=ဣဋ္ဌ–အနိဋ္ဌ အစရှိသောအကြောင်းသဘော အားဖြင့် ဖြစ်သော) ဘာဘာဝ

(၅) ဖလလက္ခဏ (=အကျိုးသဘောအားဖြင့်ဖြစ်သော) ဘာဝ

*(ခ) အဘာဝ–အဘာဝလည်း ၅ မျိုးပြား၏။*

(၁) အနုပ္ပန္န(အကြင်ဝတ္ထုသည် ဖြစ်ပေါ်ခြင်းမရှိသေး၊ထို့ကြောင့်) အဘာဝ

(၂) နိရုဒ္ဓ(အကြင်ဝတ္ထုသည် ဖြစ်ပေါ်ပြီး၍ ချုပ်သွားပြီ၊ သို့မဟုတ် ပျက်စီးသွားပြီ၊ ထို့ကြောင့်) အဘာဝ

(၃) အညောည(=နွားသည် မြင်းမဟုတ်၊ မြင်းသည် နွားမဟုတ်၊ ဤကဲ့သို့လျှင် တစ်ခုသည် အခြားတစ်ခုမဟုတ်သောအားဖြင့်ဖြစ်သော) အဘာဝ

(၄) ပရမတ္ထ(မူလသဘောသို့ရောက်သောအခါ) အဘာဝနှင့်

(၅) အစ္စန္တ (=အမြဲမယားကဲ့သို့သော)အဘာဝ

*(ဂ) အတ္ထိသဘော–အတ္ထိသဘောလည်း ၅ မျိုးပြား၏။*

(၁) ပရိနိမ္မန္နလက္ခဏ–အတ္ထိသဘောကား ပရမတ္ထအားဖြင့် ထင်ရှားရှိ

သောအရာတည်း(အသင်္ဂ၏ အလိုအားဖြင့် ဝိညာဉ်၊ ရုပ်ဝါဒီတို့၏ အလို အားဖြင့် မူလရုပ်တရားကဲ့သို့သောအရာ)

(၂) ပရတံတြ လက္ခဏ–အတ္ထိသဘောကား၊ ပတိစ္စသမုပ္ပန္န(ဤတရား ရှိပြီးနောက် ဤတရားဖြစ်၏) အတ္ထိသဘောကိုခေါ်ဆို၏။

(၃) ပရိကပ္ပိတ အတ္ထိသဘောကား၊ သင်္ကေတ(CONVENTION) အစွမ်း ဖြင့် မှတ်အပ်သော အရာတည်း။

(၄) ဝိသေသလက္ခဏအတ္ထိသဘောကား ကာလ၊ ဇာတိ၊ မရဏအစရှိ သည်နှင့် စပ်သဖြင့် မှတ်အပ်သောအရာတည်း။ ၎င်းပြင်

(၅) အဝတ္တဗ္ဗလက္ခဏသဘောကား "ဟုတ်၏" "မဟုတ်ဘူး" ဟု ၂မျိုး ခွဲခြား၍မပြောနိုင်သော အရာတည်း။ (ဗုဒ္ဓအဘိဓမ္မာ၌ ပုဂ္ဂလကို ခန္ဓာတို့မှ တခြားတစ်ပါးဟူ၍လည်း မဆိုနိုင်၊ တစ်ခုတည်းသော ဟူ၍လည်း မဆိုနိုင်သကဲ့သို့တည်း)

*(ဃ) နတ္ထိသဘော–နတ္ထိသဘောလည်း ၅ မျိုးပြား၏။*

(၁) ပရမတ္ထသဘောအားဖြင့် ဖြစ်သော နတ္ထိသဘော

(၂) သီးခြားလက္ခဏာအားဖြင့် ဖြစ်သော နတ္ထိသဘော

(၃) အချင်းခပ်သိမ်းနတ္ထိသဘော

(၄) သာမညသဘောအားဖြင့် ဖြစ်သော နတ္ထိသဘောနှင့်

(၅) မဆိုနိုင်သော သဘောဖြင့် ဖြစ်သော နတ္ထိသဘော

ပရမတ္ထအားဖြင့် ဘာဝ အဘာဝ၊ အတ္ထိသဘော၊ နတ္ထိသဘောကို ဖွင့် ဆိုရန် အသင်္ဂသည် "ပရမတ္ထဂါထာ"အမည်ဖြင့် မဟာယာနသုတ်များ၏ ဂါထာပေါင်းများစွာကို ထုတ်ဆောင်ခဲ့၏။

*၎င်းဂါထာများတွင်*

(၁) ဝတ္ထုတို့၏ အတွင်း၌ တစ်စုံတစ်ခုသော ထာဝရသဘောကို ငြင်း ဆန်လျက် ၎င်းဝတ္ထုများကို သုည(=အနှစ်မဲ့)ဟု ခေါ်ဆို၏။ ဗာဟိယဝတ္ထု များနှင့်စိတ်၌ဖြစ်သောခဏိက(ခဏတိုင်းပျက်စီးနေသော အရာများ)ဟု ခေါ် ဆိုခဲ့လေသည်။

(၂) တစ်စုံတစ်ခုသော (ဣဿရစသည့်)အပြုသမားနှင့် အဖျက်သမား ဟူ၍ မရှိ။ စင်စစ်သော်ကား၊ ကမ္ဘာ၏ ဝတ္ထုအားလုံး သဘောအားဖြင့် ပျက်စီး

တတ်ကုန်၏။ ရုပ်(MATTER)ဝေဒနာ၊ သညာသင်္ခါရနှင့် ဝိညာဉ်၊ ဤခန္ဓာ ၅ ပါးတို့တွင် ထာဝရအရိပ်အယောင်ကား မှောက်မှားမှုသက်သက်သာတည်း။ တကယ့်သဘောအားဖြင့် ၎င်းခန္ဓာငါးပါးသည် ရေမြှုပ်၊ ရေပွက်၊ တံလျှပ်၊ ငှက် ပျောတုံးနှင့် မျက်လှည့်ကဲ့သို့ အနှစ်သာရမရှိကြကုန်။

*(ယောဂါစာရဘူမိ– စိန္တာမယီဘူမိ ၁၁)*

"အဇ္ဈတ္တိက(စိတ်လောက)သည် သုညဖြစ်၏။ ဗာဟိယလည်း သုညဖြစ်၏။ သုညသဘောကို ခံစားသော တစ်စုံတစ်ခု(အတ္တ)လည်းမရှိ။ ၃။

လောကပိုင်(တစ်စုံတစ်ခုသော) အတ္တဟူသည်ပင်မရှိ။ (ဤအတ္တသဘောကို ကြံဆခြင်းကား) ဖောက်ပြန်သော အကြံအဆသာတည်း။ ဤလောက၌ တစ်စုံတစ်ခုသော အတ္တိသဘော၊ သို့မဟုတ် အတ္တသည် မရှိ။ ဤ(အားလုံးသော) တရား(–အရာဝတ္ထု)တို့သည် မိမိ မိမိတို့၏ အကြောင်းကြောင့်ဖြစ်ကုန်၏။ ၄။

ထိုအားလုံးသောသင်္ခါရ(ဖြစ်ပေါ်သောအရာဝတ္ထု) တို့သည် ခဏိကဖြစ်ကုန်၏။ ၅။

သင်္ခါရတရား အားလုံးအား ဖြစ်ပေါ်အောင် ပြုလုပ်ပေးသော အခြားတရားတစ်ခုမရှိ။ ၎င်းတရားများ ကိုယ်တိုင်လည်း ဖြစ်ပေါ်ကြသည်မဟုတ်။ အကြောင်းတရားဖြစ်သည်ရှိသော် အဟောင်းမဟုတ်။ လုံးလုံးအသစ်အသစ်ဖြစ်သော တရားများ ဖြစ်ပွားကြ၏။ ၆။

သင်္ခါရတရားများအား ဖျက်ဆီးပေးသော တရားတစ်ခု မရှိ။ ၎င်းတရားများ ကိုယ်တိုင်လည်း ပျက်စီးကြသည်မဟုတ်။ ပစ္စည်း(ရှေးအကြောင်း) ရှိသော် (ဤတရားများ) ဖြစ်ပေါ်ကုန်၏။ ဖြစ်ပေါ်ကုန်သော တရားများလည်း သူ့သဘောအတိုင်း ခဏမလပ်ပျက်စီးတတ်ကုန်၏။ ၉။

ရုပ်သည် အမြှုပ်တုံး အမြှုပ်ခဲနှင့်တူ၏။ ဝေဒနာသည် ရေပွက်နှင့် တူ၏။ ၁၇။

သညာသည် တံလျှပ်နှင့်တူ၏။ သင်္ခါရကား ငှက်ပျောတုံးနှင့်တူ၏။ ဝိညာဉ်ကား မျက်လှည့်နှင့်တူ၏ဟု နေမျိုးနွယ် (ဗုဒ္ဓ) က ဟောတော်မူခဲ့၏။ ၁၈။

ဝိညာဏဝါဒ

(က) အာလယ ဝိညာဉ်အတွင်း (အဗ္ဗုဿရ)၊ အပ(ဇာဟိယ)၊ သက်ရှိ (စေတန)၊ သက်မဲ့(ဇဠ) ရှိသမျှ လောကကား ဝိညာဉ်၏ အကျိုးသာတည်း။ ဝိညာဉ်အစုအဝေးကို အာလယဝိညာဉ်ခေါ်၏။ ၎င်းအာလယဝိညာဉ်မှ လှိုင်းတံပိုးကဲ့သို့ လောကနှင့် ၎င်းလောကရှိ အရာဝတ္ထုအားလုံးဖြစ်ပေါ်ကြ၏။

ကမ္ဘာဝိညာဉ်၊ သို့မဟုတ် အာလယဝိညာဉ်မှ ရုပ်လောကဖြစ်ပေါ်လာသကဲ့သို့ ထို့အတူ ဝေယတ္တိဝိညာဉ်(= ပဝတ္တိဝိညာဉ်)တည်းဟူသော ပဋ္ဌဝိညာဉ်နှင့် ခြောက်ခုမြောက် မနောဝိညာဉ်ပေါ်၏။

(ခ) ပဋ္ဌဝိညာဉ်–က္လန္ဓေတို့၏ တည်ရာမှ ဖြစ်ပေါ်လာသော ဝိညာဉ် (=စေတနာ)သည် က္လန္ဓိယဝိညာဉ်ဖြစ်၏။ မိမိ မိမိတို့၏ တည်ရာဖြစ်ကုန်သော စက္ခုအစရှိသည်တို့အားလျော်စွာ က္လန္ဓိယဝိညာဉ်လည်း ၅ မျိုးပြား၏။

စက္ခုဝိညာဉ် ။ သဘာဝ–စက္ခုတည်းဟူသော တည်ရာမှီရာ (အထောက်အကူ)ဖြင့် ရအပ်သော ဝိညာဉ်သည် စက္ခုဝိညာဉ်ဖြစ်၏။ ဤကား စက္ခုဝိညာဉ်၏သဘာဝ(=သရုပ်)တည်း။

အာသယ–စက္ခုဝိညာဉ်၏ အာသယ(တည်ရာမှီရာ)ကား ၃ မျိုးပြား ၏။ စက္ခုကား ဖြစ်လာအတူ ပျောက်သွားအတူဖြစ်၏။ ထို့ကြောင့်ပင် သဟဘူအာသယဖြစ်၏။ ဝိညာဉ်(အစဉ်)၏နောက်၌ တည်ရာမှီရာဖြစ်၏။ ထို့ကြောင့်ပင် သမနန္တရအာသယဖြစ်၏။ ရုပ်က္လန္ဓေ၊ မနနှင့် အခြားကမ္ဘာလောကကြီးဖြစ်ပွားပေါ်ပေါက်သောနေရာသည် အာလယဝိညာဉ်ခေါ် သဗ္ဗဗီဇကအာသယဖြစ်၏။

ဤအဆိုပါ အာသယ ၃ မျိုးအနက် စက္ခုသည် ရုပ်ဖြစ်သဖြင့် ရူပီအာသယဖြစ်၏။ ကျန်သော အာသယများကား အရူပီအာသယများဖြစ်ကြ၏။

အာလမ္ဗန သို့မဟုတ် ဝိသယ(အာရုံ) များ–ဝဏ္ဏ(အရောင်) သဏ္ဌာန (အသွင်) ဝိညတ္တိ(အပြုအမူ)–

အရောင်များ–အညို၊ အဝါ၊ အနီ၊ အဖြူ၊ အရိပ်၊ နေရောင်၊ အလင်း၊ အမှောင်၊ ကြည်လင်ခြင်း၊ မှိုင်းမှုန်ခြင်း၊ မြူနှိုး၊ ဆီးနှင်းနှင့် ကောင်းကင်။ အရှည်၊ အတို၊ အလုံး၊ အဝန်း၊ အသိမ်အမွေ၊ အထူအထဲ၊ အတွန့်၊ အပြန့်၊

အမြင့်နှင့် အနိမ့်။ ဝိညတ္တိ-ယူခြင်း၊ လွှတ်ပစ်ခြင်း၊ စုရုံးခြင်း၊ ချဲ့ ဖြန့်ခြင်း၊ ရပ်ခြင်း၊ လျှောက်ခြင်း အစရှိသည်။

သဟာယ(အပေါင်းအဖော်)စက္ခုဝိညာဉ်နှင့်အတူတကွဖြစ်၍ အာရုံတူသော စေတသိတ်တရားများ။

ကမ္မ(အလုပ်) ၆ မျိုး

(၁) သဝိသယာဝလမ္ဗီ-မိမိ၏အာရုံကိုအာရုံပြုခြင်း

(၂) သလက္ခဏ-မိမိလက္ခဏာကို ဆောင်ခြင်း

(၃) ဝတ္တမာနကာလ-လက်ငင်းဖြစ်နေခြင်း

(၄) ဧကက္ခဏ-တစ်ခဏဖြစ်ခြင်း

(၅) သုဒ္ဓ(ကုသိုလ်) အသုဒ္ဓ မနောဝိညာဉ်၏ ဖြစ်ပေါ်ခြင်း ထိုနှစ်မျိုးသောအနေအားဖြင့် အစဉ်လိုက်ခြင်း။

(၆) ဣဋ္ဌ၊ အနိဋ္ဌအကျိုးကိုခံယူခြင်း

သောတအစရှိသော ဝိညာဉ်များ-စက္ခု ဝိညာဉ်အလားတူပင် သောတ၊ ဃာန၊ ဇိဝှာနှင့် ကာယဣန္ဒြေတို့၏ ဣန္ဒြိယဝိညာဉ်တို့သည် ဖြစ်ပေါ်ကုန်၏။

**(ဂ)** မနော ဝိညာဉ်-ဤကား ခြောက်ခုမြောက် ဝိညာဉ်တည်း။ ၎င်း၏ သဘာဝ စသည်တို့ကား

သဘာဝ (၁) စိတ်၊ မနောဝိညာဉ်တို့သည် မနောဝိညာဉ်သဘော သရုပ်တို့တည်း။ ဗီဇအားလုံးရှိသော အာသယသဘောသရုပ်ကား-အာလယ ဝိညာဉ်ဖြစ်သော စိတ်တည်း။ (၂) မနသည် အမြဲတမ်း အဝိဇ္ဇာ၊ ငါစွဲဒိဋ္ဌိ၊ ငါတကောမာန်နှင့် တဏှာ(=သျှိုပန်ဟာရ်၏ တဏှာ) ဤ ၄မျိုးသော ကိလေသာများ(စိတ်အညစ်အကြေးများ) နှင့် ယှဉ်စပ်နေ၏။(၃) ဝိညာဉ်သည် အာရုံကိုအမြဲယူ၏။

အာသယ မနသည် သမနန္တရ အာသယဖြစ်၏။ စက္ခုအစရှိသော ဣန္ဒြေဝိညာဉ်များဖြစ်ပေါ်ပြီးနောက် အခြားမဲ့၌ ဤမနောသည်ပင် ဝိညာဉ်တို့၏ တည်ရာမှီရာဖြစ်၏။ ဗီဇအာသယကား ဗီဇအားလုံးတို့ သိမ်းသိမ်းဆည်းထားသော အဆိုပါအာလယဝိညာဉ်ပင်တည်း။

အာလမ္ဗ-မန၏ အာလမ္ဗန(အာရုံ)ကား ဣန္ဒြေငါးပါးတို့၏ ပဥ္စ

ဝိညာဉ်ပင်တည်း။ ၎င်းကို ဓမ္မာရုံဟုလည်း ခေါ်၏။

မန၏အဖော်ကားများစွာရှိ၏။ ၎င်းတို့အနက် အချို့ကား မနသိကာရ၊ ဖဿ (CONTAC) ဝေဒနာ၊ သညာ၊ စေတနာ၊ သတိ၊ ပညာ၊ သဒ္ဓါ၊ လဇ္ဇာ၊ နိလ္လဇ္ဇတာ၊ အလောဘ၊ အဒေါသ၊ အမောဟ၊ ပရက္ကမ၊ ဥပေက္ခာ၊ အဟိံသာ၊ ရာဂ၊ သန္နေဟ၊ ကောဓ၊ ဣဿာ၊ သင့တာ၊ ဟိံသာ အစရှိသော စေတသိက်တရားများ။

ကမ္မ-ပထမ မိမိသူတစ်ပါးတို့၏ အာရုံနှင့်စပ်သော အပြုအမူသည် အစဉ်အတိုင်း ခြောက်ပါးသော အခြင်းအရာတို့ဖြင့် ဖြစ်ပေါ်၏။

(၁) မန၏ ပထမအပြုအမူကား အာရုံ၏သာမည သရုပ်ကို သိခြင်း။

(၂) တစ်ဖန် ကာလသုံးပါးကို သိခြင်း။

(၃) ခဏအစဉ်ကိုသိခြင်း။

(၄) ပဝတ္တိ(ဝါ) အနုဝတ္တိ(အစဉ်အဆက်ဖြစ်သော) သန့်ရှင်း-မသန့်ရှင်းသော ဓမ္မသဘော၊ ကမ္မသဘောကို သိခြင်း။

(၅) တစ်ဖန် ဣဋ္ဌ-အနိဋ္ဌအကျိုးကို ခံယူခြင်း

(၆) အခြားဝိညာဉ်အပေါင်းစုအား ထကြွစေခြင်း

အခြားတစ်နည်းအားဖြင့် ယူသည်ရှိသော် မန၏ အထူးသဖြင့်သော (ဝိသေသိက)ကံများလည်း ရှိကြ၏။

(၁) အာရုံကိုကြံဆခြင်း

(၂) အာရုံကို စူးစိုက်စွာ တွေးကြံခြင်း

(၃) တွေဝေခြင်း

(၄) ရှူးသွပ်ခြင်း

(၅) အိပ်ပျော်ခြင်း

(၆) နိုးခြင်း

(၇) မိန်းမောခြင်း

(၈) မိန်းမောရာမှ ပြန်လည်လာခြင်း

(၉) ကာယကံ၊ ဝစီကံမှုပြုခြင်း

(၁၀) ရာဂကုန်ခန်းခြင်း
(၁၁) ရာဂကုန်ခန်းမှုကို စွန့်ပစ်ခြင်း
(၁၂) ကောင်းသောတရားများ၏ အမြစ်ကိုဖြတ်ခြင်း
(၁၃) ကောင်းသောတရားများ၏ အမြစ်ကိုဆက်ခြင်း
(၁၄) ကိုယ်ကာယကို စွန့်ခြင်း(စုတေခြင်း) နှင့်
(၁၅) ကိုယ်ကာယတွင် ရောက်လာခြင်း(ပတိသန္ဓေနေခြင်း)

အဆိုပါအလုပ်များအနက် အချို့သောလုပ်ငန်းများဖြစ်ပေါ်မှုနှင့် ပတ်သက်၍ အသင်္ဂက ရေးသားခဲ့၏။

"ရှေးကံများကြောင့် သို့မဟုတ် ကိုယ်ကာယ ဓာတ် ၄ ပါး မညီညွတ်ခြင်း၊ ကြောက်ခြင်း၊ နာကြည်းသောနေရာတွင် ထိခိုက်ခြင်း၊ ဘုတ်ပြိတ္တာ ပူးဝင်ခြင်းကြောင့် ရူးသွပ်သွားတတ်၏။

ကိုယ်ကာယအားနည်းနေခြင်း၊ အလုပ်ပင်ပန်းခြင်း၊ အစာလေးခြင်း စသော အကြောင်းတို့ကြောင့် ငိုက်မျဉ်းခြင်းဖြစ်တတ်၏။

လေသည်းခြေပျက်ခြင်း၊ ဓာတ်သွားလွန်ခြင်း၊ သွေးထွက်လွန်ခြင်းတို့ကြောင့် မိန်းမောသွားတတ်၏"

## မနော၏စုတိနှင့်ပတိသန္ဓေ

ဗုဒ္ဓ၏ အဘိဓမ္မာသည် ခဏမလပ်ပြောင်းလဲပျက်စီးတတ်သော မနမှတစ်ပါး အခြားမည်သည့်နိစ္စဇီဝအတ္တကိုမှ လက်မခံပေ။ သေခြင်း၏အဓိပ္ပာယ်ကား တစ်ခုသောကိုယ်ကာယအလျဉ် (=ကိုယ်ကာယလည်း ခဏမလပ် ပျက်စီးပြောင်းလဲသောသဘောရှိသဖြင့် ဝတ္ထုမဟုတ်၊ အစဉ်သာဖြစ်၏) မှ တစ်ခုသော မနအလျဉ် (မနသန္တတိ) ၏ ရွှေ့လျောခြင်း၊ ထို့အတူ ပတိသန္ဓေ၏ အဓိပ္ပာယ်ကား တစ်ခုသောမနအလျဉ်၏ အခြားတစ်မူသော ကိုယ်ကာယ အလျဉ်၌ ဖြစ်ပေါ်လာခြင်းပင်ဖြစ်၏။

*စုတိ(မစ္စု)* မစ္စု–သေခြင်းသည် အကြောင်း ၃ ပါးကြောင့်ဖြစ်၏။ သက်တမ်းကုန်ခြင်း၊ ကံစွမ်းကုန်ခြင်းနှင့် ကိုယ်ကာယ၏ မမျှတသော အပြုအမူ၊ အဓိပ္ပာယ်ကား အစားအစာ၌ အတိုင်းအရှည်အမှတ်အသားမရှိခြင်း၊ သင့်တင့်သော အစားအစာ၌ အမှတ်အသားမရှိခြင်း၊ ဆေးဝါးကို မမှီဝဲခြင်း၊

အခါမဲ့သွားလာခြင်း၊ မေထုန်မှီဝဲလွန်ခြင်းများတည်း။

သေခါနီးသောကာလ၌ အကုသိုလ်အားကြီးသောသူ၏ကိုယ်ကာယတွင် နှလုံးသားမှအထက်ပိုင်းပထမအေးသွား၏။ ကုသိုလ်အားကြီးသောသူအား အောက်ပိုင်း ပထမ အေး၏။ ထို့နောက်မှ တစ်ကိုယ်လုံးအေး၏။

(အန္တရာဘ၀) – ကိုယ်ကာယတစ်ခုကိုစွန့်၍ အခြားကိုယ်ကာယတစ်ခုတွင်ဖြစ်သည်အထိ ကြားကာလ၌ ဖြစ်သော မန (=ဇီ၀) ကို အန္တရာဘ၀၊ ဂန္ဓဗ္ဗ၊ မနောမယဟု ခေါ်ကြ၏။ ဖြစ်ရမည့်ကိုယ်ကာယအတိုင်း အန္တရာဘ၀၏ အသွင်သည်ဖြစ်၏။ ၎င်းအန္တရာဘ၀သည် သူ၏သွားလမ်း၌ တစ်သတ္တာဟ (=၇ ရက်) ကြာအောင် တည်နေနိုင်၏။

*ဥပ္ပတ္တာ (=ဓာတိ)* သေခါနီးကာလ၌ မနသည် မိမိ၏ ကောင်းဆိုး၂တန် ကံများကို နိမိတ်အဖြစ် မြင်လာ၏။ ထို့နောက် နိမိတ်မြင်သည့် အလားတူပင် အန္တရာဘ၀၌ဖြစ်သောရုပ်ကို ဆောင်၏။ မန၏ တစ်စုံတစ်ခုသော ကိုယ်ကာယ၌ဖြစ်ပေါ်လာရန်အတွက် အကြောင်း ၃ မျိုးလိုအပ်၏။

(၁) အမိရာသီဥတုလာခြင်း

(၂) အဖ၏မျိုးစေ့ (သုက်) ရောက်ခြင်း

(၃) ဂန္ဓဗ္ဗ (အန္တရာဘ၀) ရှေးရှုထင်ခြင်း

၎င်းပြင် မိန်းမကိုယ်၊ သုက်နှင့်ကံ၏ အပြင်အနှောင့်အယှက်မရှိခြင်း။

(ကိုယ်ဝန်၌ ဣတ္ထိလိင် ပုလ္လိင်ကွဲပြားခြင်း) အန္တရာဘ၀သည် အမိ အဖ ၂ ပါး၏ မေထုန်မှီဝဲခြင်းကို ကြည့်နေ၏။ ထိုအခါ အကယ်၍ မိန်းမဖြစ်မည့်သူဖြစ်က အန္တရာဘ၀သည် ယောကျ်ား၌ တပ်မက်၏။ အကယ်၍ ယောကျ်ားဖြစ်မည့်သူမှန်က မိန်းမ၌ တပ်မက်၏။

ကိုယ်ဝန်စွဲတည်ခြင်း– မေထုန်ကိစ္စပြီးသည့်နောက် ပျစ်ချွဲသော ဗီဇ (သုက်) လွှတ်ထွက်၏။ သွေးဥကလေးများလည်း လွှတ်ထွက်၏။ ဗီဇနှင့် သွေးဥကလေး ၂ မျိုးပေါင်းသည် အမိ၏ မိန်းမကိုယ်အတွင်း၌ စုဝေးရောယှက်၍ အစုအပေါင်းတစ်ခုအဖြစ်တည်ရှိကာ ပွက်ထ၍ အေးသွားသောအခါ နို့ကဲ့သို့ တည်တံ့နေလေ၏။ ဤအစုအပေါင်းထဲ၌ပင် ဗီဇအားလုံးကို မိမိ၏ အတွင်းသို့သွတ်သွင်းထားတတ်သော အာလယဝိညာဉ်သည် သက်ဝင်လေ၏။ အန္တရာဘ၀သည် ၎င်းအစုအပေါင်းသို့လာ၍ ဆက်စပ်နေလေ၏။ ၎င်း

ကိုပင် ကိုယ်ဝန်၏ ကလလရေကြည်အခိုက်အတန့်ဟု ခေါ်ကြ၏။

ကလလရေကြည်တွင် ဝိညာဉ်စွဲတည်ရာဌာနသည်ပင် ဟဒယ၏ တည်ရာဌာနဖြစ်၏။

(၁) ကလလရေကြည်အခိုက်အတန့်မှ ရှေ့သို့ဆက်လက်၍ ကိုယ်ဝန်သည် နောက်ထပ်ခုနစ်ခုသော အခိုက်အတန့်များဆောင်ယူ၏။

(၂) အဗ္ဗုဒ–အမြှုပ်

(၃) ပေသိ–သားတစ်

(၄) ဃန–အခဲ

(၅) ပသာဒ–ခက်မ

(၆) ဆံ–အမွေး၊ ခြေသည်း–လက်သည်း

(၇) မျက်စိ၊ နား၊ နှာ၊ လျှာ၊ အရေတည်းဟူသော ဣန္ဒြေငါးပါး အခိုက်အတန့်နှင့်

(၈) ဗျည်း (လိင်) အခိုက်အတန့်များ

၎င်းတို့အနက် အမြှုပ်အခိုက်အတန့်၌ ကိုယ်ဝန်သည် ဒိန်ချဉ်ကဲ့သို့ဖြစ်၏။ ၎င်းသည် အသားအခိုက်အတန့်မှာပင် ရှိသေး၏။ ပေသိ–သားတစ်သည် အသားပျော့ကဲ့သို့ဖြစ်၏။ အတန်ငယ်ခဲသွားသောအခါ ဃနအခိုက်အတန့်ဖြစ်၏။ အခက်အလက်ကဲ့သို့သော လက်ခြေ စသည်ပေါ်ပေါက်လာသောအခါ ပသာဒအခိုက်အတန့်ဖြစ်၏။

အရောင်စသည်–အကုသိုလ်ကံကြောင့် သို့မဟုတ် အမိက အပြာ အငန် အရသာလွန်သော အစားအစာကို စားသဖြင့် ကလေး၏ဆံပင်တွင် အရောင် အမျိုးမျိုးဖြစ်၏။ ကလေး၏ဆံပင် မည်းခြင်း၊ ဖြူရော်ခြင်းဖြစ်ရာတွင် ရှေးကံ အပြင် အောက်ပါအကြောင်းများရှိသေးသည်။

အကယ်၍ အမိသည် အပူလွန်၊ အစပ်လွန်နှင့် နေပူအစရှိသည်ကို မှီဝဲသော် ကလေးမည်းနက်လိမ့်မည်။ အကယ်၍ အလွန်အေးသောတိုက် ခန်း၌ နေမူ ကလေးဖြူလိမ့်မည်။ အလွန်ပူသောအစာကိုစားလျှင် ကလေးနီလိမ့်မည်။ ကလေး၏အရေပေါ်တွင် ပွေး၊ နူနာ အစရှိသော ဖောက်ပြန်ခြင်းများသည် အမိ မေထုန်မှီဝဲများခြင်းကြောင့် ဖြစ်၏။ အမိ အပြေးအလွှား၊ အခုန်၊ အပေါက်များ ခြင်း၊ ရေကူးများခြင်းကြောင့် ကလေး၏ ကိုယ်အင်္ဂါအစိတ်အပိုင်းများ ဖောက်

ပြန်ဆိုးဝါး၏။

သမီးဖြစ်လျှင် ကိုယ်ဝန်သည် ဝမ်းဗိုက်၏လက်ဝဲဘက်တွင် တည်ရှိ၏။ သားဖြစ်လျှင် လက်ယာဘက်တွင် တည်ရှိ၏။ မွေးဖွားသောအခါ အမိ၏ဝမ်းတွင် သည်းမခံနိုင်အောင် ဒုက္ခပေးသောလေသည် ဖြစ်ပေါ်လာ၏။ ထိုလေသည် ကိုယ်ဝန်ကို ဦးခေါင်းကား အောက်ဘက်၊ ခြေကား အထက်သို့ လည်သွားအောင် အပြင်းနှင်လေ၏။

## အနိစ္စဝါဒနှင့် ပတိစ္စသမုပ္ပာဒ်

"ဤသင်္ခါရတရားအားလုံးအား ဖြစ်ပေါ်အောင် ပြုလုပ်ပေးသော အခြားတရားတစ်ခုမရှိ၊ ၎င်းတရားများကိုယ်တိုင်လည်း ဖြစ်ပေါ်ကြသည်မဟုတ်။ အကြောင်းတရားဖြစ်သည်ရှိသော် အဟောင်းမဟုတ်။ လုံးလုံးအသစ်အသစ်ဖြစ်သောတရားများဖြစ်ပွားကြ၏။ အကြောင်းရှိသော် သင်္ခါရတရားများဖြစ်ကုန်၏။ ထို့နောက် ဖြစ်ပေါ်ကုန်ပြီး၍ သဘောအတိုင်း ခဏမလပ်ပျက်စီးကုန်၏"

မဟာယနသုတ်များ၏ အဆိုပါဂါထာများဖြင့် အသင်္ဂကဗုဒ္ဓအဘိဓမ္မာ၏ မူလသဘောတရားဖြစ်သော အနိစ္စဝါဒ သို့မဟုတ် ပတိစ္စသမုပ္ပာဒ်ကို ဖွင့်ဆိုတော်မူခဲ့၏။ ခဏိကအနက်ကိုယူ၍ ပတိစ္စသမုပ္ပာဒ်ကို ဖွင့်ဆိုတော်မူလျက် အသင်္ဂက ခဏိကဝါဒသဒ္ဒါဖြင့် ပတိစ္စသမုပ္ပာဒ်ကို ဝန်ခံတော်မူခဲ့၏။

ပတိစ္စသမုပ္ပာဒ်ကို အနက်ပေးလျက် အသင်္ဂကက ဆိုခဲ့၏။ ပတိစ္စ (ဝတ္ထုပစ္စည်းတစ်ခုပြီးဆုံးသွားပြီးနောက်) သမုပ္ပာဒ(အခြားဝတ္ထုပစ္စည်းတစ်ခု၏ ဖြစ်ပေါ်လာခြင်း) သည် "ပတိစ္စသမုပ္ပာဒ်" ဖြစ်၏။ ပစ္စယ (ဝါ) အလျဉ်သဘောရှိသော အစ္စယ (=ပျက်စီးခြင်း) နှင့်တကွ ဖြစ်ပေါ်မှုသည် ပတိစ္စသမုပ္ပာဒ် ဖြစ်၏။ ၎င်းကား ခဏိကအနက်ကိုယူ၍ဖြစ်၏။ တစ်နည်းသော်ကား ပစ္စယ (ဝါ) အတိတ (ပြီးဆုံးသွားသော အရာဝတ္ထု) ကြောင့် မိမိ၏အလျဉ်တွင်ဖြစ်ပေါ်ခြင်း "ဤတရားဖြစ်ပြီးနောက် ဤတရားဖြစ်၏" "ဤတရားဖြစ်သည်ရှိသော် ဤတရားဖြစ်၏။ အခြားနေရာမရှိ" ပထမအရာဝတ္ထုပျက်စီးကျေပြုန်းသွားပြီးနောက် ဖြစ်ပေါ်ခြင်းဟူသည် ပတိစ္စသမုပ္ပာဒ်အနက်ဖြစ်၏။ တစ်နည်းသော်ကား အတိတ်ကာလဒ္ဒ ပစ္စယ (ပြီးဆုံးခြင်း) ဖြစ်သွားသောအခါ

တစ်ပါတည်း ထိုအလျဉ်၌ပင် ဖြစ်ပေါ်လာခြင်းသည် ပတိစ္စသမုပ္ပာဒ်ဖြစ်၏။

ထို့နောက်လည်း–

ပတိစ္စသမုပ္ပာဒ်သည် အဘယ်နည်း။ နိဿတ္တ(=အနတ္တ)အနက်ရှိ၏။ နိဿတ္တဖြစ်သဖြင့် အနိစ္စဟူသော အနက်လည်းရှိ၏။ အနိစ္စဖြစ်လျှင်ဖြစ်သွားသော အလျဉ်အနက်ရှိ၏။ သီးခြားကင်းလွတ်သဖြင့် နိရီဟ(အားထုတ်မှုကင်းခြင်း)အနက်လည်းရှိ၏။ နိရီဟဖြစ်သဖြင့် ကျိုး–ကြောင်း (ဟေတု–ဖလ)တွဲစပ်မှုကို ပိုင်းဖြတ်သောအနက်လည်းရှိ၏။ ကျိုး–ကြောင်း တွဲစပ်မှုကို ပိုင်းဖြတ်သဖြင့် အလျော်ဖြစ်သော ကျိုး–ကြောင်း ဖြစ်စဉ်ဟူသော အနက်ရှိသဖြင့် ကံ၏သဘောဟူသော အနက်လည်းရှိ၏။

အနိစ္စ၊ ဒုက္ခ၊ အနတ္တဟူသော အနက်ရှိသဖြင့် ဘုန်းတော်ကြီးသခင်(ဗုဒ္ဓ)က ပတိစ္စသမုပ္ပာဒ်နှင့်စပ်လျဉ်း၍ "ပတိစ္စသမုပ္ပာဒ်သည် နက်နဲ၏" ဟု ဟောတော်မူ၏။

"(အရာဝတ္ထုတို့သည်) ခဏတိုင်း အသစ်အသစ်သော သဘောအားဖြင့် ဘဝအလျဉ်ကိုဖြစ်စေ၏။ ပတိစ္စသမုပ္ပာဒ်သည် ခဏမလပ် ပျက်စီးတတ်၏"

## ဟေတုဝိဇ္ဇာ

အသင်္ဂသည် ဝိဇ္ဇာ (ဉာဏ်) ကို ၅ မျိုးပြား၏ဟု အသိအမှတ်ပြု၏။

(၁) အဇ္ဈတ္တဝိဇ္ဇာ–၎င်းတွင် ဗုဒ္ဓဟောကြားအပ်သော သုတ္တ၊ နယနှင့် မာတိကာ (=အဘိဓမ္မာ) ပါ၏။ ပိဋကသုံးပုံနှင့်၎င်းတွင် ဖွင့်ပြအပ်သော အကြောင်းအရာများပါဝင်၏။

(၂) စိကိစ္ဆာ ဝိဇ္ဇာ–သို့မဟုတ် ဝေဇ္ဇကသျှတ္တရာ (ဆေးကျမ်းအတတ်)

(၃) ဟေတုဝိဇ္ဇာ၊ သို့မဟုတ် တက္ကသျှတ္တရာ (တက်ကျမ်းအတတ်)

(၄) သဒ္ဒဝိဇ္ဇာ–၎င်းဝိဇ္ဇာဖြင့် ဓမ္မ၊ အတ္တ၊ ပုဂ္ဂလ (=ဇီဝ)၊ ကာလ၊ သင်္ချာနှင့် သဒ္ဓိလာဓိကရဏ (=ဗျာကရဏ်းကျမ်း) ဆိုင်ရာအသိဉာဏ်ကိုရ၏။

(၅) သိပ္ပကမ္မဋ္ဌာနဝိဇ္ဇာ (=သိပ္ပသျှတ္တရာ–လက်မှုပညာ)။

ဟေတုဝိဇ္ဇာကို အတန်ငယ်အကျယ်ချဲ့၍ ဖွင့်ပြလိုသော အသင်္ဂသည် ၎င်းဟေတုဝိဇ္ဇာကို ၆ ပိုင်းခွဲခြားထား၏။

(က) ဝါဒ
(ခ) ဝါဒ– အဓိကရဏ
(ဂ) ဝါဒ– အဓိဋ္ဌာန
(ဃ) ဝါဒ– အလင်္ကာရ
(င) ဝါဒ– နိဂ္ဂဟ
(စ) ဝါဒေ– ဗဟုကရ (ဝါဒအား ကျေးဇူးများသော)

အကြောင်းတရားများ

**(က) ဝါဒ**– ဝါဒသည် ၆ မျိုးပြား၏။

– ဝါဒ– နှုတ်မှ မြွက်ဆိုအပ်သောစကားသည် ဝါဒမည်၏။

– ပဝါဒ– လူပြောသူပြောသည် ပဝါဒမြည်၏

– ဝိဝါဒ– ကာမဂုဏ်စည်းစိမ်များကို ရခြင်း၊ ဆုံးပါးခြင်းနှင့်ပတ် သက်၍ တစ်နည်း၊ အယူအဆနှင့်ပတ်သက်၍ အချင်းချင်းဆန့်ကျင်ငြင်းခုန်ခြင်း (စကားစစ်ထိုးခြင်း) သည် ဝိဝါဒမည်၏။

– အပဝါဒ– ကဲ့ရဲ့ခြင်း

– အနုဝါဒ– ဓမ္မကြောင်းနှင့် ပတ်သက်၍ ဖြစ်ပေါ်လာသော ယုံမှားတွေးတောမှုများကို ကင်းဝေးသော ပြောဆိုအပ်သောစကားသည် အနုဝါဒ မည်၏။

– အဝဝါဒ–သဘောဉာဏ်ပေါ်လာအောင် ပြောသောစကားသည် အဝဝါဒမည်၏။

၎င်းတို့အနက် ဝိဝါဒနှင့်အပဝါဒကို ပယ်စွန့်အပ်၏။ အနုဝါဒနှင့် အဝဝါဒကို မှီဝဲအပ်၏။

**(ခ) ဝါဒ–အဓိကရဏ**–ဝါဒနှင့်စပ်ယှဉ်သောနေရာသည် ၂ မျိုးရှိ၏။ ရာဇာ၊ သို့မဟုတ် အရည်အချင်းပြည့်ဝသော အမျိုးသားများအစည်းအဝေးနှင့် ဓမ္မကြောင်းနှင့်စီးပွားရေးတွင် လိမ္မာကျွမ်းကျင်သော ဗြာဟ္မဏများ သို့မဟုတ် သမဏများ၏ ပွဲသဘင်။

**(ဂ) ဝါဒ––အဓိဋ္ဌာန**–ဝါဒဆိုင်ရာအဓိဋ္ဌာန(မုချအကြောင်း)ကား သာဓ္ယ ၂ ပါးနှင့် သာဓကကို ပြီးမြောက်စေရန် အသုံးပြုအပ်သော သာဓန ၈ ပါးတည်း။

၎င်းတို့အနက် သာဓက၏ ဘာဝ၊ အဘာဝသဘော(=သရုပ်)နှင့် နိစ္စ–အနိစ္စ ရုပ်–နာမ်အစရှိသော အထူးကို အကြောင်းပြု၍ သာဓကသည် ၂ မျိုးပြား၏။

(သာဓန ၈ ပါး)သာချဝတ္ထုကို ပြီးမြောက်စေကြောင်းဖြစ်သော သာဓနသည် အောက်ပါအတိုင်း ၈ မျိုးပြား၏။

(၁) ပတိညာ–သဘာဝ၊ ဝိသေသဟူ၍ ၂ မျိုးပြားသောသာဓကကိုယူ၍ (ဝါဒီ–အဆိုသမား၊ ပတိဝါဒီ–အချေသမားများ၏) မိမိဘက်က တင်ပြပြောဆိုချက်သည် ပတိညာမည်၏။ အဆိုပါ ပတိညာသည် ကျမ်းဂန်အလာကို လက်ခံခြင်းအားဖြင့်သော်လည်းကောင်း၊ ကိုယ်ပိုင်ဉာဏ်အားဖြင့်သော်လည်းကောင်း၊ သူတစ်ပါးအား ကဲ့ရဲ့ရှုတ်ချခြင်းအားဖြင့်သော်လည်းကောင်း၊ သူတစ်ပါး၏ ကျမ်းဂန်လာအယူအဆ (တစ်ဆင့်ကြား) အားဖြင့်သော်လည်းကောင်း၊ သဘောမှန်ကိုမျက်မှောက်ပြုသောအားဖြင့်သော်လည်းကောင်း၊ မိမိဘက်ကိုတိုင်တည်ထားခြင်းအားဖြင့်သော်လည်းကောင်း သူတစ်ပါးဘက်ကိုဖျက်ဆီးသောအားဖြင့်သော်လည်းကောင်း၊ သူတစ်ပါးရှုံးခြင်းအားဖြင့်သော်လည်းကောင်း၊ သူတစ်ပါးအပေါ် ငဲ့ညှာသောအားဖြင့်သော်လည်းကောင်း ဖြစ်နိုင်၏။

(၂) ဟေတု–ထိုပတိညာရှိသော အကြောင်းကိုပြီးမြောက်စေရန် သာရုပ္ပ (=တူညီသောသဘော) သို့မဟုတ် ဝေရုပ္ပ (=မတူညီသောသဘော) ရှိသည့် ဥဒါဟရဏ်ဖြင့်သော်လည်းကောင်း၊ တစ်နည်းသော်ကား ပစ္စက္ခ၊ အနုမာန သို့မဟုတ် အတ္တ–အာဂမ (=သဒ္ဒပ္ပမာဏ–ဂန္ထပ္ပမာဏ) ဖြင့်သော်လည်းကောင်း၊ အကြောင်းယုတ္တိကိုဆိုခြင်းသည် ဟေတုမည်၏။

(၃) ဥဒါဟရဏ်–အဆိုပါ ပတိညာရှိသော အကြောင်းကို ပြီးမြောက်စေရန်အတွက် ဟေတုကို အမှီပြု၍ ကမ္ဘာပေါ်၌ ဆီလျော်၍ ထင်ရှားသောအရာဝတ္ထုကိုယူကာ ပြောဆိုခြင်းသည် ဥဒါဟရဏ်မည်၏။

(၄) သာရုပ္ပ–အရာဝတ္ထုတစ်ခုနှင့်အရာဝတ္ထုတစ်ခုတူညီမှုကို သာရုပ္ပဟုခေါ်၏။ သာရုပ္ပသည် ၅ မျိုးပြား၏။

– ပစ္စုပ္ပန်၊ သို့မဟုတ် ရှေးကာလက မြင်ခဲ့ဖူးသောအကြောင်းဖြင့် အမှတ်အသားကို အကြောင်းပြု၍ အချင်းချင်းတူညီမှုသည် လိင်္ဂသဒိသဘာ မည်၏။

– အချင်းချင်းသရုပ် (လက္ခဏာ) တူညီမှုသည် သဘာဝသဒိသတာ မည်၏။

– အချင်းချင်းအပြုအမူတူညီမှုသည် ကမ္မသဒိသတာမည်၏။

– ဓမ္မတာ(ဂုဏ်)တူညီမှုသည် ဓမ္မသဒိသတာမည်၏။ ဥပမာ အနိစ္စ ဘွင် ဒုက္ခဂုဏ်၏ တူညီမှု၊ အနတ္တတွင် ဇာတိဂုဏ်၏ တူညီမှုစသည်

– အချင်းချင်း အကျိုး–အကြောင်းဖြစ်မှုတူညီခြင်းသည် ဟေတုဖလ ဒိသတာမည်၏။

(၅) ဝေရုပ္ပ–အရာဝတ္ထုတစ်ခုနှင့်အရာဝတ္ထုတစ်ခုမတူခြင်းသည် ဝေရုပ္ပ မည်၏။၎င်းလည်း

– လိင်္ဂဝိသဒိသတာ

– သဘာဝ ဝိသဒိသတာ

– ကမ္မ ဝိသဒိသတာ

– ဓမ္မ ဝိသဒိသတာ

– ဟေတု ဖလ ဝိသဒိသတာဟူ၍ ၅ မျိုးပြား၏။

(၆) ပစ္စက္ခ–မျက်ကွယ်မဟုတ်၊ တွေးကြံအပ်သော အရာမဟုတ်၊ ဖောက်ပြန်၍ စွဲယူသော အရာမဟုတ်သမျှကို ပစ္စက္ခခေါ်၏။ ဤနေရာ၌ အတွေး အကြံမဟုတ်၊ သက်သက် (ဣန္ဒြေတို့၏) ယူခြင်းဖြင့်ပြီးသောအရာ၊ အရာဝတ္ထု ပေါ်တွင် တည်သောအရာကို "တွေးကြံအပ်သောအရာမဟုတ်"(အနဗ္ဗျူဟိတ– အနဗ္ဗျူဟျ) ဟုခေါ်၏။ ငါးပါးသောဖောက်ပြန်ခြင်း (လည်ခြင်း) တို့မှ လွတ် အပ်သောအရာကို "ဖောက်ပြန်၍စွဲယူသောအရာမဟုတ်" အဘန္တခေါ်၏။ ဤဆိုလတ္တံ့တို့ကား (လည်ခြင်း) မျိုးတို့ပေတည်း။

– သညာဘန္တိ–တံလှပ်ကို ရေထင်ခြင်းကဲ့သို့သောသဘော

– သချာ်ဘန္တိ–မျက်စိသီဝေသောသူအား လဝန်းတစ်ခုကို လဝန်း ၂ ခုအဟန်မြင်ခြင်းကဲ့သို့သောသဘော

– သဏ္ဍာနဘန္တိ–မီးစကို (အရောင်) စက်ဝန်းအဟန်အသွင်နှင့်စပ်၍ လည်ခြင်းကဲ့သို့သောသဘော။

– ဝဏ္ဏဘန္တိ–အသားဝါရောဂါစွဲကပ်သောသူအား အဝါမဟုတ်သော အရာကိုလည်း ဝါသည်ဟု ထင်ခြင်းကဲ့သို့သောသဘော။

– လက်သီးကိုကြပ်ကြပ်ဆုပ်၍ ပြေးသွားသောပုဂ္ဂိုလ်အား သစ်ပင်များက နောက်မှတန်းတန်းပါအောင်လိုက်နေသည်ဟု ထင်ခြင်းကဲ့သို့သော သဘော။

စိတ္တဘန္တိ–အဆိုပါလည်ခြင်း(ဘန္တိ) ၅ မျိုးဖြင့် လည်နေသော အာရုံတွင် စိတ်၏မွေ့လျော်ခြင်းသည် စိတ္တဘန္တိမည်၏။

ဒိဋ္ဌိဘန္တိ–အဆိုပါလည်ခြင်း ၅ မျိုးဖြင့် လည်နေသောအာရုံတွင် ကြိုက်နှစ်သက်ခြင်း၊ မင်္ဂလာဟု မှတ်ယူခြင်း၊ ကပ်ငြိခြင်းကို ဒိဋ္ဌိဘန္တိဟုခေါ်၏။

ပစ္စက္ခသည် ၄ မျိုးပြား၏.

၁။ ရူပီ–ဣန္ဒြိယ–ပစ္စက္ခ

၂။ မန–အနုဘဝ–ပစ္စက္ခ

၃။ လောက–ပစ္စက္ခ

၄။ သုဒ္ဓ ပစ္စက္ခ

ဣန္ဒြိယပစ္စက္ခနှင့် မန–အနုဘဝပစ္စက္ခတို့သည် လောကပစ္စက္ခ၏ အမည်သာတည်း။ ဤသဘောကို အသင်္ကိုယ်တိုင် လက်ခံယုံကြည်၏။

ဤသို့အားဖြင့် ပစ္စက္ခသည် သုံးမျိုးသာပြားတော့၏။ ၎င်းတို့ကို ဓမ္မကိတ္တိ(ဒိန္နာဂနှင့် ၎င်း၏ဆရာ ဝသုဗန္ဓုလည်း ပါကောင်းပါလိမ့်မည်) တို့က ဣန္ဒြိယ ပစ္စက္ခ၊ မာနသ ပစ္စက္ခနှင့်ယောဂိပစ္စက္ခဟုခေါ်ကြ၏။ ဓမ္မကိတ္တိက လောက ပစ္စက္ခအစား သသံဝေဒနပစ္စက္ခဖြင့် ၄ မျိုးပြည့်အောင်ဖြည့်ထားသည်ကား ထူး၏။

ဤသို့အားဖြင့် ပစ္စက္ခ၏ အပရောက္ခ (မျက်ကွယ်မဟုတ်) ကပ္ပနာရဟိတ (တွေးကြံရခြင်းကင်းသောအရာ)၊ အဘန္တ (မလည်သောအရာ) ဤသို့သော ပစ္စက္ခလက္ခဏာနှင့် ဣန္ဒြိယ၊ မာနသ၊ ယောဂိပစ္စက္ခဟူသော ပစ္စက္ခသုံးမျိုး၏ အစဉ်အလာကို ကျွန်ုပ်တို့သည် ဗုဒ္ဓဘာသာတက်ကျမ်းများ၏ နောက်ဆုံးကျမ်းပြုများဖြစ်ကုန်သော ဉာဏသီရိအစရှိသည်မှစ၍ အသင်္ကတိုင်အောင် တွေ့ကြုံကြရ၏။

အသင်္ကမှ နှစ်ပေါင်း ၁၇၅ နှစ်ရှေးကျသော နာဂဇ္ဇုနအရင်အနှစ် တစ်ရာရှေးကျသောအဿဃောသတိုင်အောင် အစဉ်ကိုဆက်ရန် ကျွန်ုပ်တို့တွင် တန်ဆာပလာမရှိပေ။

(၇) အနုမာန–ကြံအပ်သောအရာနှင့် ကြံရမည့်အရာသည် အနုမာန်မည်၏။ အနုမာန ၅ မျိုးပြား၏။

– အမှတ်အသားဖြင့် ပြုအပ်သော အနုမာန်သည် လိင်္ဂအနုမာန်မည်၏။ ဥပမာ တံခွန်ဖြင့် ရထားကို မှန်းဆခြင်း၊ မီးခိုးဖြင့် မီးကိုမှန်းဆခြင်း၊ မင်းဖြင့်နိုင်ငံကို၊ လင်ဖြင့် မယားကို၊ ဘို့ ဦးချိုဖြင့် နွားလားကို ခန့်မှန်းခြင်း။

– သဘာဝအားဖြင့် ခန့်မှန်းခြင်း–၎င်းမှာ တစ်စိတ်တစ်ဒေသဖြင့် အလုံးစုံကို ခန့်မှန်းခြင်းတည်း။ ဥပမာ ဆန်တစ်လုံးကျက်သဖြင့် တစ်အိုးလုံးကျက်မှုကို ခန့်မှန်းခြင်း။

– အပြုအမူအားဖြင့် ခန့်မှန်းခြင်း– ဥပမာ လှုပ်လှုပ်ရွရွလုပ်ခြင်း၊ ကိုယ်အင်္ဂါအစိတ်အပိုင်းလှုပ်ရှားခြင်းဖြင့် ယောက်ျားကို ခန့်မှန်းခြင်း၊ ခြေဖြင့် အသွားဖြင့် ဆင်ကိုခန့်မှန်းခြင်း၊ ကိုယ်ကာယရွေ့သွားခြင်းဖြင့် မြွေကို၊ ဟီဟီမြည်ခြင်းဖြင့် မြင်းကို၊ ဝတ်ထရိန်းသံဖြင့် နွားလားကို၊ မြင်ချင်းဖြင့် မျက်စိကို၊ ကြားခြင်းဖြင့် နားကို၊ နံခြင်းဖြင့် နှာကို၊ လျက်ခြင်းဖြင့် လျှာကို၊ တွေ့ထိခြင်းဖြင့် အရေကို၊ သိခြင်းဖြင့် စိတ်ကို၊ ရေတွင် အကြည့်ခံသဖြင့် ပထဝီကို၊ ချောကျိခြင်း၊ စိမ်းလဲ့ခြင်းအားဖြင့် ရေကို၊ လောင်ခြင်း ကျွမ်းခြင်းကို မြင်သဖြင့် မီးကို၊ သစ်ပင်များလှုပ်သည်ကိုမြင်သဖြင့် လေကို ခန့်မှန်းခြင်း။

– ဓမ္မ (ဂုဏ်) ဖြင့် ခန့်မှန်းခြင်း–အနိစ္စဖြစ်သဖြင့် ဒုက္ခဖြစ်မှုကို ခန့်မှန်းခြင်း၊ ဒုက္ခဖြစ်သဖြင့် သုညနှင့် အနတ္တကို ခန့်မှန်းခြင်း။

– အကျိုးအကြောင်းဖြင့် ခန့်မှန်းခြင်း ဆိုလိုသည်ကား အကျိုးဖြင့် အကြောင်းကို ခန့်မှန်းခြင်း၊ အကြောင်းဖြင့် အကျိုးကိုခန့်မှန်းခြင်း၊ ဘုရင်ကို မှီဝဲဆည်းကပ်ခြင်းဖြင့် ကြီးမားသောတန်ခိုးအာဏာကိုရမည်ဟု ခန့်မှန်းခြင်း၊ ကြီးမားသော တန်ခိုးအာဏာကို ရခြင်းဖြင့် ဘုရင်ကို မှီဝဲဆည်းကပ်မည်ဟု ခန့်မှန်းခြင်း၊ အလွန်စားခြင်းဖြင့် ရောင့်ရဲခြင်း၊ ရောင့်ရဲခြင်းဖြင့် အလွန်စားခြင်း၊ မသင့်သောအစာကို စားခြင်းဖြင့် ရောဂါဖြစ်ခြင်း၊ ရောဂါဖြစ်ခြင်းဖြင့် မသင့်သောအစာကိုစားခြင်းကို ခန့်မှန်းခြင်း။

ဓမ္မကိတ္တိသည် တူညီမှုနှင့် ထို့ကြောင့်ဖြစ်ပေါ်ခြင်းသဘောအားဖြင့် အနုမာန်အပြား၌လည်း ပါဝင်ကုန်၏။

(၈) အတ္တာဂမဟူသည်မှာ သဒ္ဒပ္ပမာဏသာလျှင်တည်း။

**(ဃ) ဝါဒ-အလင်္ကာရ**-စကားပြောသူ၏ အောက်ပါအရည်အချင်း ၅ မျိုးတို့သည် ဝါဒ၌ အဆင်တန်ဆာသဘောများဖြစ်ကုန်၏။

(၁) သ- ပရ- သမညုတာ- မိမိ- သူတစ်ပါး၏အယူကိုသိမှု။

(၂) ဝါက္ကမ္မ သမ္ပန္နတာ- အပြောကောင်းခြင်း- ၎င်းကား ဂါမ္မဒေါသ လွတ်ခြင်း၊ စကားလုံးပြောင်ခြင်း၊ ရှေ့နောက်မဆန့်ကျင်ခြင်းနှင့် အသံပျော့ မသွားခြင်းအပြင် အနက်အဓိပ္ပာယ်အပြည့်ပါသော စကားလုံးများကိုပြောခြင်း တည်း။

(၃) ဝေသာရဇ္ဇကာ-ဟောပြောပွဲတွင် မညှိုးငယ်ခြင်း၊ မကြောက်ခြင်း၊ မျက်နှာ ဖြူဖပ်ဖြူရော်မဖြစ်ခြင်း၊ အသံထစ်ထစ်အအမဖြစ်ခြင်း၊ စကားလုံး သိမ်ပျသွားမှုမရှိခြင်းကို ဝေသာရဇ္ဇ-ရဲရင့်ခြင်းဟုခေါ်၏။

(၄) ထိရတာ- အချိန်ကာလကို အကြောင်းပြု၍ သုတ်သီးသုတ်ပျာ မဖြစ်ဘဲ ပြောခြင်း။

(၅) ဒက္ခိည- မိတ်ဆွေကဲ့သို့ သူတစ်ပါး၏ စိတ်အလိုက်စကား ပြောနည်း။

**(င) ဝါဒ-နိဂ္ဂဟာ**-ဝါဒတွင် ဖမ်းချုပ်ခြင်း၊ ထိုသို့ဖမ်းချုပ်ခြင်းဖြင့် တစ်ဖက်ဝါဒီရှုံးသွားရ၏။ ၎င်းဝါဒနိဂ္ဂဟသည် ၃ မျိုးပြား၏။

(၁) ကထာစာဂ-စကားလွတ်သွားခြင်း။

(၂) ကထာမာဒ-စကားရှုံးနှမ်းခြင်း၊ ဟိုရောက်သည်ရောက် ပြောခြင်း

(၃) ကထာဒေါသ-စကားအပြစ်ရှိခြင်း

အမှားပြောခြင်း၊ မနိုင်းမချိန်ပြောခြင်း၊ အနက်အဓိပ္ပာယ်ကင်းမဲ့သော စကားကိုပြောခြင်း၊ အချိန်မဲ့ပြောခြင်း၊ မတည်မတန့်ပြောခြင်း၊ မပြောင်မလက် ပြောခြင်းနှင့် မဆက်မစပ်ပြောခြင်းများသည် စကားအပြစ်များဖြစ်ကြ၏။

**(စ) ဝါဒ-နိဿရဏာ**-ဂုဏ်ဒေါသကျွမ်းကျင်မှုနှင့် ဟောပြောပွဲကို ရှုစမ်း၍ စကားမပြောဘဲနေခြင်းသည် ဝါဒနိဿရဏာ-ဝါဒမှ ရှောင်ကွင်းခြင်းမည်၏။

**(ဆ)** မိမိသူတစ်ပါး၏ အယူအဆကို သိခြင်း၊ ရဲရင့်ခြင်းနှင့် ဉာဏ်ပဋိဘာန်လျင်မြန်မှုသည် ဝါဒပြိုင်ရာ၌ အသုံးဝင်သော အကြောင်းများဖြစ်ကုန်၏။

## သူတစ်ပါးအယူကို ပယ်ဖျက်ခြင်း

အသင်္ဂသည် "ယောဂါစာရဘူမိ"၌ ၁၆ ပါးသော ပရဝါဒတို့ကိုပြ၍ ၎င်းတို့ကို ပယ်ဖျက်တော်မူခဲ့၏။ ဤဆိုလတ္တံ့ကား ပရဝါဒများပေတည်း။

**(က)** ဟေတု–ဖလ သန္တဝါဒ–ဟေတု (=အကြောင်း) တွင် ဖလ (=အကျိုး) သည် အမြဲတမ်းရှိနေ၏။ ဝဿဂဏ (သချ်) ဆရာတို့ ယူဆသကဲ့သို့တည်း။ ၎င်းတို့သည် မိမိတို့၏ ဤသန္တဝါဒ (နောက်ကာလ၌ ၎င်းသည်ပင် သက္ကာရိယဝါဒ) ကို အာဂမ (ကျမ်းဂန်) အထောက်အကိုးဖြင့် ယုတ္တိတန်သည်ဟု ယူဆကြ၏။ ၎င်းတို့က ဆိုကြပုံမှာ–အကျိုးဖြစ်ပေါ်လာရသည် အကြောင်းဖြစ်၏။ ထို့ကြောင့် လူသည် အကျိုးကိုလိုလျှင် အကြောင်းကို လက်တွေ့လုပ်ရ၏။ အခြားကို လုပ်ဖွယ်မလို။ အကယ်၍ ထိုဆိုအပ်ခဲ့သောအတိုင်း မဟုတ်လျှင် အမှတ်မထင်အရာဝတ္ထု (ဆီအတွက် နှမ်းမဟုတ်ဘဲ သဲအစရှိသောဝတ္ထု) ကိုလည်း သုံးစွဲရလေသည်။

ပယ်ဖျက်ခြင်း–သို့ဆိုအပ်သော်လည်း ဤဝါဒသည် မှား၏။ သင်သည် အကြောင်းကို အကျိုးနှင့်အတူတူယူဆသလော။ ကွဲပြားသည်ဟု ယူဆသလော။ အကယ်၍ အကြောင်းကိုအကျိုးနှင့်အတူပင် ဖြစ်သည်၊ ကွဲပြားခြင်းမရှိဟုယူဆလျှင် "အကြောင်းနှင့်အကျိုး၊ အကြောင်းကြောင့် အကျိုးဖြစ်သည်" ဟု ပြောသောစကားမှား၏။ အကယ်၍ ကွဲပြားသည်ဟုယူဆလျှင် အမေးထွက်လာလိမ့်မည်။ ထိုကွဲပြားသောအကြောင်း အကျိုးသည်ဖြစ်ပြီး (ဥပန္န) လော။ မဖြစ်ပေါ်သေး (အနုပ္ပန္န) လော။ ဖြစ်ပြီးဟုဆိုလျှင် "အကြောင်းတွင် အကျိုးရှိနေ၏"ဟူသောစကားမှား၏။ အကယ်၍ မဖြစ်ပေါ်သေးဟုယူဆလျှင် ဆိုဖွယ်ရာရှိပါအံ့နည်း။ ထို့ကြောင့် အကြောင်း၌ အကျိုးရှိနေခြင်းမဖြစ်နိုင်။ အကြောင်းရှိသော် အကျိုးဖြစ်ပေါ်လာ၏။ ထို့ကြောင့်ပင် "နိစ္စကာလ အမြဲတမ်းအားဖြင့် အကြောင်း၌ အကျိုးရှိနေ၏" ဟူသော စကားမှား၏။ ၎င်းဟေတုဖလသန္တဝါဒသည် ယုတ္တိကင်းမဲ့သောဝါဒဖြစ်၏။

**(ခ)** အဘိဗျတ္တိဝါဒ–အဘိဗျတ္တိ(ဝါ) အဘိဗျဉ္ဇနဝါဒအားလျော်စွာ အရာဝတ္ထုများသည် "အဖြစ်" တရားများမဟုတ်ကြဘဲ စင်စစ်အားဖြင့် "အပေါ်"တရားများသာဖြစ်ကြ၏။ ဟေတုဖလသန္တဝါဒကို လက်ခံကြသော

သချ်ိဳဆရာများနှင့် သဒ္ဒလက္ခဏာဝါဒီဗျာကရဏ်းဆရာများ၏ အယူလည်း ဤအယူပင်တည်း။ ဟေတု–ဖလ သန္တဝါဒအားလျော်စွာ အကျိုးသည် အကယ်၍ ရှေးကတည်းက ရှိနေနှင့်လျှင် ကြိုးပမ်းမှုအဘယ်မှာ လိုအပ်ပါတော့မည်နည်း။ ပေါ်ထွက်လာစေရန် ကြိုးပမ်းပေးရ၏။

ပယ်ဖျက်ခြင်း– သင်သည် မပေါ်ထွက်လာသေးသောအကျိုး၌ ဖုံးအုပ်ထားသောအကြောင်းကို "ရှိ" ဟူ၍ ယူဆသလော၊ "မရှိ" ဟူ၍ ယူဆသလော။ "ဖုံးအုပ်ထားသောအကြောင်းမရှိလျှင်" ဟူ၍လည်းမဆိုနိုင်၊ အကြောင်းသော်ကား–အကျိုးသည် အကျိုးနှင့်အမြဲတမ်းယှဉ်နေသော အကြောင်းကို မဖုံးအုပ်နိုင်လျှင် အကျိုးကိုအဘယ်သို့လျှင် ဖုံးအုပ်နိုင်အံ့နည်း။ ဟေတုဖလသန္တဝါဒသည် အဟုတ်သဘောအားဖြင့် မှား၏။ အရာဝတ္ထုတို့၏ ထင်ရှားထွက်ပေါ်မှုမဖြစ်ခြင်းအကြောင်း ၆ မျိုးရှိ၏။

(၁) ဝေးခြင်းကြောင့်
(၂) ၄ မျိုးသောအဖုံးအလွှမ်းကြောင့်
(၃) သိမ်မွေ့ခြင်းကြောင့်
(၄) စိတ်ပျံ့လွင့်ခြင်းကြောင့်
(၅) ဣန္ဒြေထိခိုက်ပျက်စီးခြင်းကြောင့်
(၆) ဣန္ဒြေနှင့်စပ်သော အသိဉာဏ်ကိုမရခြင်းကြောင့်

သချ်ိဳဆရာတို့၏ ဟေတုဖလ အဘိဗျတ္တိဝါဒ များသကဲ့သို့ ဝေယာကရဏ (နှင့်မီမံသက) ဆရာတို့၏ သဒ္ဒအဘိဗျတ္တိဝါဒလည်းမှား၏။ "သဒ္ဒါသည် နိစ္စဖြစ်၏"ဟူသော ဝါဒသည် ယုတ္တိကင်းမဲ့သော ဝါဒဖြစ်၏။

**(ဂ)** အတီတာနာဂတ ဒဗ္ဗသန္တဝါဒ–ဗုဒ္ဓဘာသာသဗ္ဗတ္ထိဝါဒီတို့၏ အယူဖြစ်၏။ အသဃောသ (ခရစ်နှစ် ၅၀) မှ အသင်္ဂတိုင်အောင် ဂန္ဓာရ (အသင်္ဂ၏ဇာတိဌာန) သည် သဗ္ဗတ္တိဝါဒီတို့၏ အခြေစိုက်ရာဌာနဖြစ်၏။

အသင်္ဂ၏ ညီတော် ဝသုဗန္ဓု၏ ကျမ်းကြီးဖြစ်သော အဘိဓမ္မာကောသနှင့် ၎င်းအဖွင့်ကိုယ်တိုင်ရေးဘာသတို့ကား သဗ္ဗတ္တိဝါဒ (=ဝေဘာသိက) ဆိုင်ရာ ကျမ်းများပင်တည်း။ သို့သော် ထိုအချိန်ကား ဂန္ဓာရနှင့် အိန္ဒိယပြည်လုံးမှ အဆိုပါရှေးဟောင်း (ထေရ) ဗုဒ္ဓဘာသာကျမ်းများ ပျောက်ကွယ်သွားတော့ အံ့သောအချိန်ဖြစ်ပေသည်။ ၎င်းအစား မဟာယာနကျမ်းပင်လာစ

ပြခဲ့လေပြီ။ သဗ္ဗတ္ထိဝါဒီတို့က ဆိုကြ၏။ "အတိတ်သည်ရှိ၏၊ အနာဂတ်ရှိ၏။ ၂ မျိုးလုံးပင် ပစ္စုပ္ပန်ကဲ့သို့ လက္ခဏာနှင့်ပြည့်စုံကြ၏"

ပယ်ဖျက်ခြင်း အသင်္ဂသည် ၎င်းဝါဒကို ပယ်ဖျက်လျက် ဆိုခဲ့၏။ ဤ (အတိတ်၊ အနာဂတ်) ကာလနှင့်စပ်သောဝတ္ထု (တရား) တို့ကို နိစ္စဟုယူဆသလော။ သို့မဟုတ် အနိစ္စဟု ယူဆသလော။ အကယ်၍ နိစ္စဟုယူဆခဲ့လျှင် ကာလသုံးပါးနှင့်စပ်ခြင်းမဖြစ်နိုင်။ စင်စစ်ကာလလွန်-ကာလဝိမုတ်သာဖြစ်လေရာ၏။ အကယ်၍ အနိစ္စလက္ခဏာရှိ၏ဟု ယူဆခဲ့လျှင် "ကာလ သုံးပါးစလုံးမှာပင် ဒီအတိုင်းချည်းထင်ရှားရှိနေသည်" ဟူသော စကားမမှန်တော့ပေ။

(ဃ) အတ္တဝါဒ-အတ္တ၊ သတ္တ၊ ဇီဝ၊ ပေါသ သို့မဟုတ် ပုဂ္ဂလ၏ အမည်များကို ဆောင်သောထာဝရသတ္တာ သဘောတစ်ခုကို လက်ခံယူခြင်းသည် အတ္တဝါဒီဖြစ်၏။ (ဥပနိသျှဒ်၏ ပဓာနအယူဝါဒမှာ သတ္တဝါဒပင်တည်း)

ပယ်ဖျက်ခြင်း- အသင်္ဂက ၎င်းဝါဒကို ပယ်ဖျက်ခဲ့၏။ မြင်သောအရာ အတ္တဆိုလျှင်လည်း ယုတ္တိမတန်ပေ။ အတ္တအယူအစွဲသည် ပစ္စက္ခနှင့် အနုမာန အရာဝတ္ထုများတွင်လည်းမဖြစ်၊ အကယ်၍ ကိုယ်ကာယအပြုအမူကို အသိဉာဏ်အကြောင်းခံသည်ဟု ယူဆသော် "အတ္တသည် ကိုယ်ကာယလှုပ်ရှားမှုကို ပြု၏"ဟူသော စကားမမှန်တော့ပေ။ နိစ္စဖြစ်သောအတ္တသည် လှုပ်ရှားမှုကို မပြုနိုင်ပေ။ နိစ္စဖြစ်သော အတ္တသည် သုခ- ဒုက္ခတို့ဖြင့်လည်း မလိမ်းကျံနိုင်ပေ။

အဟုတ်တကယ်အားဖြင့် ဓမ္မများ (ကမ္ဘာလောကရှိ အရာဝတ္ထုတို့၏ အဖြစ်အပျက်များ) တွင် အတ္တဟူသည်အတွေးအခေါ်တစ်ခုမျှသာတည်း။ အားလုံးသော "ဓမ္မ"များသည် အနိစ္စ-မမြဲ။ အဒ္ဓုဝ-မတည်တံ့၊ အနဿာသိက- သက်သာရာမရ၊ ဝိကာရီ- ဖောက်ပြန်၏။ ဇာတိ၊ ဇရာ၊ ဗျာဓိသဘောတရားရှိ၏။ ၎င်း၏သဘောကား ဒုက္ခသက်သက်သာတည်း။ ထို့ကြောင့် ဘုရား ရှင်က ဟောတော်မူခဲ့၏။

"ရဟန်းတို့၊ ဤဓမ္မတို့ပင် အတ္တတို့တည်း။ ဤသင်တို့၏ အတ္တသည် အဒ္ဓုဝ အနဿာသိက၊ ဝိပရိဏာမိ(ဝိကာရီ)ဖြစ်၏"

ဤအတ္တသဘောကို ကြံဆခြင်းသည် သဏ္ဍိရတရားများတွင်သာ ဖြစ်

သင့်၏။ ကမ္ဘာတွင် ခေါ်ဝေါ်လွယ်စိမ့်သောငှာ ဤကဲ့သို့ သတ္တဟုခေါ် သမုတ်အပ်၏။ အဟုတ်တကယ်အားဖြင့် သတ္တ၊ သို့မဟုတ် အတ္တအမည်ရှိ သောအရာဝတ္ထုတစ်စုံတစ်ခုမရှိပေ။ အတ္တဝါဒသည် ယုတ္တိကင်းမဲ့သော ဝါဒ ဖြစ်၏။

(င) သဿတဝါဒ–အတ္တနှင့် လောကကို သဿတ–မြဲ၏။ အကတ–မပြုပြင်အပ်၊ အကတကတ–မပြုပြင်အပ်သော ထာဝရဘုရားက ပြုပြင်အပ်၏။ အနိမ္မိတ–မဖန်ဆင်းအပ်၊ အနိမ္မာနကတ–မဖန်ဆင်းအပ်သောထာဝရက ဖန်ဆင်းအပ်၏။ အဝဇ္ဈ–မသတ်အပ်၊ ကူဋ္ဌဋ္ဌာယီ–မပြောင်းမလဲ တည်၏ဟု ယူဆခြင်းသည် သဿတဝါဒတည်း။ အချို့သော (ဂရိတ်အဘိဓမ္မာဆရာတို့၏ ၁ ပရမာဏုကို နိစ္စဟု ယူဆကြကုန်သော သူများလည်း သဿတဝါဒီတို့သာတည်း။ ပရမာဏုနိစ္စဝါဒနှင့် ပတ်သက်၍ ရှေ့ကျမှဆိုမည်။

(စ) ပုဗ္ဗကတဟေတုဝါဒ–ဘာမဆို လူသတ္တဝါများ ခံစားနေရသမျှအားလုံးပင် ရှေးဘဝက ပြုခဲ့သောကံကြောင့်ဖြစ်၏။ ၎င်းအယူကို ပုဗ္ဗကတဟေတုဝါဒခေါ်၏။ ဤအယူသည် ဂျိန်းဘာသာဝင်တို့၏ အယူတည်း။ ကမ္ဘာလောကတွင် ကောင်းကောင်းမွန်မွန်လုပ်ကိုင်နေသော သူများလည်း ဒုက္ခတွေရ၏။ မှားမှားယွင်းယွင်း လုပ်ကိုင်နေသောသူများလည်း သုခနှင့်ကြုံ၏။ ဤအချက်ကို ကျွန်ုပ်တို့တွေ့မြင်နေကြရ၏။ အကယ်၍ ယောကျ်ား၏ကြိုးပမ်းမှုနှင့်စပ်နေလျှင် ဤကဲ့သို့မဖြစ်တန်ရာ။ ထို့ကြောင့် ဤခံစားရသော သုခ၊ ဒုက္ခအလုံးစုံသည် ရှေးဘဝက ပြုခဲ့သောကံကြောင့်ဖြစ်၏။ ရှေးဘဝ ကံ၏အကျိုးဖြစ်၏။

အသင်္ဂသည် ဤစကားကို လုံးလုံးဆန့်ကျင်၏။ တစ်ခုတော့ရှိ၏။ အသင်္ဂသည် ယောကျ်ား၏ ယနေ့ပြုသော ကြိုးပမ်းမှုကိုလည်း ရှေးက အလားတူ အကျိုးပေးသည်ဟု ယူဆ၏။

(ဆ) ဣဿရာဒိကတ္တုတ္တဝါဒ–၎င်းဝါဒအရ ဘာမဆိုသတ္တဝါများခံစားနေရသမျှအားလုံးကို ဣဿရ (ထာဝရဘုရားသခင်) ဖန်ဆင်းမှုကြောင့်ဖြစ်၏။ လူသည် အကောင်းဆုံးကိုသာပြုလို၏။ သို့သော် အဆိုးကိုပြုနေရ၏။ ကောင်းကင်ဘုံ (နတ်ဘုံ) သို့သွားလို၏။ သို့သော် နရက် (ငရဲဘုံ) သို့ရောက်နေရ၏။ ချမ်းသာကို စံစားလို၏။ သို့သော် ဒုက္ခချည်းခံစားနေရ၏။ ဤကဲ့သို့ မြင်ရသဖြင့် အဖြစ်အပျက်များ၏ တစ်စုံတစ်ခုသော ကတ္တား၊ ဖန်

ဆင်းသူ၊ တည်ဆောက်သူ၊ ခမည်းတော်အလား ဣဿရိယရှိ၏ဟု သိရ၏။

ပယ်ဖျက်ခြင်း–ဣဿရ၌ ကမ္ဘာကို ဖန်ဆင်းတတ်သောသတ္တိသည် (သက်ရှိတို့၏) ကံကြောင့်လော၊ ကံမပါဘဲလော၊ ကံကြောင့်ဖြစ်၍ အကြောင်းရှိနေပြီးမှဖြင့် ဘယ်မှာ ဣဿရအလုပ်ရှိပါတော့အံ့နည်း။

ကံကြောင့်မဟုတ်ဘူးဆိုလျှင်လည်း အဟေတုက (အကြောင်းမဲ့) ဖြစ်ရတော့မည်။ ထိုကဲ့သို့ဖြစ်လျှင်လည်း မမှန်တော့ပေ။ ထို့နောက် အမေးထွက်လာလိမ့်မည်။ (ဖန်ဆင်းသူ) ဣဿရသည် ကမ္ဘာ၏အတွင်း၌ အပါအဝင်လော၊ အပါအဝင်မဟုတ်ဘူးလော။ အကယ်၍ ကမ္ဘာအတွင်း အပါအဝင်ဖြစ်ခဲ့လျှင် ကမ္ဘာနှင့်သဘောတူဖြစ်၍ ဣဿရက ကမ္ဘာကိုဖန်ဆင်းသည်ဟူသော စကားမမှန်နိုင်ပေ။ အပါအဝင် မဟုတ်ဘူးဆိုလျှင်လည်း (ကမ္ဘာမှ) လွတ်၍ (သို့မဟုတ်ဝေး၍) ကမ္ဘာကို ဖန်ဆင်းသည်ဟူသောစကားလည်း မမှန်နိုင်ပေ။ ထို့နောက် အမေးရှိလာပြန်၏။ ဣဿရသည် ကမ္ဘာကို အကျိုးရှိ၍ ဖန်ဆင်းသလော။ အကျိုးမဲ့ဖန်ဆင်းသလော။ အကယ်၍ အကျိုးရှိသည်ဆိုလျှင် ထိုအကျိုးကို အစွဲပြု၍ ဣဿရမဟုတ်တော့ပေ။ (မလွတ်လပ်တော့ပေ) သို့ဖြစ်က အဘယ်မှာ ကမ္ဘာစိုးဖြစ်တော့အံ့နည်း။ အကယ်၍ အကျိုးမဲ့သည်ဆိုငြားအံ့၊ ၎င်းလည်း မမှန်ပေ။ (ဤကဲ့သို့ အကျိုးမဲ့ဖန်ဆင်းသည်ဆိုက မိုက်မဲစွာ လှုပ်ရှားနေရာကျပေလိမ့်မည်) ဤကဲ့သို့ပင် အကယ်၍ ဖန်ဆင်းမှုသည် ဣဿရကို အကြောင်းခံ၍ဖြစ်ပါက အကြင်အခါ ဣဿရရှိ၏။ ထိုအခါ ဖန်ဆင်းမှုရှိ၏။ အကြင်အခါ ဖန်ဆင်းမှုရှိ၏။ ထိုအခါ ဣဿရရှိ၏ဟူသောစကားလည်း မမှန်နိုင်ပေ။ (အကြောင်းသော်ကား နှစ်မျိုးစလုံးပင် ထိုအချိန်တွင် အနာဒိ– အစမရှိ ဖြစ်နေပေလိမ့်မည်) ဣဿရအလိုအားလျော်စွာ ဖန်ဆင်းမှုဖြစ်သည်ဟု ဆိုပြန်လျှင် ယခင်အပြစ်ပင်သင့်ရောက်လေရာ၏။

ဤသို့အားဖြင့် စွမ်းရည်သတ္တိ၊ ကမ္ဘာတွင် ပါဝင်–မပါဝင်၊ အကျိုးရှိ–အကျိုးမဲ့နှင့် အကြောင်းရှိမှုများကိုယူ၍ စဉ်းစားသဖြင့် ဖန်ဆင်းတတ်သော ဣဿရကိုယူဆယုံကြည်ခြင်းသည် လုံးလုံး ယုတ္တိကင်းမဲ့၏ဟူ၍ သိရ၏။

**(၈)** ဟိံသာဝမ္မဝါဒ–ယဇ်ပူဇော်ရာတွင် မန္တရား၊ အစီအရင်နှင့်အညီ ညည်းပန်းမှု(ပါဏာတိပါတ)ကို ပြုသူ၊ ဟုန်းပူဇော်သူ၊ သို့မဟုတ် ဟုန်းအပူဇော်ခံရသူ(သားကောင်)ဟုန်းပူဇော်ရာတွင် အကူအညီဖြစ်ကြသူများအားလုံးပင်

နတ်ပြည်သို့လားကြကုန်၏။ ယဇ်သမားများ(နှင့် မိမံသက)တို့၏အယူသည် ဟိံသာဓမ္မဝါဒပင်တည်း။ ကလိယုဂ်သို့ရောက်သောအခါ ဗြာဟ္မဏဓမ္မကို ပယ်စွန့်၍ အသားကိုစားလိုစိတ်ဖြင့် ဤ (ဟိံသာဓမ္မ) ကို စီရင်ခဲ့၏။

ဟေတု (အကြောင်းယုတ္တိ) ဒိဋ္ဌန္တ (စံနမူနာ) ဗျာဘိစာရ (ရက်စက်ကြမ်းကြုတ်မှု) အကျိုးမရှိ၊ မန္တရားစီရင်သူများနှင့် ဆက်စပ်စဉ်းစားလျှင် ဤဝါဒသည် ယုတ္တိကင်းမဲ့သော ဝါဒဖြစ်နေပေ၏။

**(ဈ)** အန္တာနန္တိကဝါဒ–လောကသည် အဆုံးရှိ၏။ လောကသည် အဆုံးမရှိ။ ဤဝါဒကို အန္တာနန္တိကဝါဒဟုခေါ်ကြ၏။

ဗုဒ္ဓ၏ ဒေသနာတော်များ (ဒီဃနိကာယ ၁၊ ၁)တွင် ဤဝါဒကို ဖွင့်ဆိုထားခဲ့၏။

**(ည)** အမရာ ဝိက္ခေပဝါဒ–၎င်းဝါဒကိုလည်း ဗုဒ္ဓဒေသနာတော်များတွင် တွေ့ရ၏။ ၎င်းဝါဒနှင့် ပတ်သက်၍ရှေ့ပိုင်းတွင် (အဘိဓမ္မာစံပြကျမ်း) ဆိုပြီးခဲ့ပြီ။

**(ဋ)** အဟေတုကဝါဒ–အတ္တနှင့်လောကသည် အဟေတုက(အကြောင်းကင်း၍ဖြစ်သည်)သာဟုယူဆသော အယူသည် အဟေတုကဝါဒဖြစ်၏။ ၎င်းဝါဒကိုလည်း ဆိုခဲ့ပြီးလေပြီ။ (အဘိဓမ္မာစံပြကျမ်း) အဘာဝသဘောကိုဆင်ခြင်ခြင်း၊ အတ္တကိုဆင်ခြင်ခြင်း၊ အတွင်း–အပ လောက၌ အကြောင်းမပါဘဲ ဆန်းကြယ်မှုကို ဆင်ခြင်ခြင်းအားဖြင့် ဤဝါဒသည် ယုတ္တိကင်းမဲ့သော ဝါဒဖြစ်၏ဟု သိရ၏။

**(ဌ)** ဉစ္ဆေဒဝါဒ–အတ္တသည် ရုပ်တရားဖြစ်၍ မဟာဘုတ်လေးပါးတို့ဖြင့် ပြုလုပ်ထားအပ်၏။ အတ္တသည် ရောဂါ၊ အနာစူးရှမှုကင်း၏။ သေသည့်နောက် ပြတ်သွားတော့၏။ ပျက်စီးသွားတော့၏။ နောက်ဆက် ရှိမနေတော့။ ကွဲသွားသော အိုးကင်းကိုဆက်၍ မဖြစ်နိုင်တော့သကဲ့သို့လည်းကောင်း၊ ကွဲသွားသောကျောက်ပြားကို တစ်ဖန်ပြန်၍ မဆက်နိုင်တော့ သကဲ့သို့လည်းကောင်း၊ ထို့အတူ ဤနေရာ (အတ္တနှင့်ပတ်သက်ရာ) ၌လည်း သိမှတ်အပ်၏။

ပယ်ဖျက်ခြင်း– အကယ်၍ အတ္တသည် (ငါးပါးသော) ခန္ဓာဖြစ်ခဲ့လျှင် ခန္ဓာကား (သဘောအားဖြင့် ပျက်စီးသော်လည်း) အစဉ်အဆက်အားဖြင့် ဆက်လက်သွားသကဲ့သို့ အတ္တကိုလည်း မှတ်အပ်၏။ ရုပ်တရား၊ အစားအစာ

ဖြင့် ပွားစီးစေအပ်သော တရား၊ မဟာဘုတ် ၄ ပါးဖြင့် ပြုလုပ်ထားသော တရား၊ ရောဂါရှိသောတရား၊ အနာရှိသောတရား၊ စူးရှခြင်းခံရသောတရား ဟူ၍ အတ္တကိုယူဆရလျှင် ဒေဝလောကရှိ အတ္တနှင့် လူ့လောကရှိ အတ္တနှစ်ပါးကို အဘယ်သို့ကွဲပြားသောသဘောဖြင့် ရှုမြင်နိုင်ပါတော့မည်နည်း။

ဥစ္ဆေဒဝါဒ သို့မဟုတ် ရုပ်ဝါဒနှင့်ဆန့်ကျင်လျက် ဤမျှလောက်သာ ယုတ္တိပေး၍ အသင်္ဂက နှုတ်ဆိတ်သွားခဲ့လေသည်။

(၃) နတ္ထိကဝါဒ–အလှူပေးခြင်း၊ ယဇ်ပူဇော်ခြင်းသည် ဘာမျှမဟုတ်။ ဤလောက ပရလောကလည်း ဘာမျှမဟုတ်။ ကုသိုလ်၊ အကုသိုလ်အကျိုးလည်း မရှိ။ ဤနတ္ထိကဝါဒကို ဆိုခဲ့ပြီးလေပြီ။ (အဘိဓမ္မာစံပြကျမ်း)

အဂ္ဂဝါဒ–ဗြာဟ္မဏများသာ မြင့်မြတ်သောအမျိုးဖြစ်ကုန်၏။ အခြားအမျိုးများ ယုတ်နိမ့်ကုန်၏။ ဗြာဟ္မဏများသာ ဖြူစင်သောအမျိုးဖြစ်၏။ အခြားအမျိုးများကား မည်းညစ်ကုန်၏။ ဗြာဟ္မဏများသည် သန့်ရှင်းကုန်၏။ ဗြာဟ္မဏမဟုတ်သူများ မသန့်ရှင်းကြကုန်။ ဗြာဟ္မဏများသည် ဗြဟ္မာ၏ ရင်နှစ် သားဖြစ်၍ ခံတွင်းမှဖြစ်ပေါ်သော (ဗြဟ္မဇ) ဗြဟ္မာထွက် (ဗြဟ္မနိဂ္ဂတ) ဗြဟ္မာ့အစေအပါ (ဗြဟ္မ ပါရိသဒ) များ ဖြစ်ကြကုန်၏။ ဥပမာသော်ကား ကလိယုဂ်အတွင်းရှိ ဤဗြာဟ္မဏများပင်တည်း။

ပယ်ဖျက်ခြင်း– ဗြာဟ္မဏများလည်း အခြားအမျိုးများကဲ့သို့ မျက်မြင်ဖြစ်သော အမိ၏ မိန်းမကိုယ်မှ ဖွားမြင်လာသည်ကို တွေ့မြင်ရ၏။ (သို့ဖြစ်၍ ဗြဟ္မာ၏ရင်နှစ်သားဟု ခေါ်ဆိုခြင်းသည်မမှန်) ထို့ကြောင့် "ဗြာဟ္မဏများ အမျိုးမြတ်၏" ဟူသောစကားသည် မမှန်။ မိန်းမကိုယ်မှ မွေးဖွားလာခြင်းကြောင့် ဗြာဟ္မဏများကို မြတ်သည်ဟု ဆိုနိုင်သလော။ သို့မဟုတ် ထိုပုဂ္ဂိုလ်တွင် အတတ်ပညာနှင့် အကျင့်သီလလည်း အရေးကြီးသည်ဟု ယူဆပါသလော။ အကယ်၍ မိန်းမကိုယ်ဖြင့်သာ အမြတ်ကို သတ်မှတ်ခဲ့ပါလျှင် ယဇ်ပူဇော်ရာတွင် သုတပြဋ္ဌာန်းသော သီလပြဋ္ဌာန်းသော ဗြာဟ္မဏကိုဆောင်ယူရမည်ဟူသော စကားကို အဘယ်ကြောင့် ဆိုလေသနည်း။ အကယ်၍ သုတ (=ဝိဇ္ဇာ) နှင့် သီလ(ကိုယ်ကျင့်ကောင်း) ကို အသိအမှတ်ပြုခဲ့လျှင် "ဗြာဟ္မဏများသည် အမျိုးမြတ်၏" ဟူသောစကားသည် မမှန်တော့ပေ။

(ဏ) သုဒ္ဓိဝါဒ–သုန္ဒရိကာမြစ်၌ ရေချိုးသောသူသည် အပြစ်ရှိသမျှ ကင်းစင်၏။ ဤကဲ့သို့ပင် ဗာဟုဒါ၊ ဂယာ၊ သရဿတီ၊ ဂင်္ဂါမြစ်များ၌ ရေချိုးခြင်းဖြင့် အပြစ်ကင်းလွတ်၏။ အချို့ကား ရေချိုးကာမျှဖြင့် စင်ကြယ်သည်ဟု ယူဆကြ၏။ အချို့ကား ခွေးကျင့် (=ခွေးကဲ့သို့ လက်မပါဘဲ ပါးစပ်ဖြင့်စားခြင်း၊ ထို့အတူ လေးဖက်ထောက်ထိုင်ခြင်း၊ သွားခြင်း စသည်) နွားကျင့်စသော အကျင့်မျိုးများဖြင့် စင်ကြယ်၏ဟု ယူဆကြကုန်၏။ ၎င်းကို သုဒ္ဓိဝါဒဟု ခေါ်ကြ၏။

ပယ်ဖျက်ခြင်း– စင်ကြယ်ခြင်းသည် အဇ္ဈတ္တိက (အတွင်း) အကြောင်းအရာ ဖြစ်၏။ သို့ဖြစ်လျှင် စင်ကြယ်မှုသည် ရေဆိပ်တွင် ရေချိုးကာမျှဖြင့် အဘယ်မှာ ဖြစ်နိုင်ပါအံ့နည်း။

(တ) ကောတုက မင်္ဂလဝါဒ–နေကြတ်၊ လကြတ်၊ ဂြိုဟ်၊ နက္ခတ်တို့၏ ထူးခြားသော တည်နေပုံကြောင့် လူတို့၏အလိုဆန္ဒ ပြည့်ဝသည်၊ သို့မဟုတ် မပြည့်ဝ။ ထို့ကြောင့် ဤကဲ့သို့ယုံကြည်သောသူ(ကောတုက မင်္ဂလဝါဒီ)များသည် နေ အစရှိသည်တို့ကို ပူဇော်ကြကုန်၏။ ဟုန်းပူဇော်ခြင်း၊ ပုတီးစိပ်ခြင်း၊ ရေသပိတ်သွတ်ခြင်း (တပ္ပဏ) ရေအိုး၊ ဥသျှစ်သီး၊ ခရုသင်းအစရှိသည် တင်ခြင်းများကို ပြုလုပ်ကြ၏။ ဟူးရားနက္ခတ်သမားများပြုသကဲ့သို့ပင် တည်း။

ပယ်ဖျက်ခြင်း– သင်တို့သည် နေ၊ လ ကြတ်ခြင်းအစရှိသော အကြောင်းကြောင့် ပုဂ္ဂိုလ်၏ပြည့်စုံခြင်း၊ ပျက်စီးခြင်းဖြစ်သည်ဟု ယူဆကြသလော။ မိမိပြုသော ကုသိုလ်၊ အကုသိုလ်ကံကြောင့်ဖြစ်သည်ဟု ယူဆကြသလော။ အကယ်၍ နေ၊ လ ကြတ်ခြင်းစသည်ကြောင့်ဖြစ်သည်ဟု ယူဆကြလျှင် ကုသိုလ်၊ အကုသိုလ်ကံဟူသည် အချည်းနှီးသာတည်း။ အကယ်၍ ကုသိုလ်၊ အကုသိုလ်ကံကြောင့်ဟု ယူဆကြလျှင် နေ၊ လကြတ်ခြင်းကြောင့်ဟူသော စကားသည် မမှန်တော့ပေ။

**တစ်ပါးသောအယူအဆများ**

အသင်္ဂသည် ခန္ဓာ၊ ဒဗ္ဗ၊ ပရမာဏုနှင့် ပတ်သက်၍လည်း မိမိ၏ အယူအဆများကို ထင်ရှားဖော်ပြခဲ့၏။

၁။ ခန္ဓာ

(က) ရူပက္ခန္ဓာ၊ သို့မဟုတ် ဒဗ္ဗ-ရုပ်အပေါင်း (ရူပက္ခန္ဓာ)၌ ၁၄ ပါးသော ဒဗ္ဗများရှိကုန်၏။

(၁) ပထဝီ

(၂) အာပေါ

(၃) တေဇော

(၄) ဝါယော-မဟာဘုတ် ၄ ပါး။

(၅) ရူပ

(၆) သဒ္ဒ

(၇) ဂန္ဓ

(၈) ရသ

(၉) ဖောဋ္ဌဗ္ဗအာရုံ ၅ ပါး။

(၁၀) စက္ခု

(၁၁) သောတ

(၁၂) ဃာဏ (န)

(၁၃) ဇိဝှါ

(၁၄) ကာယ(=အရေ)-ဣန္ဒြေ ၅ ပါး

၎င်းဒဗ္ဗများကို အချို့ အချို့သော အရာဝတ္ထုတွင် တစ်ခုစီ တွေ့ရ၏။ ဥပမာ စိန်၊ ခရုသင်း၊ ကျောက်သလင်း သန္တာစသည်၌ ပထဝီသက်သက်-

စမ်း- စမ်းချောင်း- ရေကန်- မြစ်- ရေတံခွန် စသည်၌ အာပေါသက်သက်၊

ဆီမီး၊ မီးတောက် မီးလျှံ စသည်၌ တေဇောသက်သက်၊

အရှေ့လေ၊ အနောက်လေ စသည်၌ ဝါယောသက်သက်ဖြစ်၏။

အချို့သော အရာဝတ္ထုများတွင် ဒဗ္ဗ ၂ မျိုးစီတွေ့ရ၏။ ဥပမာ ရေခဲ-သစ်ရွက်-သစ်သီး-ပန်းပွင့်စသည်နှင့် ပတ္တမြားစသည်၌ ပထဝီနှင့်အာပေါ။

အချို့ အချို့သော သစ်ပင်စသည် နေလောင်ခြင်းခံရသောအခါ ပထဝီ၊ အာပေါ၊ တေဇော-ဒဗ္ဗ ၃ မျိုးကိုပင် တွေ့ရ၏။

အချို့ အချို့သော အရာဝတ္ထု၌ မဟာဘုတ် ၄ ပါးစလုံးကိုပင် တွေ့ရ

၏။ ဥပမာ ကိုယ်ကာယ၏ အတွင်း၌ ဆံပင်မှစ၍ ကျင်ကြီးကျင်ငယ်အထိတွင် တွေ့ရသကဲ့သို့တည်း။

ကက္ခဠ–ခက္ခဠ၊ မာခြင်းသည် ပထဝီသဘောကို ဖော်ပြ၏။ စီးသွားခြင်းသည် အာပေါသဘော၊ အထက်ဘက်သို့တက်၍လောင်ခြင်းသည် တေဇောသဘော၊ အထက်ဘက်သို့တက်သွားခြင်းသည် ဝါယော သဘောကိုပြ၏။

သဘောအသီးသီးရှိသော အရာဝတ္ထုများ၌ မဟာဘုတ်များကို မှတ်သားအပ်၏။ အားလုံးသော ရုပ်အပေါင်း၌ မဟာဘုတ်အားလုံးရှိ၏။ ထို့ကြောင့် ခြောက်သွေ့သော သစ်သား(ပထဝီ)ကို တိုက်ပွတ်သဖြင့် မီးဖြစ်လာ၏။ အလွန်ပူသော သဘောရှိသော ရွှေများသည် အရည်ပျော်သွားကုန်၏။

(ခ) ဝေဒနာ–ခံစားမှုကို ဝေဒနာဟုခေါ်၏။

(ဂ) သညာ–မှတ်သားမှုကို သညာခေါ်၏။

(ဃ) သင်္ခါရ–စိတ်၌ပါသော ပြုပြင်မှုကို သင်္ခါရခေါ်၏။

(င) ဝိညာဏ–ဝိညာဏ်နှင့်ပတ်သက်၍ ရှေးကဆိုခဲ့ပြီးလေပြီ။

၂။ **ပရမာဏု**–ဗီဇကဲ့သို့ ပရမာဏုများသည် ရုပ်တရားဖြစ်သော ဒဗ္ဗအကြမ်းစားအားလုံးအား ဖန်ဆင်း၏။ ၎င်းတို့ကား သိမ်မွေ့၍ နိစ္စတရားများဖြစ်ကြ၏။ အသင်္ဂသည် ဤကဲ့သို့သော ပရမာဏုတို့၏ သဘောကို ပယ်ဖျက်ခဲ့၏။

ပရမာဏုများ ပေါင်းစပ်သဖြင့် ရုပ်အပေါင်းအသင့်ဖြစ်မလာနိုင်။ အကြောင်းသော်ကား ပရမာဏုတို့၏ အတိုင်းအရှည်အဆုံးအပိုင်းအခြားနှင့် ပတ်သက်သော အသိဉာဏ်သည် စိတ်ကူးစိတ်သန်းအပေါ်၌ မှီနေ၏။ (ပစ္စက္ခမဟုတ်) ပရမာဏုသည် အစိတ်စိတ်ကင်း၏။ သို့ဖြစ်လျှင် ပရမာဏုသည် အစိတ်စိတ်ရှိသော ဒဗ္ဗများကို အဘယ်သို့လျှင် ဖန်ဆင်းနိုင်ပေအံ့နည်း။ ပရမာဏုသည် အစိတ်စိတ်နှင့်တကွဖြစ်၏ဟု မဆိုနိုင်၊ အကြောင်းသော်ကား ပရမာဏုသည်ပင်လျှင် အစိတ်စိတ်ဖြစ်နေ၏။ အစိတ်ဟူသည်မှာ ဒဗ္ဗအစိတ်သာဖြစ်၏။ ပရမာဏု၏အစိတ်မဟုတ်။

ပရမာဏုသည် နိစ္စဖြစ်၏ဟူသောစကားသည် မမှန်။ အကြောင်းသော်ကား ဤနိစ္စသဘောကို စူးစမ်း၍ မည်သူကမှ အခိုင်အမာပြုမထားခဲ့သေး

ပေ။ သိမ်မွေ့သဖြင့် ပရမာထ်သည် နိစ္စဖြစ်၏ဟူသောစကားလည်း မမှန်။ အကြောင်းသော်ကား သိမ်မွေ့သဖြင့် ပရမာထ်သည် ပို၍အားနည်း(ထို့ကြောင့်ပင် ပျက်စီး)ပေလိမ့်မည်။

*

## ၄။ ဒိန္နာဂ (ခရစ်နှစ် ၄၂၅)

ဝသုဗန္ဓုကဲ့သို့ ဒိန္နာဂကိုလည်း ချန်ထား၍ ရှေ့သို့ဆက်လက်ရန် မဖြစ် နိုင်ပေ။ ဤသို့ ကျွန်ုပ်က ယူဆ၏။ သို့သော် ကျွန်ုပ်သည် ဓမ္မကိတ္တိ၏ အဘိဓမ္မာနှင့်ပတ်သက်၍ ၎င်း၏ ပမာဏဝတ္တိကကို အခြေခံထား၍ အကျယ် တဝင့်ရေးသာရပေဦးမည်။ ပမာဏဝတ္တိကသည် အကယ်စင်စစ်အားဖြင့် ဆရာ ဒိန္နာဂ၏ ပဓာနကျမ်းဖြစ်သော ပမာဏသမုစ္စယကျမ်း၏ ဗျာချာ (ဝတ္တိက) ဖြစ်၏။ ၎င်းဝတ္တိကၡ ဓမ္မကိတ္တိသည် မိမိ၏ မူလဖြစ်သော အယူအဆကို နေရာများစွာတွင် ဒိန္နာဂနှင့် အယူအဆကွဲပြားလျက် ဖော်ပြခဲ့လေသည်။ ထို့ကြောင့် ဒိန္နာဂနှင့်ပတ်သက်၍ နောက်ထပ်ရေးသားနေလျှင် ပုနရုတ္တိဒေါသသာ သင့် ရောက်လေရာသည်။ ၎င်းပြင် ကျမ်းကျယ်မှုလည်း ဖြစ်ရာ၏။ ဒိန္နာဂနှင့် ပတ်သက်၍ ကျွန်ုပ်တစ်နေရာၡ (ပုရာတတ္တနိဗန္ဓာဝလိကျမ်း) ရေးသားခဲ့၏။

ဒိန္နာဂ (ခရစ်နှစ် ၄၂၅) သည် ဝသုဗန္ဓု၏ တပည့်ဖြစ်၏။ ဤအကြောင်း ကို တိဗက်စဥ်လာ စာတမ်းများအရ သိရ၏။ ၎င်းပြင် ဒိန္နာဂနှင့် ပတ်သက် သော တိဗက်စဥ်လာစာတမ်းများသည် ၈ ရာစုတွင် အိန္ဒိယမှ ရောက်သွား ကြ၏။ ထို့ကြောင့် ၎င်းစဥ်လာ စာတမ်းများကို အိန္ဒိယစဥ်လာစာတမ်းများ ဟုသာ ဆိုသင့်ပေ၏။ တရုတ်စဥ်လာစာတမ်းများတွင် ဒိန္နာဂကို ဝသုဗန္ဓု၏ တပည့်ဖြစ်ကြောင်း မရေးခဲ့သော်လည်း တပည့်ဖြစ်သူဟူသော စကားနှင့် ဆန့်ကျင်ဘက်စကားကိုလည်း မတွေ့ရပေ။

ဒိန္နာဂ၏ခေတ်သည် ဝသုဗန္ဓုနှင့် ကာလိဒါသအကြားတွင် ဖြစ်နိုင်ပေ ၏။ ဤသို့အားဖြင့် ဝသုဗန္ဓုနှင့် ဒိန္နာဂတို့ ခေတ်ကို ခရစ်နှစ် ၄၂၅ အချိန်းအပါး

ဟု ခန့်မှန်းနိုင်ပေ၏။

နျာမုခအပြင် ဒိန္နာဂ၏ အရေးကြီးသော ကျမ်းကား ပမာဏသမုစ္စယ တည်း။ ၎င်းကို တိဗက်ဘာသာပြန်ဖြင့်သာ တွေ့ရတော့၏။

ဗျာကရဏ်းဆရာကြီးတစ်ဦးဖြစ်သူ ကာသိကာဝိဝရဏပဥ္စကာ (=နျာသ) ကျမ်းပြုဇိနေန္ဒဗုဒ္ဓိ (ခရစ်နှစ် ၇၀၀) ၏ တိဘက်ဘာသာပမာဏသမုစ္စယဋီကာ ကိုလည်း တွေ့ရ၏။

ဒိန္နာဂသည် တမိလနယ် ကဉ္စိ (=ကန်ဂျီဝရမ်း) အနီးအပါး "သိတဝက္က" အမည်ရှိသောရွာ ဗြာဟ္မဏလူမျိုးတစ်ဦး၏အိမ်တွင် မွေးဖွားခဲ့၏။ အရွယ် ရောက်သောအခါ ဒိန္နာဂသည် ဝစ္ဆိပုတ္တိယ ဗုဒ္ဓဘာသာဂိုဏ်းဝင် နာဂဒတ္တ မည်သော ရဟန်းတော်တစ်ပါးနှင့်တွေ့၍ ရဟန်းပြုခဲ့လေသည်။ အတန်ငယ် စာပေသင်ကြားပြီးနောက် မိမိဆရာနှင့် ပုဂ္ဂလ (=အတ္တ) အကြောင်းတွင် အယူ အဆ ကွဲပြားခဲ့လေသည်။ ထို့ကြောင့်ပင် ကျောင်းတိုက်ကို စွန့်ခွာသွား ခဲ့လေသည်။ ထို့နောက် ဒိန္နာဂသည် အိန္ဒိယမြောက်ပိုင်းသို့သွား၍ ဆရာ ဝသုဗန္ဓုတပည့်အဖြစ် ခံယူလိုက်လေသည်။ ထို့နောက် နျာယသျှတ္တရာ (=တက်ကျမ်း အတတ်) ကို အထူးတလည်လေ့လာခဲ့လေသည်။

လေ့လာပြီးနောက် ဒိန္နာဂသည် စကားစစ်ထိုးပွဲများတွင် ပြိုင်ဘက်များ အပေါ် အောင်ပွဲဆင်ခြင်း၊ နည်းပါးသော်လည်း နက်နဲသော နျာယကျမ်း များကို ရေးသားခြင်းဖြင့် အချိန်ကို ကုန်လွန်စေခဲ့၏။

ဒိန္နာဂ၏ ပဓာနဖြစ်သော ပမာဏသမုစ္စယကျမ်း၌ သိလောက (=ကာ ရိ ကာ)တို့၏ အရေအတွက်ကား အောက်ပါအတိုင်းဖြစ်၏။

| ပရိစ္ဆေဒ | အကြောင်း |
|---|---|
| ၁ | ပစ္စက္ခ ပရိက္ခာ |
| ၂ | သတ္တာနုမာန ပရိက္ခာ |
| ၃ | ပရတ္တာနုမာန ပရိက္ခာ |
| ၄ | ဒိဋ္ဌန္တ ပရိက္ခာ |
| ၅ | အပေါဟ ပရိက္ခာ |
| ၆ | ဇာတိပရိက္ခာ |

| ပရိစ္ဆေဒ | သိလောက အရေအတွက် |
|---|---|
| ၁ | ၄၈ |
| ၂ | ၂၁ |
| ၃ | ၅၀ |
| ၄ | ၂၁ |
| ၅ | ၅၂ |
| ၆ | ၂၅ |
| | ၂၄၇ |

ပမာဏ သမုစ္စယ၏ မူလသက္ကတဘာသာကျမ်းရင်းကို ယနေ့အထိ မတွေ့နိုင်သေးပေ။ ကျွန်ုပ်သည် တိဗက်သို့ ၄ ကြိမ်တိုင်တိုင် သွားရောက်ခဲ့ရာ ဤကျမ်းကို ကြိုးစားပမ်းစားရှာဖွေခဲ့၏။ သို့သော် ၎င်းကျမ်းသည် တိဗက်ပြည် ရဟန်းကျောင်း၊ ပုထိုး သို့မဟုတ် ရုပ်တုတော် တစ်ခုခုအတွင်း၌ တစ်နေ့နေ့တွင် တွေ့ရလိမ့်မည်။ ဘယ်နေ့တွေ့ရမည်နည်းဟု ကျွန်ုပ်ကတော့ မျှော်လင့်လျက်သာ ရှိနေပေသည်။

ပမာဏ သမုစ္စယ၏ ပထမ သိလောကတွင် ဒိန္နာဂသည် ကျမ်းရေးသားရခြင်း၏ အကျိုးကို ဤသို့ရေးသားထားခဲ့၏။

"ကမ္ဘာ့အကျိုးစီးပွားကို လိုလားတောင့်တတော်မူသော ပမာဏဖြစ်တော်မူသည့် လမ်းညွှန်ဗုဒ္ဓအား ရှိခိုးပြီး၍ ဟိုဟိုသည်သည်ပြန့်ကျဲ၍နေသော အယူအဆများကို ဤကျမ်းတစ်နေရာတည်းတွင် ပမာဏအားဖြင့် ပြီးမြောက်မှုဖြစ်စေရန် စုပေါင်းပေအံ့"

ဒိန္နာဂသည် သူ၏ကျမ်းများ၌ အခြားသောအယူဝါဒများနှင့် ပဋ္ဌာယန၏ န္ယာယဘာသာကို အဘယ်မျှဝေဖန်သနည်းဆိုသော ပါသုကာစရိယ ဥဒ္ဒျောတကရ ဘာရဒွါဇသည် ၎င်းဝေဖန်ချက်ကို ပြန်လည်ဖြေရှင်းရန်အတွက် သက်သက် ဝဋ္ဌာယန၏ ဘာသာအဖွင့် န္ယာယဝတ္တိကကို ရေးသားရ၏။

*

## ၅။ ဓမ္မကိတ္တိ (ခရစ်နှစ် ၆၀၀)

ဒေါက်တာရှားဗတ်စကီး (STCHERBATSKY) ၏ အသုံးအားဖြင့် ဓမ္မကိတ္တိသည် အိန္ဒိယ၏ "ကန့်"ဖြစ်၏။ ("ကန့်"ကား ဂျာမန်အဘိဓမ္မာ ဆရာကြီး၏ အမည်) ဓမ္မကိတ္တိ၏ အသိဉာဏ်ထက်သန်ပုံကို ပြိုင်ဘက်များပင် ဝန်ခံကြရ၏။

ဥဒ္ဒေါတကရ (ခရစ် ၅၅၀) ၏ "နျာယဝတ္တိက"ကို ဓမ္မကိတ္တိသည် သူ၏ တက္ကအတတ်ပညာတည်းဟူသော မြားဖြင့် အဘယ်မျှပစ်ဖောက်ချိုးဖျက်ခဲ့သနည်းဆိုသော် ဝါစပ္ပတိ (၈၄၁) သည် ၎င်းပမာဏဝတ္တိက၏ အဖွင့်ဋီကာရေး၍ (ဓမ္မကိတ္တိ၏) တက္ကတည်းဟူသော ရွံ့ညွန်တွင် နစ်ကျွံနေသော ဥဒ္ဒေါတကရ၏ အလွန်အိုမင်းနေသော နွားများကိုထုတ်ဆောင်းပေးမှုကုသိုလ်ဖြစ်အောင် ကြိုးစားခဲ့ရ၏။

ဇယန္တဘဋ္ဋ (ခရစ် ၁၀၀၀)သည် ဓမ္မကိတ္တိ၏ကျမ်းများကို ပြင်းပြင်းထန်ထန်ဝေဖန်ခဲ့သော်လည်း ဓမ္မကိတ္တိအား "အလွန်သိမ်မွေ့သော အသိဉာဏ်ရှိကြောင်းနှင့် ၎င်း၏ ကြိုးပမ်းမှုကို ကမ္ဘာလုံးလွှမ်းခြုံသော ခိုင်ခံ့မှုကြီး"ဟု အသိအမှတ်ပြုခဲ့ရ၏။

မိမိကိုယ်ကို မိမိနှစ်ယောက်မရှိသော စာဆိုတော်ကြီးဟု အထင်ရောက်နေသော သိရီဟာသ (ခရစ် ၁၁၉၂) သည် ဓမ္မကိတ္တိ၏ အတ္တလမ်းကြောင်းကို "အဆီးအတားမရှိ"ဟု ဆို၍ ဓမ္မကိတ္တိ၏ အသိဉာဏ်ကို ထောက်ခံခဲ့၏။

စင်စစ်အားဖြင့် ဓမ္မကိတ္တိ၏ ဉာဏ်ထက်သန်ပုံကို ထိုစဉ်အခါကထက် ယနေ့ပညာရှိပရိသတ်ကပို၍ ခန့်မှန်းနိုင်၏။ ယနေ့အဘိဓမ္မာနှင့် ဝိဇ္ဇာပညာ

ရပ်၏ တိုးတက်မှုတွင် တိုးတက်မှု၏ တန်ဖိုးကို ယနေ့ အဘိဓမ္မာဆရာကြီးများနှင့် ဝိဇ္ဇာပညာရပ်ဆရာကြီးများက ပို၍သိနိုင်ပေသည်။

(၁) အတ္တုပ္ပတ္တိ–ဓမ္မကိတ္တိသည် စောလ (=တမိလမြောက်ပိုင်း)တိုင်း "တိရုမလိုက်" အမည်ရှိသောရွာ ဗြာဟ္မဏတစ်ဦး၏ အိမ်တွင် ဖွားမြင်ခဲ့၏။ ၎င်း၏ ဖခင်အမည်ကို တိဗက်စဉ်လာစာတမ်းများ၌ ကောရုနန္ဒဟု တွေ့ရ၏။ အချို့အချို့သော စာတမ်းများတွင် ၎င်းကို ကုမာရိလဘဋ္ဋ၏တူတော်ဟု ရေးသားကြ၏။ မှန်ဖို့ရန် အလွန်နည်းသော်လည်း ၎င်းစကားမှန်လျှင် ဦးရီးတော်၏ တက္ကကို တူတော်က ပမာဏဝတ္တိကတွင် ပယ်ဖျက်လျက် နှစ်နှစ်နာနာပြောင်လှောင်ခဲ့ခြင်းဖြင့် ထိုပြောင်လှောင်မှုက ဓမ္မကိတ္တိအား အသက်ထင်ရှားရှိသော အပြောင်ဝါသနာပါသူတစ်ဦးအဖြစ် ထျွန်မ့်ပ်တို့ရှေ့သို့ ဆောင်ယူခဲ့လေသည်။

ဓမ္မကိတ္တိသည် ငယ်စဉ်ကပင် အလွန်ဉာဏ်ကောင်း၏။ ပထမ ၎င်းသည် ဗြာဟ္မဏကျမ်းများနှင့် ဝေဒ–ဝေဒင်္ဂတို့ကို လေ့လာ၏။ ထိုစဉ် အခါက ဗုဒ္ဓဘာသာ၏အလံတော်သည် အိန္ဒိယပြည်၏ ထောင့်တိုင်းမှာပင် တလူလူလွင့်လျက်ရှိ၏။ ထို့နောက် နာဂဇ္ဇုန၊ ဝသုဗန္ဓု၊ ဒိန္နာဂ၏ ဗုဒ္ဓ အဘိဓမ္မာသည် ဆန့်ကျင်ဘက်များအကြားတွင် ဂုဏ်ကျက်သရေ ရရှိခဲ့လေသည်။

ဓမ္မကိတ္တိသည် ဗုဒ္ဓအဘိဓမ္မာကို တတ်သိနားလည်ရန် အခွင့်ရခဲ့လေ၏။ ဓမ္မကိတ္တိအား ဗုဒ္ဓအဘိဓမ္မာက အဘယ်မျှ လွှမ်းမိုးသနည်းဆိုသော် တိဗက်စဉ်လာစာတမ်းများအရ ၎င်းသည် ဗုဒ္ဓဘာသာဝင်ဉပါသကာတစ်ဦးအသွင်ဖြင့် အပြင်ဘက်သို့ သွားလာစပြုခဲ့လေ၏။ ထို့ကြောင့် ဗြာဟ္မဏများက သူ့အား ကြဉ်ထုတ်လိုက်ကြလေ၏။

ထိုစဉ်အခါ နာလန္ဒာ၏ ကျော်စောသတင်းသည် အိန္ဒိယမှ ဝေးလံလှစွာသော အရပ်များသို့တိုင်အောင် ပျံ့နှံ့လျက်ရှိခဲ့လေသည်။ ဓမ္မကိတ္တိသည် နာလန္ဒာသို့ ထွက်ခွာလာပြီးနောက် ၎င်း၏ခေတ်တွင် ဝိညာနဝါဒီအဘိဓမ္မာဆရာကြီးတစ်ဦးလည်းဖြစ်၊ နာလန္ဒာ၏ သံဃထေရ်(=ပဓာန)လည်းဖြစ်တော်မူသော ဓမ္မပါလ၏ တပည့်အဖြစ်ဖြင့် ရဟန်းဘောင်သို့ ဝင်ရောက်လေသည်။

ဓမ္မကိတ္တိသည် နျာယသျှတ္တရကို လေ့လာရာဝယ် အလွန်ဝါသနာထုံ၏။ ဓမ္မကိတ္တိသည် နျာယသျှတ္တရကို ဒိန္နာဂ၏တပည့်အစဉ်အဆက် ဆရာတော်

ဣလာသရသေနထံမှ သင်ယူ၏။

ပညာသင်ကြားပြီးဆုံးသွားပြီးနောက် ဓမ္မကိတ္တိသည် သူ၏ အတ္ထုပ္ပတ္တိကို ရေးခြင်း၊ စကားစစ်ထိုးခြင်း၊ စာပေသင်ကြားခြင်းဖြင့် အချိန်ကို ကုန်လွန်စေ၏။

(ဓမ္မကိတ္တိ၏ခေတ် ခရစ်နှစ် ၆၀၀) "တရုတ်ခရီးသည် ဣ–ချင်သည် သူ၏မှတ်တမ်းတွင် ဓမ္မကိတ္တိအကြောင်း ရေးသားခဲ့၏။ ထို့ကြောင့် ဓမ္မကိတ္တိသည် ခရစ်နှစ် ၆၇၉ ခုနှစ် အရင်ကျ၏။ (ဤအချက်တွင် သံသယဖြစ်ဖွယ်မရှိ) ဓမ္မကိတ္တိသည် နာလန္ဒာကျောင်းတော်ပဓာနဆရာတော် ဓမ္မပါလ၏ တပည့်ဖြစ်၏။

ယုန်–ကျွင်၏ခေတ် (ခရစ်နှစ် ၆၃၃)၌ ဓမ္မပါလ၏ တပည့် သီလဘဒ္ဒသည် နာလန္ဒာကျောင်းတော်၌ ပဓာနဆရာတော်ဖြစ်၏။ ၎င်း၏သက်တော်မှာ ထိုအချိန်က ၁၂၆ နှစ် ဖြစ်၏။ ဤအချိန်တွင် ဓမ္မပါလ၏တပည့် ဓမ္မကိတ္တိသည် ခရစ်နှစ် ၆၃၅ ခုနှစ်၌ ကလေးငယ် မဟုတ်နိုင်ပေ။ (ဓမ္မကိတ္တိနှင့်ပတ်သက်၍) ယုန်–ကျွင် နှုတ်ဆိတ်နေခဲ့ခြင်းအကြောင်းကား ယုန်–ကျွင် နာလန္ဒာတွင် မနေမီကပင် ဓမ္မကိတ္တိကွယ်လွန်ခဲ့ပြီဖြစ်သောကြောင့်ဖြစ်နိုင်၏" (ကျွန်ုပ်ရေးပုရာတတ္တ နိဗန္ဓာဝလိ)

ဤအကြောင်းအပြင် အခြားသော အကြောင်းအချက်များကို စဉ်းစားဆင်ခြင်သဖြင့် ဓမ္မကိတ္တိ၏ ခေတ်ကို ခရစ်နှစ် ၆၀၀ တိတိဟု သိရ၏။

**(၂) ဓမ္မကိတ္တိ၏ ကျမ်းဂန်များ–** ဓမ္မကိတ္တိသည် သူ၏ကျမ်းများကို ပမာဏနှင့် စပ်သော ဗုဒ္ဓအဘိဓမ္မာ၊ သို့မဟုတ် ဗုဒ္ဓပမာဏ သျှတ္တရများနှင့် ပတ်သက်၍ ရေးသား၏။ ကျမ်းပေါင်း (၉)ကျမ်းရှိ၏။ ၎င်းတို့အနက် (၇) ကျမ်းမှာ မူလကျမ်းဖြစ်၍ (၂) ကျမ်းမှာ ကိုယ်တိုင်ရေး ကျမ်းများ၏ ဋီကာများဖြစ်၏။

| ကျမ်းအမည် | ကျမ်းအတိုင်းအရှည် (သိလောကအားဖြင့်) | |
|---|---|---|
| ၁။ ပမာဏဝတ္တိက | ၁၄၅၄နဲ့ | (ပဒ္ဓ) |
| ၂။ ပမာဏဝိနိစ္ဆယ | ၁၃၄၀ | (ဂဒ္ဓ–ပဒ္ဓ) |
| ၃။ န္ယာယဗိန္ဒု | ၁၇၇ | (ဂဒ္ဓ) |

| | | |
|---|---|---|
| ၄။ ဟေတုဗိန္ဒု | ၄၄၄ | (ဂဇ္ဇ) |
| ၅။ သမ္ဗန္ဓပရိက္ခာ | ၂၉ | (ပဇ္ဇ) |
| ၆။ ဝါဒနျာယ | ၇၈၉ | (ဂဇ္ဇ-ပဇ္ဇ) |
| ၇။ သန္တာနန္တရသိဒ္ဓိ | ၇၂ | (ပဇ္ဇ) |
| | ၄၃၁၄ ခွဲ | |

**ဋီကာများ**

၁။ ဝုတ္တိ ၃၅၄၀ (ဂဇ္ဇ) (ပမာဏဝတ္တိက ပထမ) (ပရိစ္ဆေဒအဖွင့်)

၂။ ဝုတ္တိ ၁၄၇ (ဂဇ္ဇ) (သမ္ဗန္ဓပရိက္ခာအဖွင့်) သိလောကပေါင်း-၃၆၄၇။

ဓမ္မကိတ္တိသည် မူလကျမ်းရင်းနှင့် ဋီကာ ၂ ရပ်ပေါင်း၍ (၄၃၁၄ ခွဲနှင့် ၃၆၄၇) ၇၉၆ါ သိလောက (အက္ခရာ ၃၂-လုံး) နှင့်ညီမျှသော ကျမ်းများကို ရေးသားဘိသကဲ့သို့ ရှိ၏။ ဓမ္မကိတ္တိ၏ ကျမ်းများ အဘယ်မျှကြီးကျယ်ကြောင်းကို တိဗက်ဘာသာဖြင့် ပြန်ဆိုထားအပ်သော ဗုဒ္ဓနျာယဆိုင်ရာ သက္ကတကျမ်းများ၏ သိလောကပေါင်း ၁၇၅၀၀၀ ရှိသည့်အနက် ၁၃၇၀၀၀ မှာ ဓမ္မကိတ္တိ၏ဋီကာ၊ အနုဋီကာများဖြစ်သည်ဟု သိရ၏။

(ပမာဏဝတ္တိက) ဓမ္မကိတ္တိ၏ ပမာဏဝတ္တိကသည် ဒိန္နာဂ၏ ပမာဏသမုစ္စယကျမ်း၏ လွတ်လပ်သော အဖွင့်တစ်ခုဖြစ်ကြောင်း ရေးဆိုခဲ့ပြီးလေပြီ။ ပမာဏသမုစ္စယ၏ ပရိစ္ဆေဒ ၆ ခုကို ကျွန်ုပ်တို့ ဆိုခဲ့ပြီးလေပြီ။ ပမာဏဝတ္တိက၏ ပရိစ္ဆေဒ ၄ ခု၏ အကြောင်းအရာမှာ

(၁) ပမာဏသိဒ္ဓိ

(၂) ပစ္စက္ခပမာဏ

(၃) သတ္တာနုမာနပမာဏနှင့်

(၄) ပရတ္ထာနုမာနပမာဏများဖြစ်ကြ၏။ သို့သော် ယေဘုယျအားဖြင့် ဓမ္မကိတ္တိ၏ ကျမ်းများတွင် သတ္တာနုမာနဟူသော အစဉ်ကို တွေ့ရ၏။

ပမာဏသမုစ္စယ၏ ပမာဏဝတ္တိကဖွင့်ရာအပိုင်းသည် အဘယ်သို့သော အစဉ်ဖြင့် ဖြစ်သည်ကို ကျွန်ုပ်တို့တွေ့မြင်ကြလျှင် အဆိုပါအစဉ်မှားကြောင်း သိရန် ခက်ခဲမည်မဟုတ်ပေ။

ထိုအကြောင်းကိုသိရန် ပမာဏသမုစ္စယ၏ ပရိစ္ဆေဒနှင့် ၎င်းအဖွင့်

ပမာဏဝတ္တိကကို ကြည့်ပါလေ–

| | |
|---|---|
| ပမာဏ သမုစ္စယ | ပရိစ္ဆေဒ |
| မင်္ဂလာစရဏ | ၁၊ ၁ |
| ပစ္စက္ခ | ၁ |
| သတ္တာနုမာန | ၂ |
| ပရတ္တာနုမာန | ၃ |
| ပမာဏဝတ္တိက | ပရိစ္ဆေဒ (ဖြစ်သင့်၏) |
| ပမာဏသိဒ္ဓိ | (၁) |
| ပစ္စက္ခ | (၂) |
| သတ္တာနုမာန | (၃) |
| ပရတ္တာနုမာန | (၄) |

ပမာဏသမုစ္စယ၏ ကြွင်းကျန်သော ပရိစ္ဆေဒများ–ဒိဋ္ဌန္တ၊ အပေါဟ၊ ဇာတိ(=သာမည) ပရိက္ခာ–တို့နှင့်စပ်လျဉ်း၍ သီးသန့်ပရိစ္ဆေဒများအဖြစ် မရေးသားဘဲ ၎င်းတို့ကို ပမာဏဝတ္တိက အဆိုပါပရိစ္ဆေဒများတွင် အရာအား လျော်စွာ ဓမ္မကိတ္တိက ဝေဖန်ခဲ့၏။

ဉာယဗိန္ဒုနှင့် ဓမ္မကိတ္တိ၏ အခြားသော ကျမ်း၌လည်း ပစ္စက္ခ သတ္တာနုမာန၊ ပရတ္တာနုမာနဟူသော ယုတ္တိတန်သည့်အစီအစဉ်ကိုသာ သတ်မှတ်ထား၏။ ထို့ပြင် မနောရထနန္ဒီသည် ပမာဏဝတ္တိကဝုတ္တိ၌ ၎င်းအစီအစဉ်ကိုသာ လက်ခံခဲ့၏။ ထို့ကြောင့် ဘာသာများ၊ ပဉ္စိကာများ၊ ဋီကာများ၊ သို့မဟုတ် မူလပါဠိများတွင် အရာခပ်သိမ်း သတ္တာနုမာနပမာဏသိဒ္ဓိ၊ ပစ္စက္ခပရတ္တာနုမာနဟူသော အစဉ်ကို မြင်ရသဖြင့်လည်း ကျမ်းပြုဆရာ၏အစဉ်သည် ဤကဲ့သို့ သတ္တာနုမာနပမာဏသိဒ္ဓိ၊ ပစ္စက္ခနှင့် ပရတ္တာနုမာနဟူ၍ မဖြစ်နိုင်ပေ။ စင်စစ်သော်ကား မနောရထနန္ဒီဝန်ခံသော အစဉ်(ပစ္စက္ခ၊ သတ္တာနုမာန၊ ပရတ္တာနုမာန) သာလျှင် မှန်ကန်ကြောင်း ထင်ရှား၏။

အစဉ်တွင် ရှေ့နောက်ပြောင်းပြန်ဖြစ်နေရခြင်း၏ အကြောင်းသော်ကား ဓမ္မကိတ္တိ၏ ကိုယ်တိုင်ရေးသတ္တာနုမာနအဖွင့် ဝုတ္တိဖြစ်၏။ ဓမ္မကိတ္တိ၏ သည့်

ဒေဝိန္ဒဗုဒ္ဓိသည် ကျမ်းပြုဆရာ၏ ဝုတ္တိရှိသော သတ္တနမာနပရိစ္ဆေဒ ကို ချန်လှပ်၍ ပဋိကာကို တသီးတသန့်စီထားရန် ပမာဏဝတ္တိကကို ၂ ပိုင်းခွဲခြားထားခဲ့၏။ ထိုခွဲခြားပုံကို နောက်ထပ် အမြဲတမ်းသဘောထားရှိရာ တွင် ပညာကာရဂုတ္တ၏ ဘာသျနှင့် ဒေဝိန္ဒဗုဒ္ဓိ၏ ပဋိကာရှိသော ပရိစ္ဆေဒ ၃ခုကို ရွေးချယ်မှုက အကူအညီပေးခဲ့လေသည်။

ဤအစဉ် အရာခပ်သိမ်း ပျံ့နှံ့နေသည်ကို တွေ့မြင်ရ၍ မူလကာရိကာ စာမူများ၌လည်း စာရေးဆရာများသည် အဆိုပါ မှားယွင်းသော အစဉ်ကို သူတို့၏ လက်ရာအဖြစ် ခံလိုက်ကြရလေသည်။

မနောရထနန္ဒီဝန်ခံခဲ့သော အစဉ်အားလျော်စွာ ၎င်း၏ ဝုတ္တိကို ကျွန်ုပ် တည်းဖြတ်ခဲ့၏။

၎င်းမှာ သိလွယ်၏။ သို့သော်လည်း မူလပမာဏဝတ္တိကကိုကား ကျွန်ုပ် သည် အများဝန်ခံသည့်ပြင် တိဗက်ဘာသာပြန်နှင့် ပေမူများတွင် တွေ့ရသော အစဉ်ဖြင့် တည်းဖြတ်ခဲ့၏။ ၎င်းပြင် ပညာကရဂုတ္တ၏ပမာဏဝတ္တိက ဘာသျ (ဝတ္တိကာ လင်္ကာရ) ကိုလည်း ထိုအများဝန်ခံသောအစဉ်ဖြင့်သာ သက္ကတဘာ သာဖြင့်တွေ့ရှိ၍ထုတ်ဝေရန် အသင့်ဖြစ်နေ၏။ ထို့ကြောင့် ကျွန်ုပ် ခည်း ဤအခန်းတွင် ပရိစ္ဆေဒနှင့် ကာရိကာစဉ်ရာ၌ အဆိုပါအများက ဝန်ခံ ထားသော အစဉ်ကို လက်ခံခဲ့ပေ၏။

ဓမ္မကိတ္တိ၏ အဘိဓမ္မာနှင့်ပတ်သက်သော အယူအဆများကို ရေးသား ဖော်ပြလျက် ပမာဏဝတ္တိကတွင်လာသော အရေးကြီး အရေးကျယ်အကြောင်း များကို ကျွန်ုပ်တို့ရှေ့တွင် ဆိုလတ္တံ့ဖြစ်၏။ သို့သော်လည်း ဤနေရာတွင် ပရိစ္ဆေဒအစဉ်အားဖြင့် အရေးကြီးသော အကြောင်းများကို စီစဉ်ဖော်ပြ ထားပေသည်။

## အကြောင်းအရာ

## ပရိစ္ဆေဒကာရိကာ

### ပထမ ပရိစ္ဆေဒ
(သတ္တာနုမာန)



### ဒုတိယ ပရိစ္ဆေဒ
(ပမာဏသိဒ္ဓိ)



### တတိယ ပရိစ္ဆေဒ
(ပစ္စက္ခပမာဏ)

### စတုတ္ထ ပရိစ္ဆေဒ
(ပရတ္ထာနုမာန)



**(၃) ဓမ္မကိတ္တိ၏ အဘိဓမ္မာ**– ဓမ္မကိတ္တိသည် ပမာဏ (ဉာယ) သျှတ္တရာ သက်သက်နှင့်စပ်လျဉ်း၍ ကျမ်းပေါင်း (၇) ကျမ်းရေးသားခဲ့၏။ အဘိဓမ္မာနှင့် ပတ်သက်၍ ဆိုရမည့်အချက်များကိုလည်း အဆိုပါ ပမာဏသျှတ္တရာဆိုင်ရာ ကျမ်းများတွင် ရေးခဲ့လေသည်။ အဆိုပါ (၇) ကျမ်းအနက် ပမာဏဝတ္တိက (၁၄၅၄ ခွဲသိလောက)၊ ပမာဏ ဝိနိစ္ဆယ (၁၃၄၀ သိလောက) ကျမ်းများသည် အကြောင်းအရာတစ်ခုတည်းကို ဖော်ပြရေးသားသောကျမ်းများဖြစ်၏။ ၎င်းကျမ်းများအနက် အကြီးဆုံးနှင့် တိုတိုကျဉ်းကျဉ်းလိုရင်းအချက်များကို ဖော်ပြပါရှိသော ကျမ်းမှ ပမာဏဝတ္တိကဖြစ်၏။ ဝါဒဉာယ၌ ဆရာတော် ဓမ္မကိတ္တိသည် အက္ခပါဒ၏ ၁၈ ပါးသော နိဂ္ဂဟဋ္ဌာနများ၏ ရှင်းတမ်းကြီးကို ဂါထာဝက်ဖြင့် ဆိုခဲ့၏။

(ဝါဒအတွက်)သာဓကကင်းသောအကြောင်း (စကား)ကိုဆိုခြင်း (ပတိဝါဒီ၏)အပြစ်ကို မဖမ်းခြင်းသည် နိဂ္ဂဟဋ္ဌာန (ရှုံးနိမ့်ခြင်း)တည်း။ (ဝါဒဉာယစာမျက်နှာ ၁)

သမ္ဗန္ဓပရိက္ခာ၏ ၂၉ ပါးသော ကာရိကာတို့တွင် ဓမ္မကိတ္တိသည် ခဏိကဝါဒအားလျော်စွာ ကျိုးကြောင်း ဆက်စပ်မှုကို အဘယ်ပုံသတ်မှတ်နိုင်သည်ဟူသော အချက်ကိုဆိုခဲ့၏။ ၎င်းအကြောင်း ပမာဏဝတ္တိကတွင်လည်း ပါ၏။

သန္တန္တရသိဒ္ဓိကျမ်း၏ ၇၂ ခုသော သုတ်တို့တွင် ဤမနသန္တာန(မနသည် တစ်စုံတစ်ခုသော ဝတ္ထုမဟုတ်၊ စင်စစ်သော်ကား ခဏတိုင်းပျက်စီး၍ အသစ်အသစ်ဖြစ်ပေါ်လာသော အစဉ်အဖြစ်အပျက်တည်း)မှ အခြားအခြားသော မနသန္တာန(သန္တာနန္တရ)ဖြစ်ကြောင်းကို အခိုင်အမာပြုခဲ့၏။ နောက်ဆုံး၌ ဤအလုံးစုံသောမန (=ဝိညာဉ်) အစဉ်တို့သည် အဘယ်ပုံပူးပေါင်း၍ မြင်ရသောကမ္ဘာကို (ဝိညာဉ်ဝါဒအားလျော်စွာ) အပြင်ဘက်သို့ ပို့ပေးလိုက်ကြောင်း ပြဆိုခဲ့၏။ ဝိညာဉ်ဝါဒနှင့်ပတ်သက်၍ ပမာဏဝတ္ထိကဥ္စ ဓမ္မကိတ္တိလည်း ဖွင့်ဆိုခဲ့၏။

ဓမ္မကိတ္တိ၏ အဘိဓမ္မာကိုသိရန် ပမာဏဝတ္ထိကသည် ပြည့်စုံလုံ လောက်၏။

**(က) ထိုခေတ်အဘိဓမ္မာအခြေအနေ–** ဓမ္မကိတ္တိသည် ဒိန္နာဂကဲ့သို့ အသင်္ဂ၏ ယောဂါစာရ(ဝိညာဉ်ဝါဒ)အဘိဓမ္မာဆိုင်ရာ ဂိုဏ်းကို လက်ခံသူဖြစ်၏။ ဝသုဗန္ဓု၊ ဒိန္နာဂ၊ ဓမ္မကိတ္တိကဲ့သို့ ကြီးကျယ်သော တက္ကပညာရှင်ကြီးများ၏ သုညဝါဒကို ချန်ထား၍ ဝိညာနဝါဒနှင့် စပ်ခြင်းသည် ဟေဂယ်(လ)ကဲ့သို့ ၎င်းဆရာများလည်း သူတို့၏ တက္ကနှင့် အညီဖြစ်သော အဘိဓမ္မာဆိုင်ရာအယူအဆများအတွက် ဝိညာနဝါဒကို အကြီးအကျယ်လိုလားအပ်၏။

သို့သော် ဓမ္မကိတ္တိသည် ယောဂါစာရသက်သက်မဟုတ်၊ သုတ္တန္တိက၊ (သို့မဟုတ်၊ လွတ်လပ်သူ) ဟု အသိအမှတ်ပြုခြင်းခံရ၏။ သုတ္တန္တိက (ဝါ–လွတ်လပ်သူ) များသည် အပြင်အပကမ္ဘာလောကကြီး၏ အရှိသဘောကိုသာ မူလသဘောဟုအမှတ်အသားပြုကြ၏။ ယောဂါစာရဂိုဏ်းသားများကား ဝိညာဉ်(စိတ္တ၊ မန) သက်သက်ကိုသာ မူလသဘောဟု အမှတ်အသားပြုကြ၏။ သုတ္တန္တိက (သို့မဟုတ် သွာတန္တိက)ဟူသည် ယောဂါစာရ၏ အဓိပ္ပာယ်တည်း။ အပြင်အပလောက၏ အလျဉ်တည်းဟူသော (ခဏိက) ဝတ္ထုရှိသဘောကို ဝန်ခံလျက် ဝိညာဉ်ကိုမူလသဘောဟု ဝန်ခံခြင်း–တကယ့်ဟေဂယ်(လ)ကဲ့သို့တည်း–၎င်း၏အနက်ကား ယနေ့စကားသုံးအားဖြင့် ရုပ်တရားသည် ဝိညာဉ်၏ ဝတ္ထုရှိအရည်အချင်းသဘောသို့ ပြောင်းကူးခြင်းမျှသာတည်း။

ရှေးဟောင်းယောဂါစာရ အဘိဓမ္မာ၌ မူလသဘောဝိညာဉ်(စိတ်)ကို ခွဲခြမ်းစိတ်ဖြာလျက် ၎င်းကို ၂ မျိုးပိုင်းခြား၏–

(၁) အာလယ ဝိညာဉ်

(၂) ပဝတ္တိ ဝိညာဉ်

ပဝတ္တိ ဝိညာဉ်သည် ၆ မျိုးပြား၏။

- စက္ခု
- သောတ
- ဃာန
- ဇိဝှာ
- ကာယ

ငါးပါးသော ဉာဏ–က္ခန္ဓေတို့၏ ငါးပါးသော ဝိညာဉ်နှင့်ခြောက်ခုမြောက်သော– မနောဝိညာဉ်တည်း။ ပဥ္စဝိညာဉ်ကား အာရုံနှင့် ဣန္ဒြေတွေ့ဆုံကြသော အခါ အရောင်အခြင်းအရာ အစရှိသည်တို့ကို ကြံစည်မှုမဖြစ်ပေါ်မီပေါ်လာ၏။

အာလယဝိညာဉ်သည် အဆိုပါ ၆ မျိုးသော ဝိညာဉ်တို့နှင့်အတူ ဖြစ်လိုက်ပျက်လိုက်နေသော်လည်း သူ၏အလျဉ်(အစဉ်)တွင် ပဝတ္တိဝိညာဉ်အားလုံး၏ တည်ရာ(=အိမ်)ဖြစ်၏။ ၎င်းအာလယဝိညာဉ်တွင် ရှေးရှေး သင်္ခါရတို့၏ အထုံနှင့် နောက်နောင်ဖြစ်လတ္တံ့သော ဝိညာဉ်တို့၏ အထုံ(ဝါသနာ) တည်နေ၏။

ခဏိကသဘော အမြဲတမ်းရှိနေသဖြင့် အာလယဝိညာဉ်တွင် ဗြဟ္မာ၊ သို့မဟုတ် အတ္တဟူသည် မှောက်မှားဖောက်ပြန်မှုမဖြစ်နိုင်သော်လည်း ဤအာလယဝိညာဉ်သဘောသည် လျှို့ဝှက်သောသဘောတစ်မျိုးဖြစ်နေ၏။ ၎င်းဝိညာဉ်ကို အကြောင်းပြု၍ ဝိမုတ္တသေန၊ ဟရိဘဒ္ဒ၊ ဓမ္မကိတ္တိကဲ့သို့သော အတွေးအခေါ်သမား အမြောက်အမြားပင် ၎င်းဝိညာဉ်၌ ဖုံးလွှမ်းနေသော အတ္တသဘောတစ်မျိုးဟု ယုံမှားသံသယဖြစ်လာကြရလေသည်။ ၎င်းတို့သည် လျှို့ဝှက်သောသဘောကို အမိုက်တိုက်၌ ပစ်အပ်သောမြားကဲ့သို့ ဘေးအန္တရာယ်များသည်ဟု အသိအမှတ်ပြုကြ၏။

ဓမ္မကိတ္တိသည် အာလယ(–ဝိညာဉ်)သဒ္ဒါကို ပမာဏဝတ္တိက၌ သုံးခဲ့၏။

သို့သော်လည်း ဝိညာဉ်သာမာန်၏ အနက်အားဖြင့် သုံးခဲ့ခြင်းဖြစ်၏။ ဓမ္မကိတ္တိ၏ အယူအဆတွင် တစ်စုံတစ်ခုဆန်းကြယ်လျှို့ဝှက်သော သတ္တိတစ်ခုဟု အမှတ်အသားမထားခဲ့ပေ။ အစဉ်သဘောအားဖြင့် (ခဏိက၊ သို့မဟုတ် ပြတ်တောက်သော အလျဉ်သဘောအားဖြင့်) ရုပ်ကမ္ဘာ၏ ရှိမှုကိုကား ရှေ့တွင်သိရမည့်အတိုင်း ပြတ်ပြတ်သားသားငြင်းဆိုခြင်းကား မပြုခဲ့။ သို့သော် သနားစရာကောင်းသော ဆရာကြီးများတွင် ဘာသာရေးအခက်အခဲလည်း အတော်အသင့်ရှိနေ၏။ အကယ်၍ မိမိတို့ကိုယ်တိုင် တက္ကအရာ ဌာနတိုင်းတွင် အသုံးပြုသော ရုပ်တရားတို့၏ တကယ်ရှိမှုကို ပြတ်ပြတ်သားသား ဝန်ခံခဲ့သော် ဘာသာရေး၏ ခြုံထားသောအရေကွာကျလိမ့်မည်။ ၎င်းပြင် ထိုဆရာများလည်း မကွယ်မထောင့်နိုင်သော ရုပ်ဝါဒီများဖြစ်သွားကြလိမ့် မည်။ ထို့ကြောင့် သွာတန္တိကအပြင်၊ ဝိညာနဝါဒီဖြစ်ဖို့ အရေးကြီးလှပေ၏။

ဥရောပတိုက်၌ ရုပ်ဝါဒီများ ပွင့်လန်းထွန်းကားလာသော အချိန်မှာ ပဒေသရာဇ်ဝမ်းဗိုက်မှ အလားအလာရှိသော လူတန်းစားတစ်ခု ကုန်သည်နှင့် အရင်းရှင်-အပြင်အပသို့ ထွက်ပြူလာ၍ ဝိဇ္ဇာပညာရပ်ဆိုင်ရာ ထုတ်ဖော်မှုများ၏အကူအညီဖြင့် သူတို့၏ အရှိန်အစော်တိုးတက်လာသောအချိန်ဖြစ်လေသည်။ နေရာတိုင်းမှာပင် ရှေးဟောင်းအယူအဆများကို ညာဖြန်းချက်များဟုဆို၍ ရုပ်ကမ္ဘာ၏ တကယ်ရှိမှုအပေါ်တွင် အမှီတကဲပြုထားသော အယူအဆများကို အားပေးလာသောအချိန်လည်းဖြစ်လေသည်။ ဖ ရာစုခေတ် အိန္ဒိယပြည်သည် ထိုစဉ်အခါက ဤနေ့ အခြေအနေမျိုးရောက်ရန် ၁၄ ရာစုလိုပေသေး၏။ သို့သော်လည်း အိန္ဒိယဟေဂယ်လ်(ဓမ္မကိတ္တိ)သည် ဂျာမနီဟေဂယ်လ် (၁၇၇၀-၁၈၃၁ ခရစ်)ထက် ၁၂ ရာစုအရင်ကျနေ၏။ ဤအချက်ကို ပေါ့ ပေါ့မမှတ်သားရာ။

**(ခ) ထိုခေတ် လူ့အဖွဲ့အစည်း အခြေအနေ**-ဤနေရာတွင် ဓမ္မကိတ္တိ အဘိဓမ္မာ၏ ကျောထောက်နောက်ခံလူ့အဖွဲ့အစည်းကို ကြည့်ရှုသင့်၏။ အကြောင်းသော်ကား အဘိဓမ္မာသည် အဘယ်မျှပင် အရိုးအသားကို ကဲ့ရဲ့ရှုတ်ချ၍ မိမိကို အရိုးအသားအပေါ်က ဖြစ်သည်ဟု အထင်ရှိသော်လည်း ၎င်းအဘိဓမ္မာဟူသည်မှာလည်း အရိုးအသားမှပင်ဖြစ်ပေါ်လာသော အရာပေတည်း။

ဝသုဗန္ဓုမှ ဓမ္မကိတ္တိတိုင်အောင်သောခေတ်(ခရစ်နှစ် ၄၁၀–၆၀၀)သည် အိန္ဒိယအဘိဓမ္မာ၏ (၎င်းပြင် ကဗျာ–ကာလိဒါသ၊ ဒဏ္ဍီ၊ ဝါဏ၊ နက္ခတ်၊ အရိယဘဋ္ဋ၊ ဝရာဟမိဟိရ၊ ဗြဟ္မဂုတ္တ၊ ပန်းချီ–အဂျန္တာနှင့်ဗာဂ်၊ ရုပ်တု–ဂုတ္တ၊ ခေတ်ကျောက်နှင့်ကြေးဝါရုပ်တုများ၊ ဗိသုကာ–အဂျန္တာ၊ ဧလိုရာဂူ၊ နတ်ကွန်းများ)အစွမ်းကုန်တိုးတက်သောအချိန်လည်းဖြစ်၏။ ဤအဘိဓမ္မာ၏ နောက်၌ သင်တို့သည် ဂုတ္တ–မောက္ခရီ–ဟဿဝဒ္ဓနမင်းများ၏ကြီးမားခိုင်ခံ့သောနိုင်ငံတော်ကြီး၏လက်ရာပါဝင်သည်ဟုဆိုချင်ပေလိမ့်မည်။ သို့သော်လည်း နိုင်ငံတော်ကြီးဟုခေါ်ဆိုကာ ကျွန်ုပ်တို့သည် မူလကျောထောက်နောက်ခံကို အလင်းရောင်သို့ ထုတ်မပေးကြပေ။

စင်စစ်အားဖြင့် ၎င်းမူလကျောထောက်နောက်ခံကို အမိုက်မှောင်ထဲတွင် ဖုံးလွှမ်းထားကြ၏။ ထိုစဉ်အခါက ၎င်းကြီးကျယ်သောနိုင်ငံတော်ဟူသည်မှာ အဘယ်အရာနည်း။ ပဒေသရာဇ်အိမ်ထောင်ပေါင်းများစွာက ပဒေသရာဇ်ကြီး တစ်ဦး သမုဒ္ဒဂုတ္တ၊ ဟရိဝမ္မာ သို့မဟုတ် ဟဿဝဒ္ဓနကို ၎င်းတို့အပေါ်တွင် တင်ထား၍ နေရာသစ်၊ လူသစ်များအား သူတို့လက်အောက်ခံလူများကို အခြားသူလက်ထဲမရောက်အောင် စစ်အုပ်ချုပ်ရေး၊ စစ်ပြင်ဆင်မှုများကို ပြုလုပ်နေကြခြင်းပေတည်း။ ၎င်းပြင် သူတို့၏ အုပ်ချုပ်ရေးနယ်ပယ်တွင် ပထမရှိနှင့်သော၊ သို့မဟုတ် အသစ်ရောက်လာသော လူတန်းစားတွင် "ငြိမ်းချမ်းရေးနှင့် တည်တံ့ခိုင်မြဲရေး" ဖြစ်စေရန် မြို့ပြအုပ်ချုပ်ရေးဖြင့် အုပ်ချုပ်ကြ၏။ သို့သော် ၎င်းအုပ်ချုပ်ရေး ၂ မျိုးသည် "ဘူးလေးရာ ဖရုံဆင့်" သကဲ့သို့သော အုပ်ချုပ်ရေးသက်သက်ဖြစ်၍ သူတစ်ပါးအကျိုးဆောင် အသိဉာဏ်ဖြင့် အုပ်ချုပ်ခြင်းမျိုးမဟုတ်ပေ။ တိုက်ပွဲဝင်ရသူသာမက သေဆုံးသူပင်များပြားလှသော လူထုစစ်သည်တော်များမှာ အစွမ်းကုန်"ဘူးလေးရာ ဖရုံဆင့်"သကဲ့သို့ ဝန်လေး ဝန်ကြီးကို မလွဲသာ မရှောင်သာ ထမ်းဆောင်ကြရ၏။ သို့သော် စစ်ခေါင်းဆောင်သေနာပတိများကား ပဒေသရာဇ်အမျိုးအနွယ်မှ ဆင်းသက်လာသူများဖြစ်ခြင်းကြောင့် ပထမကပင် စည်းစိမ်ရှင်ကြီးများဖြစ်ကြ၏။ သူတို့၏ ရာထူးကြောင့် လခကြီးများ၊ လုယက်ထားသော ပစ္စည်းဥစ္စာအစုအပုံများ၊ လယ်မြေများနှင့် ဆုတော်ငွေများကို ရရှိနေသူများ ဖြစ်ကြ၏။ သမုဒ္ဒရာတွင် ပုဆိန်ပေါက် မိုးရွာသွန်းဖြိုးဘိသည့် အလားပင်

ဖြစ်တော့၏။

မြို့ပြအုပ်ချုပ်ရေး၏ အာဏာပိုင်ကြီးများဖြစ်ကြသော ဥပရိက(=ဘုရင်ခံ) ကုမာရာမစ္စ(=မင်းကြီး) များသည် ဂုဏ်ထူးဆောင်အဖြစ် ဆောင်ရွက်ကြသည်မဟုတ်။ ၎င်းတို့သည် ပြည်သူလူထုထံမှ တံစိုးလက်ဆောင်များ၊ ဓကရာဇ်ထံမှ လခရိက္ခာတော်များ၊ ဆုများနှင့် လယ်မြေများကို ယူကြ၏။

သေချာသောအချက်ကား–လူတို့သည် နေထိုင်စားသောက်မှု၊ ဝတ်စားဆင်ယင်မှုနှင့် အခြားပျက်လွယ်စီးလွယ်ကိစ္စများတွင် သုံးစွဲသလောက် နှစ်ပရိစ္ဆေဒကြာညောင်းစွာအရှည်တည်တံ့မည့်အရာဝတ္ထုများတွင် မသုံးစွဲကြပေ။ အလွန်နည်းပါးစွာ သုံးစွဲကြ၏။ အရှည်တည်တံ့မည့် အရာဝတ္ထုများအနက်တွင်လည်း အမြောက်အမြားပင် ကာလကြာညောင်းသဖြင့် ယိုယွင်းပျက်စီးခြင်းသာမက လူရိုင်းများ၏ ကြမ်းကြုတ်သော လက်နက်ကြောင့် ပျက်စီးဆုံးပါးကုန်ခဲ့ကြ၏။ သို့စင်လျက်ပင် ဗုဒ္ဓဂယာဗိုက်ဂျနာထိ အဆောက်အအုံများနှင့် အဂျန္တာ၊ ဧလိုရာဂူပြသဒ်များ ယနေ့အထိ ကျန်ရှိနေကြသေး၏။ ကာလီဒါသ၏ ကျမ်းစာများနှင့် ဝါဏဘဋ္ဋ၏ "ကာဒမ္ဗရီ"တွင် မြို့ပြအဆောက်အအုံများ နန်းပြာသာဒ်များအကြောင်း ဖွင့်ဆိုထားသည်ကို တွေ့ရ၏။ ၎င်းတို့ကိုကြည့်သဖြင့် ထိုခေတ် ထိုအခါက စည်းစိမ်ရှင်လူတန်းစားသည် ထိုအဆောက်အအုံကြီးများနှင့်ပတ်သက်၍ အဘယ်မျှ ပစ္စည်းအကုန်ခံ၍ သုံးစွဲခဲ့ကြောင်း သိနိုင်ပေ၏။ အရပ်ရပ်ကို ပေါင်း၍ မိမိတို့အပေါ်တွင် ပဒေသရာဇ်တို့ အဘယ်မျှ သုံးစွဲနေကြောင်းကိုလည်း သိရ၏။ ယနေ့တိုင်အောင် ဇိမ်ခံပစ္စည်း တန်ဖိုးကြီးများကို တွေ့ရပေ၏။ စက်ယန္တရားခေတ်၌ ၎င်းပစ္စည်းများကို စက်ဖြင့်ပြုလုပ်ခြင်းကြောင့် ရလွယ်၏။ ထိုပစ္စည်းများဖြစ်ပေါ်အောင် ယနေ့လူများ လုပ်ဆောင်ရသည်ထက် အဆပေါင်းများစွာပို၍ ဂုတ္တလက်ထက်က လူများလုပ်ဆောင်ကြရပေသည်ဟု ဆိုလို၏။

အုပ်စိုးသူ ပဒေသရာဇ်လူတန်းစား၏ ကိုယ်ခန္ဓာအတွက် တကယ်လိုအပ်ချက်များကိုသာ ဖြည့်စွက်ပေးရသည်မဟုတ်သေး။ သူတို့၏ ဇိမ်ခံပစ္စည်းများထုတ်လုပ်ရေးအတွက်လည်း မြောက်မြားလှစွာသောလူထုကြီးက သူတို့၏ အင်အားရှိသမျှသွန်ချပေးရသေး၏။ အရေအတွက် အဘယ်မျှများပြားလှသည်ကို ခန့်မှန်းနိုင်သောအကြောင်းကား ဤသို့တည်း–ယနေ့မှ

လွန်ခဲ့သော နှစ်ပေါင်းတစ်ရာက ကုမ္ပဏီအုပ်ချုပ်နေစဉ် အိန္ဒိယပြည်ကြီး သည် သူတို့၏ အင်္ဂလိပ်အစိုးရများအတွက် ၎င်းတို့တိုင်းပြည်သို့ နှစ်စဉ် ကြေးပို့ရသော ပစ္စည်းဥစ္စာများဖြစ်ပေါ်စုဆောင်းမိရန် လူပေါင်း ၆ ကုဋေ သို့မဟုတ် လူဦးရေ အားလုံး၏ ၄ ပုံ ၃ ပုံကျော်ကျော်၏ လုပ်အားကို လို အပ်၏။ အင်္ဂလိပ်အမှုထမ်းများ အိန္ဒိယတွင်နေစဉ် သုံးစွဲခဲ့သော စရိတ်အကုန် အကျမှာ အဆိုပါအကုန်အကျများထဲတွင် မပါသေးပေ။ သီးသန့်အပိုဖြစ်၏။

ဤမျှသာ မကသေး၊ လူထု၏ ၃ ပုံ ၂ ပုံသည် အုပ်စိုးသူများအတွက် ဤဆိုလတ္တံ့သော ပစ္စည်းဝတ္ထုများကို သူတို့၏ လုပ်အားဖြင့် စုဆောင်းပေးရသေး၏။ အုပ်စိုးသူများ၏ ကာမစည်းစိမ်ခံစားတင်းတိမ်မှုအတွက် သိန်းပေါင်းများစွာသော အမျိုးသမီးများသည် တရားဝင်သောသဘော၊ တရားမဝင်သောသဘော ၂ မျိုးဖြင့် သူတို့၏ကိုယ်ကို ရောင်းစားခြင်းခံရ၏။ လူကို ကျွန်ထီး ကျွန်မအဖြစ် တစ်ဈေးလုံးရောင်းချနေခြင်းသည် ထိုခေတ်၏ ယေဘုယျရှုမြင်ကွင်းတစ်ခုဖြစ်၏။ ဤကား လိုရင်းအချုပ်တည်း။

ဤအဘိဓမ္မာ–အနုပညာ–စာပေဆိုင်ရာ ခေတ်မဟာ၏ လုပတင့်တယ်မှုအားလုံးသည် လူသားကို နွား၊ ကျွဲကဲ့သို့ ချုပ်ချယ်ခြင်းနှင့် အကြင်နာကင်းသော ကျွန်စနစ်ပေါ်တွင် အမှီတကဲပြုထားပေ၏။ ဤအချက်ကို ကျွန်ုပ်တို့ မမေ့အပ်ပေ။

အဘိဓမ္မာအမြင်အားဖြင့် တော်လှန်ခြင်းဖြင့် တော်လှန်ရေးသမားများလည်း မိမိတော်လှန်နေသော အတွေးအခေါ်ကို အပြင်သို့ ထွက်ပြခဲ့လျှင် ရာဇဝတ် ပြစ်ဒဏ်သင့်ရောက်မည့်နယ်ပယ် အပိုင်းအခြား အတွင်းမှာ ထားဖို့ အရေးကြီးပေသည်။

ရာဇဝတ်ပြစ်ဒဏ်ဟူသည်မှာ အဖြောင့်အားဖြင့် သင့်ရောက်သော ရာဇဝတ်ပြစ်ဒဏ်လည်းဖြစ်ချင်ဖြစ်၏။ အုပ်စိုးသူများ၏ အသနားတော်မြတ်ခံရခြင်းမှ လက်လွတ်ခြင်းလည်း ဖြစ်ချင်ဖြစ်၏။ သူတို့တည်ဆောက်ထားသော ဘုရား ကျောင်းကန်များတွင် ရပ်တည်မနေနိုင်ခြင်းလည်း ဖြစ်ချင်ဖြစ်၏။ ထိုခေတ်ထိုအခါက "ငြိမ်းချမ်းရေးနှင့် တည်တံ့ခိုင်မြဲရေး" လက်တံသည် ယနေ့ခေတ်ထက်ပို၍ ရှည်၏။ ထိုလက်တံမှ လွတ်ကင်းချမ်းသာရာတွင် ဘာသာရေးကြင်နာမှုသည်သာ အနည်းနှင့်အများ အကူအညီပေးနိုင်ပေ၏။

ထို "ငြိမ်းချမ်းရေးနှင့် တည်တံ့ခိုင်မြဲရေး" လက်တံက အဆိုပါ အပြစ်ဒဏ်သင့်သူအား ဖျောက်ဖျက်ဖုံးကွယ်လိုက်သောအခါ အပြစ်သင့်သူ၏ အသက်တန်ဖိုးသည် နာမည်ကြီးဓားပြတစ်ယောက်၏ အသက်ထက် တန်ဖိုးမပိုတော့ပေ။

ဓမ္မကိတ္တိသည် ဤကဲ့သို့သော သဘောရှိသည့် ပဒေသရာဇ်များက ရွာများ၊ မြို့များကို အလှူတော်အဖြစ် လှူဒါန်းထားသော နာလန္ဒာ ကျောင်းတော်ကြီး၏ ရတနာတစ်ဆူဖြစ်တော်မူ၏။ ပဒေသရာဇ်တို့၏ ကြေးပြားများပေါ်တွင် ရေးတင်ထားအပ်သော အလှူတော်စာများကို ယနေ့တိုင်အောင်ပင် ကျွန်ုပ်တို့အပြည့်အစုံတွေ့ရ၏။

ယုန်-ကျွင်၏ခေတ် (ခရစ်နှစ် ၆၄၀)၌ နာလန္ဒာ ကျောင်းတော်၏ ကျောင်းသားပေါင်းတစ်သောင်းနှင့် ပဏ္ဍိတ်များအပေါ်တွင် လက်တားခြင်းမရှိ ပစ္စည်းဥစ္စာများကို စွန့်ကြဲလှူဒါန်းခဲ့သော လက်ရာများကို "ပမာဏဝတ္တိက"၏ စာကြောင်းများက ဖမ့်ထား၍ ထိုလက်ရာများကိုဖြတ်ပစ်ရေးတွင် အလယ်အလတ်က အမျှအတနေလိမ့်မည်ဆိုလျှင် မဖြစ်နိုင်ပေ။

ထို့ကြောင့် သွာတန္တိက (ဝတ္ထုဝါဒီ) ဓမ္မကိတ္တိလည်း ဒုက္ခအကြောင်းကို ဖွင့်ပြရာဝယ် အဇ္ဈတ္တိက အလွှာအားဖြင့်သာ ဖွင့်ပြ၍ အလွတ်ရုန်းသွားခဲ့လေသည်။

ကမ္ဘာ၏အကြောင်းကို ဤသဘောရစသည်ကိုချန်ထား၍ ကမ္ဘာ၌ ၎င်းကမ္ဘာ၏ အသေးဆုံးနှင့် အကြီးဆုံးသောအစိတ်အပိုင်းများ၏ ခဏတိုင်းပြောင်းလဲနေသော သဘောနှင့် ဂုဏ်(အရည်အချင်း)ပြောင်းလဲမှုသဘောအားဖြင့် ရှာဖွေနိုင်သော ဓမ္မကိတ္တိသည် ဒုက္ခ၏ အကြောင်းကို လောကအပြင်ဘက်ဘဝသစ်တွင် မြှုပ်နှံထားသည်ဟုဆို၍ အသွင်နှင့်အရာဝတ္ထုရှိသော ဒုက္ခအတွက် သူတို့၏လုပ်အားကို အလကားပေးရသော ပြည်သူလူထု၏ ၃ပုံ ၁ပုံသော ကျွန်များနှင့် အနည်းဆုံး ၎င်းအရေအတွက်နှင့်ညီမျှသော လူများကို ကျွန်အဖြစ်မှ လွတ်မြောက်အောင် ပြုလုပ်ပေး၍ သူတို့၏ လုပ်အားကို ၎င်းတို့ကိုယ်တိုင်ပါဝင်သော လူထုအားလုံး၏ အကျိုးစီးပွားတွင် ပါဝင်အသုံးပြုခဲ့လျှင်သော်လည်းကောင်း၊ ပဒေသရာဇ်မိသားစုများနှင့် ကုန်သည်ကြီးသူဌေးပိုင်း မိသားစုများ၏ အလကားနေမှု၊ အလုပ်မလုပ်မှုများကို ဖျောက်၍

၎င်းမိသားစုများကိုလည်း လူ့အဖွဲ့အစည်းအတွက် အကျိုးရှိစေမည့်အလုပ်များကို မလုပ်မနေရ ပညတ်ခဲ့လျှင်သော်လည်းကောင်း ထိုခေတ် ထိုအခါက ပုံပြန်ရှိသော ဒုက္ခအတိုင်းအရှည်သည် အတော်ပင် လျော့နည်းသွားမည်မှာ မုချပင်တည်း။ သို့သော် အလုပ်မလုပ်မှုကို ဖျောက်ဖျက်ပစ်ရန်မှာ ထိုစဉ်အခါက အချိန်မကျသေးသည်ကား မှန်၏။ ဤစိတ်ကူးယဉ် စီမံကိန်းသည် ထိုစဉ်အခါ အကောင်အထည်မပေါ်နိုင်ပေ။ ဤအချက်တွင် သံသယဖြစ်ဖွယ်မလိုပေ။ စင်စစ်သော်ကား ဤအချက်သည် ထိုစဉ်အခါက အဘိဓမ္မာဆိုင်ရာ စိတ်ကူးယဉ်မှုအားလုံး၊ ဘာသာရေးဆိုင်ရာ စိတ်ကူးစိတ်သန်းအားလုံးနှင့် ပတ်သက်နေ၏။

အကျိုးပေါ်မလာသော်လည်း အဘိဓမ္မာဆရာ၏ အမှားသည် တစ်ဖက်တစ်လမ်းအားဖြင့်ကောင်း၏။ ၎င်း၏သဘောထားပြည့်ဝမှုနှင့် အကြောက်အလန့်ကင်းမှုကို ချီးကျူးရ၏။ လျစ်လျူရှုခြင်းနှင့် ရန်သူ့လက်ချက်ကြောင့် ၎င်း၏ ကျမ်းများပျက်စီးသွားစေကာမူ ပယ်ဖျက်မှုအတွက် ထုတ်ဆောင်အပ်သော ၎င်း၏ထက်မြက်သော ဉာဏ်မြားသည် ရာစုပေါင်းများစွာကို ဖောက်ထွင်း၍ လူသားတို့ထံမှောက်သို့ ရောက်၍ သူ၏အကြောင်းကို အသစ်အသစ်ကြား သိရလေသည်။

(၄) ဝိညာဉ်ဝါဒ– နှလုံးသားနှင့်တကွသော ဦးနှောက်မှ အထည်ဝတ္ထုရှိသော ကမ္ဘာ(ရုပ်ဝါဒ)ကို မေ့သွားမှု၊ မေ့သွားစေမှုအတွက် အဘိဓမ္မာပိုင်းဆိုင်ရာ ဝိညာဉ်ဝါဒသည် အရက်ပုလင်းက အလုပ်ပင်ပန်းလွန်းသော အလုပ်သမားအား သူ၏ ဒုက္ခများကို မေ့ပျောက်သွားစေအောင် ပြုလုပ်ပေးသကဲ့သို့သော အလုပ်ကို ပြုလုပ်ပေး၏။ ကြမ်းကြုတ်သောကျွန်စနစ်၏ အထောက်အကူဖြင့်ပင် ဆိုချင်ဆိုတော့၊ လူသား၏ ဦးနှောက်နှင့် နှလုံးသားသည် ထိုခေတ်သို့တိုင်ရောက်သောအခါ အတော်ပင် တိုးတက်ပွင့်ကားလာခဲ့လေပြီ။ လူသား၌ ၎င်း၏ အဖော် သက်ရှိသတ္တဝါအတွက် ခံစားမှုဖြစ်ပေါ်လာခြင်းသည် သဘာဝတစ်ရပ်ကဲ့သို့ ဖြစ်ပေါ်၏။ အနီးအပါး၌ရှိသော သူများ၏ သနားစရာကောင်းသောအခြေအနေကိုမြင်ရ၍ လူသည် ထိုသနားစရာကောင်းသောအခြေအနေကို မကြင်သာဘဲ၊ စိတ်မထိခိုက်ဘဲ မနေနိုင်ပေ။ ကမ္ဘာလောက

ကြီးကို အဟုတ်တကယ်မရှိဟုဆို၍ ဤကဲ့သို့သော စိတ်ထိခိုက်မှုကို ပယ်ဖျောက်ရာ၌ အဘိဓမ္မာပိုင်းဆိုင်ရာ ဝိညာဉ်ဝါဒသည် အတန်ငယ်အထောက်အပံ့ပေးမည်မှာ မုချပင်တည်း။ နောက်ဆုံးအခြေအနေတွင် "အဘိဓမ္မာဆရာများအလုပ်ကား ကမ္ဘာကြီးအကြောင်းကို ဖွင့်ပြရန်သာဖြစ်၍ ကမ္ဘာကြီးကို ပြောင်းလဲပေးရန်မဟုတ်"ဟူ၍ ဖြစ်လေတော့သည်။

ဓမ္မကိတ္တိသည် ဗဟိဒ္ဓကမ္ဘာကြီး-ရုပ်ဝတ္ထုများကို အဟုတ်တကယ်မရှိဟုဆို၍ ဝိညာဉ် (=စိတ်) ကိုသာ တကယ်ရှိသော အရာဝတ္ထုဟု အခိုင်အမာပြု၍ဆိုလေသည်။

**(က)** ဝိညာဉ်သာတစ်ခုတည်းသော သဘောဖြစ်၏။ ကျွန်ုပ်တို့သည် တစ်စုံတစ်ခုသော ဝတ္ထု(အဝတ်)ကို မြင်ရသောအခါ ထိုအဝတ်၌ အညို၊ အဝါရောင်နှင့် အလျား၊ အနံ၊ အထု၊ အကြမ်း၊ အချောအစရှိသည်ကို ချန်ထား၍ ရုပ်တရားသက်သက်ကို မမြင်နိုင်ပေ။ မြင်မှုသည် အညိုအစရှိသော အနေဖြင့်သာဖြစ်၏။ အညိုအစရှိသည်မှကင်းသော ဝတ္ထုကို ပစ္စက္ခအားဖြင့် သော်လည်းကောင်း၊ အနုမာနအားဖြင့်သော်လည်းကောင်း၊ စွဲယူပြီးမှသာ ၎င်းရုပ်ဝတ္ထုကို စွဲယူရ၏။ ထို့ကြောင့် မြင်မှုဖြစ်သမျှ အညိုအစရှိသောအနေဖြင့်သာဖြစ်၏။ ဗဟိဒ္ဓ(ရုပ်ဝတ္ထု)သက်သက်အနေအားဖြင့် မဖြစ်နိုင်ပေ။

ရုပ်တရား၊ ဗဟိဒ္ဓတရားဟု ကျွန်ုပ်တို့ခေါ်ကြသောအရာသည် အဘယ်နည်းဟု ခွဲစိတ်ကြည့်ရှုသော် ထိုအရာဝတ္ထု၌ မျက်စိဖြင့်မြင်ရသောအရောင်-အသွင်၊ လက်ဖြင့်ထိတွေ့ရသော မာမှု-ပျော့မှု၊ ချောမွေ့မှုအစရှိသည်ကိုသာ တွေ့ရ၏။ တစ်ဖန် ၎င်းစက္ခုစသော ဣန္ဒြေများက အဆိုပါ ရုပ်ဝတ္ထုတို့၏ ကြမ်းတမ်းသောသဘောထိအောင် မိမိတို့ဝိညာဉ်(စက္ခုဝိညာဉ်-ကာယဝိညာဉ်) အားဖြင့် မနကို ကြံဆနိုင်အောင် ပြုလုပ်မပေးပေ။ မန၏ ဆုံးဖြတ်မှုသည် ဣန္ဒြေများကို ဝါးမျိုပြီးသား ဝိညာဉ်၏နောက်ထပ်ဝါးမျိုမှုအပေါ်တွင်တည်၏။

ဤသို့အားဖြင့် နောက်ဆုံးဆုံးဖြတ်ချက်ကို ချမှတ်သော မနနှင့် မနဆုံးဖြတ်ချက်ချရာတွင် အမှီတကဲပြုရသော အရာဝတ္ထုများကို ပေးအပ်သည့် ဣန္ဒြေအသီးသီး၏ ဝိညာဉ်များတွင်လည်း ဗဟိဒ္ဓ(ရုပ်ဝတ္ထု)ကို မတွေ့ရပေ။ ဆုံးဖြတ်ချက်ချရာ၌ ကျွန်ုပ်တို့သည် ဝိညာဉ် (=စေတနာ) သက်သက်ကိုသာ တွေ့ရ၏။ ထို့ကြောင့် အမျိုးမျိုးအဖုံဖုံစဉ်းစားလိုက်တိုင်း အရာဝတ္ထုများ

ပြတ်တောက်ပြိုကွဲ၍ ပျောက်ဆုံးသွားပြီဟု အတွေးအခေါ်သမားများက ၎င်းကို အကြောင်းပြု၍ ပြောဆိုကြရသော ဝိညာဉ်သည် ရှိ၏။ ထိုဝိညာဉ်သာလျှင် ဝတ္ထုတို့၏ အစွမ်းအားဖြင့် အနိုင်အမာဖြစ်၏။ (ရုပ်တရားကား အနိုင်အမာမဟုတ်ပေ)

(ခ) စေတနာနှင့် ရုပ်ဝတ္ထုသည် ဝိညာဉ်တစ်ခုတည်း၏ သဘော ၂ မျိုးဖြစ်၏။ ဝိညာဉ်၏အတွင်းဘက်အခြင်းအရာကား စိတ်–သုခအစရှိသည်ကို ယူတတ်သော အရာဖြစ်၏။ ၎င်းကား ပေါ်လွင်၏။ သို့သော် အပြင်ဘက် အရာဝတ္ထု(ရုပ်ဝတ္ထု–အိုး သို့မဟုတ် အဝတ်) လည်း ဝိညာဉ်၏ အခြားသော ဘက်တစ်ခုဖြစ်၏။ အပြင်အပ၌ တည်နေလေဟန်ထင်ရ၏။ ၎င်းကို ယခုပင်ဆိုခဲ့၏။ တစ်ခုတည်းသော ဝိညာဉ်သည် အတွင်းဘက် (စိတ်အနေအားဖြင့်) ယူတတ်သောအရာနှင့် အပြင်ဘက် (အာရုံအနေအားဖြင့်) ယူတတ်သောအရာလည်းဖြစ်၏။

ဝိညာဉ်သည် မကွဲမပြား တစ်ခုတည်းဖြစ်ခဲ့လျှင် ၎င်းဝိညာဉ်ကို (အတွင်းအပ ဝိညာဉ်နှင့် ရုပ်ဝတ္ထုအနေအားဖြင့်) ကွဲပြားသကဲ့သို့ ထင်မှတ်ခြင်းသည် မမှန်။ ဖောက်ပြန်နေခြင်းသာဖြစ်၏။

ယူအပ်သောအရာ (=ဗဟိဒ္ဓအရာဝတ္ထုဟု ထင်ရသောဝိညာဉ်နှင့်) ယူတတ်သောအရာ(အတွင်းဘက်ရှိ စိတ်အနေအားဖြင့် ဖြစ်သော ဝိညာဉ်) များအနက် တစ်ခုခုမှ မရှိခဲ့လျှင် နှစ်ခုစလုံးရှိတော့မည်မဟုတ်ပေ။ (ယူတတ်သောအရာမရှိခဲ့လျှင် ယူအပ်သောအရာ ဘယ်မှာရှိတော့အံ့နည်း။ တစ်ဖန် "ယူအပ်" မရှိခဲ့လျှင် မိမိ၏ ယူတတ်သောသဘောကို ဖော်ပြ၍ "ယူတတ်" စိတ်သည် မိမိ၏အရှိသဘောကို အဘယ်မှာ အနိုင်အမာပြုပေတော့အံ့နည်း။ ဤသို့အားဖြင့် တစ်ခုခုမရှိလျှင် နှစ်ခုစလုံးမရှိတော့ပေ) ထို့ကြောင့် (ယူအပ်–ယူတတ်)နှစ်မျိုးမရှိခြင်း(=မကွဲပြားခြင်း)သည် ဉာဏ်၏ သဘောမှန်ဖြစ်၏။ ပုံဟန်အမျိုးအစားရှိသော အပြင်အပရုပ်ဝတ္ထုများကို ယူအပ်နှင့် ယူတတ် ၂ မျိုး၏ အခြင်းအရာချန်ထား၍ အခြားတစ်စုံတစ်ခုသော အခြင်းအရာအားဖြင့် မတွေ့ရပေ။ (ယူအပ်–ယူတတ် ၂ မျိုးသည် အခြင်းအရာကင်းသော ဝိညာဉ် တစ်ခုတည်း၏ သဘော ၂မျိုးဖြစ်၏) ထို့ကြောင့် ပုံဟန်အမျိုးအစားမှ ကင်းသဖြင့် (အရာဝတ္ထုအားလုံး) ပုံဟန်ကင်းမဲ့၏ ဟု ဆိုရ၏။

အမေးထွက်နိုင်၏–အကယ်၍ ဗဟိဒ္ဓဝတ္ထုတို့၏။ တကယ်ရှိသဘော ကို ဝန်မခံခဲ့သော် ၎င်းတို့ကွဲပြားမှုကိုလည်း ဝန်မခံရာကျပေလိမ့်မည်။ သို့ ဖြစ်လျှင် အပြင်အပအဝတ္ထုများနှင့်ကင်း၍ 'ဤကားအိုး၊ ဤကားပုဆိုး'ဟူ၍ ဉာဏ်အဘယ်သို့ဖြစ်တော့အံ့နည်း။

အဖြေကား အိုးအစရှိသော ဟန်ကို အစွဲပြုသော အသိဉာဏ်သည် ဉာဏ်တစ်မျိုးဖြစ်၏။ ၎င်းဉာဏ်သည် စိတ်၏အတွင်းဘက်ရှိသော ဝါသနာ (အထုံ)ကို နှိုးဆွပေး၏။ ထိုဝါသနာနိုးကြားလာသဖြင့် ဉာဏ်တို့၏ ကွဲပြား မှုဖြစ်စဉ်ကို တွေ့ရ၏။ အပြင်အပ အရာဝတ္ထုများကို ငဲ့သဖြင့် ကွဲပြားလာ ခြင်းမဟုတ်ပေ။

အပြင်အပအရာဝတ္ထုများကို ခံစားမှု ကျွန်ုပ်တို့တွင် မရှိသောကြောင့် တစ်ခုတည်းသော ဝိညာဉ်ကိုပင် ၂ မျိုးသော (အတွင်း အသိ–အပြင်အာရုံ) သဘောရှိ၏ဟု မှတ်အပ်၏။ ၂ မျိုးသောသဘောအားဖြင့် အောက်မေ့ ဆင်ခြင်အပ်၏။ တစ်ခုတည်းသော ဝိညာဉ်၏အတွင်းအပ ၂ မျိုးသာ အခြင်း အရာရှိခြင်း၏ အကျိုးကား မိမိ၏ အတွင်းဉာဏ်ကို မျက်မှောက်ပြုခြင်း တည်း။

တစ်ဖန် အမေးထွက်နိုင်၏။ အပြင်အပ အရာဝတ္ထုအနေအားဖြင့် ထင် မှတ်နေသော အသိဉာဏ်သည်ရှိ၏။ ထိုဉာဏ်အမျိုးမျိုး အဖုံဖုံအပြင်အပ ရုပ်ဝတ္ထုများ ပေါ်လွင်နေကြ၏။

ထို့အပြင် အပဉာဏ်ကို လွှတ်ထားလိုက်လျှင် အရာဝတ္ထု (အိုးကိုစွဲယူမှု (ဣန္ဒြိယပစ္စက္ခ အစရှိသည်) အဘယ်မှာ ဖြစ်တော့အံ့နည်း။ (နောက်ဆုံး မိမိသဘောကိုသိသော အသိဉာဏ်ကို မျက်မှောက်ပြုခြင်းအားဖြင့်သာလျှင် အရာဝတ္ထုများကို အသီးသီးစွဲယူမှုဖြစ်သည်မဟုတ်လော) မှန်၏။ စွဲယူမှုအ ဘယ်ပုံဖြစ်သည်ဟု ငါလည်းမသိ။ ဥပမာသော်ကား မန္တရား (HYPNOTISM) အစရှိသည်ဖြင့် မျက်စိ အစရှိသည် အပိတ်ခံထားရသောသူ များသည် မြေအိုး၊ မြေခွက်များကို (ငွေဒင်္ဂါးစသော) အခြားအရာဝတ္ထုများအနေဖြင့်သာ မြင်ကြ ၏။ သို့သော်လည်း ၎င်းမြေအိုးမြေခွက်သည် (အမှန်အားဖြင့်) ထို (ငွေဒင်္ဂါး) သဘောမှ ကင်း၏။

ဤသို့အားဖြင့် အတွင်းအပအားလုံးပင် တစ်ခုတည်းသော ဝိညာဉ်၏

သဘောဖြစ်သော်လည်း တကယ့်သဘောကို မစဉ်းစားဘဲ ဆင်ကဲ့သို့ မျက်စိမှိတ်၍ လောကဝေါဟာရသက်သက်နောက်သို့လိုက်ကာ အဘိဓမ္မာဆရာကြီးများသည် (အကြိမ်များစွာ) အပြင်အပ (အရာဝတ္ထုများ)ကို စဉ်းစား(=ဖွင့်ပြ)နကြရ၏။

**(၅) ခဏိကဝါဒ**– ဗုဒ္ဓ၏ အဘိဓမ္မာ၌ "အလုံးစုံ အနိစ္စ"ဟူသော သဘောတရားကို အလွန်အရေးတကြီးထား၏။ ဤအကြောင်းကို ကျွန်ုပ်တို့ ဆိုခဲ့ပြီးလေပြီ။ ဤအနိစ္စဝါဒကိုပင် နောက်နောင်းဗုဒ္ဓအဘိဓမ္မာဆရာများက ခဏိကဝါဒဟုခေါ်ဆို၍ ၎င်းကို အဘာဝသဘောမှ ဘာဝသဘောဖြစ်အောင် ပြုလုပ်ခဲ့၏။

ဓမ္မကိတ္တိသည် ဤခဏိကဝါဒတွင် နောက်ထပ်ဆက်လက်၍ အထူးပြုကာ ဆိုခဲ့၏။ "အရှိသဘော မှန်သမျှတွင် ပျက်မှုကိုတွေ့ရ၏" ဤဘာဝသဘောကို နောင်သောအခါ ဉာနသိရီ (ခရစ်နှစ် ၇၀၀) က ဆိုခဲ့၏။ "ဘာဝသဘောမှန်သမျှ ခဏိကဖြစ်၏"။ "အလုံးစုံသော သင်္ခါရတို့သည် အနိစ္စဖြစ်ကုန်၏" ဟူသော ဗုဒ္ဓ၏မိန့်ခွန်းတော်ကို ရည်ရွယ်၍ ဓမ္မကိတ္တိက ဆိုခဲ့၏။ "ဖြစ်တတ်သော သဘောမှန်သမျှ ပျက်တတ်သော သဘောရှိ၏" အနိစ္စဟူသည်မှာ ဘယ်အရာဖြစ်ကြောင်း ဖွင့်ဆိုလျက်ရေးသားခဲ့၏။ "ရှေးဦးစွာဖြစ်ပြီး၍ ဆက်လက်တည်မြဲမနေသော သဘောတရားများသည် အနိစ္စဖြစ်ကုန်၏"

ဤသို့အားဖြင့် တစ်စုံတစ်ခု ခြွင်းချက်မရှိသော ခဏိကသဘောတရားသည် ဘာဝတရားအားလုံးတွင် ရှိပေ၏။

**(၆) ပရမတ္ထဘာဝအဖွင့်**– ပလေတိုနှင့် ဥပနိသျှဒ်အဘိဓမ္မာဆရာကြီးများသည် ခဏမလပ်ပြောင်းလဲနေသော ကမ္ဘာနှင့် ကမ္ဘာ၏အရာဝတ္ထုများနောက်တွင် မပြောင်းမလဲသော သဘောကို ပရမတ္ထဘာဝဟု အသိအမှတ်ပြုကြ၏။ သို့သော် ဗုဒ္ဓအဘိဓမ္မာကား ဤကဲ့သို့ ဣန္ဒြေနှင့် အသိဉာဏ်၏ အာရုံမဟုတ်သော မည်သည့်တရားတစ်ခုကိုမျှ အသိအမှတ်ပြုဖွယ်မရှိပေ။ ထို့ကြောင့် ဓမ္မကိတ္တိသည် ပရမတ္ထဘာဝကို ဖွင့်ဆိုခဲ့၏။

"အနက်ဒဗ္ဗရှိ အပြုအမူ၌ စွမ်းသော တရားသည် ပရမတ္ထသဘောမည်၏။ ၎င်း၏ ဆန့်ကျင်ဘက်သည် (အနက်ဒဗ္ဗရှိ အပြုအမူ၌ မစွမ်းသော သဘောသည်) သမ္မုတိ (ဋ္ဌိ) သဘောမည်၏။ အိုး၊ ပုဆိုးတို့သည် ပရမတ္ထသဘောဖြစ်ကြ၏။ အကြောင်းသော်ကား အနက်ရှိသော အပြုအမူ၌ စွမ်းသောသဘောရှိ၏။ အိုး ပုဆိုးတို့ဖြင့် ရေကိုခပ်ခြင်း သို့မဟုတ် အအေးအပူကို ကာကွယ်ခြင်းဖြစ်နိုင်၏။ သို့သော် သာမည (=ဇာတိ) ဟု အသိအမှတ်ပြုအပ်သော အိုး၏အဖြစ်၊ ပုဆိုး၏အဖြစ်ကား သမ္မုတိ–စိတ်ကူး(ဝါ) အတုသာဖြစ်၏။ အကြောင်းသော်ကား ၎င်းအိုးဇာတ်၊ ပုဆိုးဇာတ်တို့ဖြင့် အနက်သဘောရှိသော အပြုအမူမဖြစ်နိုင်ပေ။ ဤသို့အားဖြင့် သီးခြားအကောင်အထည်နှင့် ၎င်း၏ မျိုးကွဲသည်သာ ပရမတ္ထသဘောဖြစ်၏။ (အမှန်စင်စစ်အားဖြင့် အားလုံးသော) ဘာဝတရားတို့သည် အသီးသီးသော ထူးခြားမှုများရှိကြ၏။ သို့သော်လည်း ထိုသမ္မုဋ္ဌိ (=စိတ်ကူး)က ၎င်းတို့မျိုးကွဲသဘောများ (အသီးသီးသောအိုးများ) ကို ဖုံးအုပ်ထားလိုက်သောအခါ ၎င်းမျိုးကွဲသဘောသည် တစ်စုံတစ်ခုသော (အိုးသာမန်) သဘောအားဖြင့် မကွဲမပြား တစ်ခုတည်းကဲ့သို့ ထင်မှတ်သွားရလေ၏"

**(၇) ပျက်မှုအကြောင်းကင်း၏–** ခဏိကသဘောသည် ဘာဝအားလုံးတွင် သဘာဝအားဖြင့်သာလျှင်ရှိ၏။ ထို့ကြောင့် ပျက်မှုသည် သဘာဝတရားတစ်ခုဖြစ်၏။ သို့ဖြစ်လျှင် ပျက်မှုအတွက်တစ်စုံတစ်ခုသော ဟေတု၊ သို့မဟုတ် ဟေတုအများကို မလိုအပ်တော့ပေ။ ပျက်မှုသည် အကြောင်းမရှိ ဟုဆိုလို၏။ အရာဝတ္ထု၏ ဖြစ်ပေါ်မှုအတွက် ဟေတု၊ သို့မဟုတ် ဟေတု အများ (=ဟေတုသာမဂ္ဂီ)ကို လိုအပ်၏။ ၎င်းဟေတုကား ပထမက ရှိနေနှင့် သောအရာမဟုတ်ဘဲ အရာဝတ္ထုရှိသောအခါမှ ရောက်လာ၏။ ရှိနေနှင့်သော အရာဝတ္ထု၏ ဖြစ်ပေါ်မှုသည် ပူးကပ်လျက်ရှိ၏။ ထို့ကြောင့် ကျွန်ုပ်တို့ အခေါ်အဝေါ်အားဖြင့် ခေါ်ဝေါ်အပ်သော ဤအစဉ်သည် မှားရာကျနေ၏။ ကျွန်ုပ်တို့သည် ဟေတုကို ဖြစ်ပေါ်နေသောအရာဝတ္ထုနှင့် မဆက်ဘဲ ပျက်စီးသွားသော အရာဝတ္ထုနှင့် ဆက်ပေးထားကြ၏။ ဤအမှန်တရားကို အခိုင်အမာပြု၍ ဓမ္မကိတ္တိက ဆိုခဲ့၏။

(က) အဘာဝ သဘောရှိသော ပျက်မှုတွင် ဟေတုကို မလိုအပ်“အကျိုးတရားတစ်စုံတစ်ခုရှိလျှင် ထိုအကျိုးတရားအတွက် အကြောင်းတစ်စုံတစ်ခု လိုအပ်ခြင်းဖြစ်နိုင်၏။ ပျက်စီးမှုကား အဘာဝသဘောဖြစ်သဖြင့် တစ်စုံတစ်ခုသောအရာဝတ္ထုပင်မဟုတ်။ ထို့ကြောင့် ပျက်စီးမှုအတွက် အကြောင်းကို အဘယ်မှာလိုအပ်ပါမည်နည်း”

“အကြောင်းကြောင့်ဖြစ်သော အကျိုးမှန်သမျှ အနိစ္စဖြစ်၏။ အကြောင်းကြောင့်မဖြစ်သော အကျိုးမဟုတ်သည့် တရားကား မပျက်စီးသောတရား (နိစ္စ)ဖြစ်၏။ ဝတ္ထု၏ ပျက်စီးမှုကား နိစ္စဖြစ်၏။ အမြဲတမ်းရှိနေသည်ဟု ဆိုလို၏။ ထို့ကြောင့် ပျက်စီးမှုသည် အကျိုးတရားမဟုတ်။ အကြောင်းကင်း၏။ တစ်ဖန် ဤသို့အားဖြင့် အဟေတုက ဖြစ်ခြင်းကြောင့် ထို(ပျက်မှု)သည် သဘာဝအားဖြင့် အရာဝတ္ထုမှန်သမျှသို့ အစဉ်လိုက်၏။ ဤသို့အားဖြင့် ပျက်မှုအတွက် အကြောင်းမလိုအပ်ပေ။

(ခ) ပျက်တတ်၊ မပျက်တတ် အခိုက်အတန့် ၂ မျိုးစလုံးမှာပင် ဘာဝတရား၏ ပျက်မှုအတွက် ဟေတုမလိုအပ်ပေ။ အကယ်၍ ကျွန်ုပ်တို့သည် ပျက်မှုကို မပျက်တတ်သော သဘောရှိသည်ဟု ယူဆခဲ့လျှင် အခြားအကြောင်းတစ်စုံတစ်ခုကြောင့် ဘာဝ၏ပျက်မှုဟု မယူဆခဲ့လျှင်၊ ဤသို့မပျက်တတ်သော ဘာဝ၏ တည်ရှိရေးအတွက် အကြောင်းဘယ်မှာ လိုအပ်ပါမည်နည်း။ (ဘာဝ၏ဖြစ်ပေါ်မှုသည် အကြောင်းမဲ့ဖြစ်သွားပေလိမ့်မည်ဟုဆိုလိုသည်) အကယ်၍ ကျွန်ုပ်တို့သည် ဘာဝကို ပျက်တတ်သောသဘောရှိသည်ဟု ယူဆခဲ့လျှင် ၎င်းဘာဝသည် အခြားသောအကြောင်းများမပါဘဲလည်း ပျက်စီးရပေလိမ့်မည်။ သို့ဖြစ်လျှင် ပျက်စီးတတ်သော ဘာဝ၏တည်ရှိရေးအတွက် ဟေတုက စွမ်းနိုင်လိမ့်မည်မဟုတ်ပေ။

“ကိုယ်တိုင် မပျက်စီးတတ်သော သဘောရှိသည့် တရားအတွက် အခြားတည်တံ့စေတတ်သောအရာ မလိုအပ်။ ကိုယ်တိုင်ပျက်စီးတတ်သောသဘောရှိသည့် တရားအတွက် အခြားတည်တံ့စေတတ်သောအရာ မလိုအပ်”

ဤသို့အားဖြင့် ပျက်မှုကို ပျက်စီးတတ်သော သဘောရှိသည်ဟု ယူဆသည်ဖြစ်စေ၊ မပျက်စီးတတ်သော သဘောရှိသည်ဟု ယူဆသည်ဖြစ်စေ၊ အခြေအနေ ၂ မျိုးလုံးမှာပင် ပျက်မှုကို တည်တံ့စေတတ်သော ဟေတု မလို

အပ်ပေ။

– ဘာဝ၏သဘောအားဖြင့် ပျက်စီးခြင်းသည် မျိုးကွဲဖြစ်ဖြစ်၊ မျိုးတူဖြစ်ဖြစ်၊ အခိုက်အတန့် ၂မျိုးစလုံးမှာပင် ပျက်စီးမှုသည် အကြောင်းကင်း၏။ မီးနှင့်ထင်းသည် တစ်ပေါင်းတည်းတည်း၏။ သို့ဖြစ်လျက် ကျွန်ုပ်တို့သည် ထင်း၏ပျက်စီးခြင်းနှင့် မီးသွေး ပြာ၏ဖြစ်ခြင်းကို တွေ့ကြရ၏။ ဤသဘောကိုပင် ကျွန်ုပ်တို့က ဝေါဟာရအခေါ်အဝေါ်အားဖြင့် "မီးက ထင်းကို လောင်ကျွမ်းသွားပြီ။ ဖျက်ဆီးလိုက်ပြီ" ဟုခေါ်ကြ၏။ သို့သော် စင်စစ် "မီးက မီးသွေး ပြာကို ဖြစ်စေ၏" ဟု ဆိုသင့်ပေ၏။ ထင်းသည် ကျွန်ုပ်တို့၏အမြင်တွင် မီးသွေး ပြာထက်ပို၍ အသုံးကျ (အဖိုးတန်) ၏။ ထို့ကြောင့် ဤအရာတွင် စကားသုံးအားဖြင့် ကျွန်ုပ်တို့သည် ကျွန်ုပ်တို့အတွက် အသုံးကျသော အရာဝတ္ထုတစ်ခု ပျောက်ဆုံးသွားမှုကို အထူးပြုထားကြ၏။ အကယ်၍ မီးသွေး ပြာသည် ထင်းထက်အသုံးကျရိုးမှန်လျှင် ကျွန်ုပ်တို့သည် မီးက ထင်းကို ဖျက်ဆီးပစ်လိုက်ပြီ"ဆိုမည့်အစား၊ "မီးသည် မီးသွေး ပြာကို ဖြစ်စေ၏" ဟု ဆိုကြပေမည်။ အမှန်စင်စစ်အားဖြင့် အလုပ်သမားများသည် ထင်းအ စား မီးသွေးကို ဖုတ်၍ ရောင်းချခြင်းဖြင့် အကျိုးအမြတ်များများရသော တောထဲတွင် "ဘာအလုပ်လုပ်ကြသနည်း" ဟု မေးမြန်းသောအခါ "ငါတို့ ထင်းများကို ဖျက်ဆီးပစ်ကြသည်" ဟု မဆိုဘဲ "ငါတို့ မီးသွေးဖုတ်ကြသည်" ဟုသာ ဖြေပေလိမ့်မည်။

တာတာ (သူဌေးကြီး) ၏ အလုပ်ရုံတွင် (သံဓာတ်ပါသော) ကျောက်များကို ဖျက်ဆီး၍ သံနှင့်သံမဏိများကို ပြုလုပ်ကြ၏။ သို့သော် ထိုအလုပ်ရုံ၌ ပျက်စီးမှုကို သဘာဝ(အဟေတုက) တရားဟု နားလည်မှုရှိ၍ ထိုကဲ့သို့ သံဓာတ်ပါသော ကျောက်များကို ဖျက်ဆီးမှုတွင် စကားတစ်ခုလုပ်မပြောတော့။ တာတာသည် နှစ်စဉ်နှစ်တိုင်း မောင်းကုဋေဘယ်မျှ သံများ၊ မောင်းသိန်းဘယ်မျှ သံမဏိများ ထုတ်လုပ်သည်ဟုသာ ပြောတော့၏။ ဤသဘောကို ကျွန်ုပ်တို့ အဘိဓမ္မဆရာ(ဓမ္မကိတ္တိ)က နားလည်သွားအောင် ကြိုးစားတော်မူ၏။

အမေးရှိလာ၏။ မီးသည် (=ကာရဏ၊ ဟေတု) ထင်း၏ ပျက်စီးမှုကို ပြုသလော။ မီးသွေး၏ ဖြစ်မှုကို ပြုသလော။ ထင်း၏ပျက်စီးမှုကို ပြု၏ဟု

သင်တို့ဖြေကြမည်။

တစ်ဖန်အမေးရှိပြန်၏။ ပျက်စီးမှုသည် ထင်းနှင့် ကွဲပြားသလော၊ အတူတူပင်လော။ အတူတူပင်ဟုပင် ဝန်ခံလျှင် ပျက်စီးမှုကိုပြုသောမီးသည် ထင်းပင်ဖြစ်ခဲ့၏။ သို့ဖြစ်လျှင် "ပျက်စီးမှု" ဟူသည့်အဓိပ္ပာယ်မှာ ထင်းဖြစ်ခဲ့၏။ ထင်း၏ပျက်စီးမှုမဟုတ်ဟု ဆိုလိုသည်။ သို့ဖြစ်လျှင် ထင်း၏ပျက်စီးမှုမဖြစ်သဖြင့် ထင်းကိုမြင်ရခြင်းဖြစ်သင့်၏။ "အကယ်၍ မီးကြောင့်ဖြစ်သော ထိုအရာဝတ္ထုသည် ထင်း၏ ပျက်စီးမှုပင်တည်း။ ထို့ကြောင့် ထင်းကို မြင်ရမှု မဖြစ်နိုင်တော့ပေ" ဟု ဆိုခဲ့ပြီးအံ့။ တစ်ဖန် အမေးထွက်လာပေရာ၏။ ပျက်စီးခြင်းတည်းဟူသော အရာဝတ္ထုတစ်ခု၏ ပျက်စီးမှု အဘယ်သို့လျှင်ဖြစ်အံ့နည်း။ ပျက်စီးမှုသည် ဘာဝသဘောရှိသော အရာဝတ္ထုတစ်ခုဖြစ်လျှင် ထင်းကို အဘယ်ကြောင့် မမြင်ရလေဘိသနည်း။

– ပျက်စီးခြင်းသည် မကွဲမပြား တစ်ခုတည်းသော ဘာဝဝတ္ထုဖြစ်၏။ ဤသို့ဝန်ခံသဖြင့်လည်း အရာမရောက်၊ ပျက်စီးခြင်းသည် ထင်း၏ မရှိမှု သက်သက်မဟုတ်။ စင်စစ်သော်ကား အခြားတစ်ခုသာလျှင်ဖြစ်သော ဘာဝဝတ္ထုဖြစ်၏။ ထိုဘာဝသဘောရှိ၍ ပျက်စီးခြင်းအမည်ရသော အခြားအရာဝတ္ထုတစ်ခုက ဖုံးလွှမ်းထားသဖြင့် ထင်းကို ကျွန်ုပ်တို့ မမြင်ရတော့ပေဟု အကယ်၍ ဆိုငြားအံ့၊ သို့ဆိုသော်လည်း ဤစကားမမှန်။ ထိုအခြားတစ်ခုသော ဘာဝ=ပျက်စီးမှုက ထင်းအား ဖုံးလွှမ်းမှုမဖြစ်နိုင်ပေ။ အကြောင်းသော်ကား ဤသို့ယူဆသဖြင့် ပျက်စီးမှုကို ဝတ္ထု၏ အဖုံးအလွှမ်းဟု ယူမှတ်ရာကျပေလိမ့်မည်။ သို့ယူမှတ်ခဲ့သော် ထိုပျက်စီးမှုရှိနေတော့မည်မဟုတ်။ ပျောက်ကွယ်သွားပေလိမ့်မည်။ ဤသို့အားဖြင့် မီးသည် ထင်း၏ပျက်စီးမှုကို ပြု၏ဟူသောစကားသည် ကံမလိုသောအရာတွင် မှန်မည်မဟုတ်ပေ။

အကယ်၍ မီးအားဖြင့် ပျက်စီးမှု၏ ဖြစ်ပေါ်မှုကို ယူမှတ်ခဲ့သော် "ဖြစ်မှုရှိခြင်းကြောင့်" ၎င်းပျက်စီးမှုကို ပျက်စီးမည့်သဘောတရားဟု ယူမှတ်ရပေလိမ့်မည်။ အကြောင်းသော်ကား ဖြစ်မှုရှိသောဘာဝ (အရာဝတ္ထု) အားလုံးပင် ပျက်ရမည့်သဘောတရားများဖြစ်ကြ၏။ သို့ဖြစ်၍ ပျက်ရမည့်သဘောတရားဖြစ်သည့်အတိုင်း ပျက်စီးသွားခဲ့လျှင် အဖုံးအလွှမ်းမှ လွတ်သွားသဖြင့် ထင်းကို မြင်သင့်၏။

ပျက်စီးမှုတည်းဟူသော ဘာဝဝတ္ထုသည် ထင်းကိုသတ်တတ်သော သဘောဖြစ်နေ၏။ ရာမသည် သာမကိုသတ်၏ (=ဖျက်ဆီး၏) ထိုအခါ တရားသူကြီးသည် ရာမကို ကြိုးပေး၏ဟု အကယ်၍ဆိုငြားအံ့။ သို့သော် လည်း ရာမကို ကြိုးပေးပြီးသော် –"သတ်သူပျက်စီးသွားသော" အခါ လည်း သေသူ(ပျက်စီးသွားသောသာမ)၏ တစ်ဖန်အရှိသဘောသို့ ရောက်မလာ တော့သကဲ့သို့ ဤအရာတွင်လည်းပျက်စီးတတ်သောသဘောရှိသည့် ပျက်စီးမှုအရာဝတ္ထုပျောက်ဆုံးသွားသော်လည်း ထင်းသည် တစ်ဖန်အရှိသ ဘောသို့ ရောက်မလာတော့ပေ။

သို့သော်လည်း ဥဒါဟရဏ်သည် အမှားမဟုတ်လော။ ရာမသာမ၏ ပျက်စီးမှုတွင် သတ်သူ (=ရာမ) သည် သာမ၏ သေခြင်းမဟုတ်။ စင်စစ် သော်ကား သာမ၏ သေခြင်းသည် သူ၏အသက်၊ ဣန္ဒြေစသည်၏ ပျက်စီး မှုသာဖြစ်၏။ အကယ်၍ သာမ၏အသက် ဣန္ဒြေစသည်ပျက်စီးမှုကို ဖယ် ထုတ်လိုက်လျှင် သာမသည်မချွတ်မလွဲအရှိသဘောသို့ ရောက်လာပေလိမ့် မည်။ သို့သော် ဤနေရာ၌ သင်တို့သည် ပျက်စီးမှုအရာဝတ္ထု"ထင်း၏သေ ခြင်း"ကို အသိအမှတ်ပြုကြ၏။ ထို့ကြောင့် ပျက်စီးမှုအရာဝတ္ထုပျောက်ကွယ် သွားသောအခါ ထင်းသည် တစ်ဖန်အရှိသဘောသို့ ပြန်လည်ရောက်ရှိလာ သင့်၏။

– ပျက်စီးမှုသည် မကွဲပြားသော ဘာဝဝတ္ထုတစ်ခုဖြစ်သည်ဟု ယူဆ လျှင်လည်း အရာရောက်မည်မဟုတ်ပေ။ ပျက်စီးမှုတည်းဟူသော ဘာဝ ဝတ္ထုသည် ထင်းနှင့်မကွဲပြားသော အရာဝတ္ထုတစ်ခုဟု ယူဆခဲ့သော် ပျက်စီး မှုသည် ထင်းဖြစ်၏။ သို့ဖြစ်လျှင် ထင်းသည်=ပျက်စီးမှုသည် အဘာဝ တရားဖြစ်၏။ ထို့ကြောင့်ပင် ဖျက်ဆီးတတ်သောမီးသည် ပျက်စီးမှု၏ အကြောင်းမဖြစ်နိုင်ပေ။

ပျက်စီးမှုကို အဟေတုကဟု ယူဆသော် ထိုပျက်စီးမှုသည် နိစ္စဖြစ်ရာ၏။ သို့ဖြစ်လျှင် ထင်း၏ ဘာဝသဘောနှင့် ပျက်စီးမှုသဘော ၂ မျိုးကို တစ်ပေါင်း တည်းတည်ရှိနေသည်ဟု ယူဆရာကျပေလိမ့်မည်ဟု အကယ်၍ ဆိုခဲ့ငြားအံ့။ သို့ဆိုခဲ့သော် ဤသို့သော ယုံမှားသံသယသည်ပင် အမှားအခြေခံပေါ်တွင် တည်ရှိ၏။ အကြောင်းသော်ကား ပျက်စီးမှုသည် အဘာဝတရားဖြစ်၏။

ထိုအဘာဝတရား၏ နိစ္စသဘောအဘယ်သို့ဖြစ်ပေအံ့နည်း။ နိစ္စ၊ အနိစ္စ ပြဿနာသည် ဘာဝဝတ္ထုအတွက်ဖြစ်၏။ မြဲဦးချို-အဘာဝဝတ္ထုအတွက် မဟုတ်ပေ။

ကာရဏ သမူဟဝါဒ-အကျိုးသည် တစ်ခုတည်းသော အကြောင်းကြောင့်မဖြစ်။ အကြောင်းများစွာ ပေါင်းဆုံမိမှဖြစ်၏။ အကြောင်းများစွာ ပေါင်းစပ်၍ အကျိုးတစ်ခုကို ဖြစ်ပေါ်စေ၏ဟု ဆိုလိုသည်။

ဤသဘောတရားအားဖြင့် ဗုဒ္ဓအဘိဓမ္မာဆရာများသည် ကမ္ဘာတွင် အလုပ်သဘောအားဖြင့် ပြီးသောအရာဝတ္ထု၏ တည်တံ့မှုကို ဖွင့်ဆိုကြရာဝယ် ဣဿရ၏ ဖန်ဆင်းမှုကိုလည်း ပယ်ဖျက်ကြ၏။ ထာဝရဝါဒသည် ပရမာဏုတို့၏ ထာဝရသဘောဖြစ်ကြ၏။ ဣဿရ၏ ထာဝရသဘောဖြစ်စေ၊ အကြောင်းများစွာပေါင်းဆုံမှုကို အရှိသဘောသို့ မဆောင်ယူနိုင်ပေ။ ဘာဝတရားတို့၏ ခဏိက သဘော-ဒေသနှင့် ကာလတိုင်းတွင် ဆက်လက်သွားနေမှုအားဖြင့် အကြောင်းများစွာ ပေါင်းစုံမှုကိုပြုလုပ်ပေးနိုင်သောဝါဒသည် ခဏိက ဝါဒသာတည်းဟု ဆိုကြ၏။

မည်သည့်အရာဝတ္ထုမဆို အကြောင်းတစ်မျိုးတည်းကြောင့် မဖြစ်ပေါ်ပေ။ စင်စစ်အကြောင်းများစွာ ပေါင်းဆုံမိမှ အကျိုးတစ်ခုသို့မဟုတ် အများဖြစ်ပေါ်ကြ၏။

"အကျိုးတို့၏ သဘာဝများတွင်ရှိသော ထူးခြားမှုသည် ရှောင်တခင်ဖြစ်ပေါ်လာသော အရာမဟုတ်။ စင်စစ်အကြောင်းများစွာကြောင့်ဖြစ်ပေါ်ရ၏။ အကြောင်းများစွာမပါဘဲ အခြားတစ်ခုခုကြောင့်ဖြစ်ပေါ်သည်ဟု ယူဆလျှင် အကျိုး သဘော(=မီးသွေး)ကို မီးကြောင့်ဖြစ်ပေါ်သည်ဟု အဘယ်သို့လျှင် ဆိုရပေတော့အံ့နည်း"

"အကြောင်းများစွာ၏ အစွမ်းသတ္တိများသည် အထူးထူးအပြားပြားများလှ၏။ ထို့ကြောင့် အကြောင်းများစွာ၏ အထူးထူးသော သတ္တိတို့၏ အစွမ်းအားဖြင့် ဝတ္ထုများ(=အကျိုးများ)တွင် အထူးထူးသော သဘောထင်လာရ၏။ အကြောင်းများစွာသည် အထူးထူးသော သဘောကို မပြုတတ်လျှင် ဤကမ္ဘာ

လောကကြီးသည် အမျိုးမျိုးသောသဘောမရှိဘဲ သဘောတစ်မျိုးတည်းသာဖြစ်လေရာ၏။

မြေအိုးထိန်းစက်၊ အိုးထိန်းသည်တို့သည် တခြားစီဖြစ်နေကြလျှင် အိုးကဲ့သို့သော တစ်စုံတစ်ခုထူးခြားမှုရှိသော အကျိုးကိုပြုရာ၌ စွမ်းနိုင်ကြမည်မဟုတ်ပေ။ စင်စစ်သော်ကား ထိုအကြောင်းတို့ပေါင်းစုံမိမှ အကျိုးဖြစ်ပေါ်လာရ၏။ ဤသဘောကို ထောက်ထား၍ ပေါင်းဆုံမိသော ခဏိကဝတ္ထုများတွင် အကြောင်းသဘောရှိ၏။ ဣဿရစသည်တွင် မရှိပေ။ အကြောင်းသော်ကား ဣဿရစသည်၌ ခဏိကသဘောမရှိသဖြင့် မကွဲမပြား တစ်မျိုးတစ်စားတည်းဖြစ်သည်ဟု သိရ၏။

(ဂ) ပမာဏစိစစ်ချက်– လူသား၏ အသိဉာဏ်၊ တိုးတက်သည်နှင့်အမျှ လူသားသည် အသိဉာဏ်၏ ကြီးကျယ်ပုံကိုသိ၏။ ထို့နောက် မိမိဘဝတာတွင် နေရာတကာ၌ ဦးနှောက်ကိုပို၍ အသုံးပြု၏။ ဤဉာဏ်၏ ကြီးမားမှုသည်ပင် နောင်သောအခါ လက်တွေ့ပြီးမြောက်ခြင်းမဟုတ်ဘဲ စိတ်ကူးပြီးမြောက်ခြင်းသဘောအားဖြင့် ဘာသာရေးနှင့် ဘာသာရေး၏ အထောက်အကူအဘိဓမ္မာသဘောသို့ ပြောင်းလဲသွားခဲ့လေသည်။ ဤသဘောကို ကျွန်ုပ်တို့သည် ဥပနိသျှဒ်ခေတ်၌ တွေ့ခဲ့ကြရပြီမဟုတ်လော။ ဥပနိသျှဒ် ခေတ်အဘိဓမ္မာဆရာများ ဉာဏ်ကို အရေးပေးသည်ထက်ပင် ဗုဒ္ဓက ဘယ်နေရာမဆို ဥပနိသျှဒ်ခေတ်၌ တွေ့ခဲ့ကြရပြီမဟုတ်လော။ ဥပနိသျှဒ်ခေတ် အဘိဓမ္မာဆရာများ ဉာဏ်ကိုအရေးပေးသည်ထက်ပင် ဗုဒ္ဓက ဘယ်နေရာမဆို ဥပနိသျှဒ်ခေတ်ထက်ပင် ဉာဏ်ကိုပို၍ အရေးပေး၏။ အကြောင်းသော်ကား ဗုဒ္ဓက အဝိဇ္ဇာကို အဆိုးအပြစ်အားလုံး၏ မူလဟုအသိအမှတ်ပြု၏။ အဝိဇ္ဇာ ကင်းပျောက်စေရန် အရိယသစ္စာ သို့မဟုတ် အပြစ်ကင်းသော အသိဉာဏ်အလွန်အရေးကြီးသည်ဟု အသိအမှတ်ပြု၏။

လွန်ခဲ့သော ရာစုနှစ်များက အိန္ဒိယပြည်သားတို့သည် အရစ္စတော် (တလ)၏ တက္ကအတတ်ပညာနှင့် ပေါင်းဆုံခွင့်ကိုရသောအခါ ဉာဏ်နှင့် ဉာဏ်ကိုရကြောင်း ကြိယာတန်ဆာပလာများဘက်သို့ သူတို့၏စိတ်ဝင်စားမှုများ ပို၍ရောက်သွားခဲ့ကြလေသည်။ ဤအကြောင်းကို ကျွန်ုပ်တို့သည် နာဂဇ္ဇုန၊ ကဏာဒ၊ အက္ခပါဒအစရှိသော ပုဂ္ဂိုလ်ကြီးများ၏ ဖွင့်ဆိုရေးသား

ချက်များတွင် တွေ့ကြရ၏။

ဝသုဗန္ဓု၊ ဒိန္နာဂ၊ ဓမ္မကိတ္တိ တို့သည် ဤဉာဏ်ကို အဓိကအကြောင်းအချက်ပြု၍ မိမိတို့၏တက္ကကျမ်းများကို စီရင်ခဲ့ကြ၏။ ဒိန္နာဂသည် သူ၏ပဓာနဖြစ်သော ကျမ်း၏ အမည်ကို "ပမာဏသမုစ္စယ"ဟု အဘယ်ကြောင့်မှည့်ခေါ်လေသနည်း။ ဓမ္မကိတ္တိကလည်း အလားတူပင် သူ၏ကျမ်းထူးကျမ်းမြတ်၏ အမည်ကို ပမာဏဝတ္တိကဟု အဘယ်ကြောင့်မှည့်ခေါ်လေသနည်း။ ဤအမေး၏အဖြေကို ကျွန်ုပ်တို့သည် အထက်ပါအကြောင်းအချက်ကို စူးစူးစိုက်စိုက်စိုက်ကြည့်ရှုဆင်ခြင်လျှင် ကောင်းစွာသိနိုင်ကြပေသည်။

ပမာဏ–ပမာဏဟူသည် အဘယ်နည်း။ ဓမ္မကိတ္တိက ဖြေခဲ့၏။ "အခြားအကြောင်းများဖြင့် မသိအပ်သော အနက်ကို ဖော်ပြတတ်သော မချွတ်မယွင်းသိသော ဉာဏ်ကို ပမာဏဟုခေါ်၏။ မချွတ်မယွင်း (အဝိသံဝါဒ)ဟူသည် အဘယ်နည်း။ အသိဉာဏ်တွေးဆချက်အပေါ်တွင် မဟုတ်ဘဲ အနက်ရှိအပြုအမူအပေါ်တွင် တည်ခြင်းတည်း။ ထို့ကြောင့် တစ်စုံတစ်ခုသော ဉာဏ်၏ ပမာဏမြောက်မှု–အခိုင်အမာဖြစ်မှုသည် လက်တွေ့အလုပ်အနက်သဘောရှိသော အပြုအမူအားဖြင့် ဖြစ်၏"

ပမာဏအရေအတွက်– ကျွန်ုပ်တို့ တွေ့ခဲ့ပြီးလေပြီ။ အခြားအိန္ဒိယပြည်သားအဘိဓမ္မာဆရာများသည် သဒ္ဒ၊ ဥပမာန၊ အတ္ထာပတ္တိအစရှိသော အခြားပမာဏများစွာကိုလည်း အသိအမှတ်ပြုကြ၏။ ဓမ္မကိတ္တိသည် အတ္တကြိယာ–အနက်ရှိ အပြုအမူသို့မဟုတ် လက်တွေ့အလုပ်ကို ပရမတ္ထသဘောတရား၏မှတ်ကျောက်ဟု အသိအမှတ်ပြု၏။ ထို့ကြောင့် ဓမ္မကိတ္တိသည် အတ္တကြိယာအပေါ်တွင် အမှီတကဲပြုထားသော ပမာဏများကိုသာ အသိအမှတ်ပြုနိုင်၏။

အရာဝတ္ထု–အသီးသီးခွဲထုတ်လျှင် ကိုယ်ပိုင်လက္ခဏာရှိသောအရာ–ကို သဒ္ဒအစရှိသည်ကို အသုံးမပြု မိမိပိုင် သဘောအားဖြင့် တွေ့ရ၏။ တစ်နည်းသော်ကား အရာဝတ္ထုများစွာတို့၏ တူညီမှုကို ယူလိုက်လျှင် သာမညဖြစ်သော လက္ခဏာ–အရာဝတ္ထုများစွာအနက် ၎င်းတို့၏အခြင်းအရာတူညီမှုတွင် တွေ့ရ၏။ ဤသို့အားဖြင့် အကြောင်းအရာသည် ၂ မျိုးသာရှိသောကြောင့် ပမာဏလည်း ၂ မျိုးသာရှိရလေတော့သည်။ ၎င်းတို့အနက် ပထမဖြစ်သော ပမာဏကား ပစ္စက္ခဖြစ်၍ ဒုတိယဖြစ်သော ပမာဏကား အနုမာနဖြစ်လေ

သည်။ ပစ္စက္ခ၏ တည်ရာသည် ဝတ္ထု၏ မိမိ မိမိတို့ကိုယ်ပိုင်လက္ခဏာဖြစ်၏။ ၎င်းပြင် ကိုယ်ပိုင်လက္ခဏာသည် အနက်ရှိ အပြုအမူတွင် စွမ်းနိုင်သောသဘောရှိ၏။ အနုမာန၏တည်ရာကား သာမညလက္ခဏ–အရာဝတ္ထုများစွာ၌ တူညီမှုဖြစ်၏။ ၎င်းပြင် သာမညလက္ခဏာသည် အနက်ရှိ အပြုအမူ၌ မစွမ်းနိုင်ပေ။

(ဃ) ပစ္စက္ခ ပမာဏ–ဉာဏ်၏ ကိရိယာတန်ဆာပလာမှာ ပစ္စက္ခ–အနုမာနဟူ၍ ၂ မျိုးသာရှိ၏။ ပစ္စက္ခဟူသည် အဘယ်နည်း။ ဣန္ဒြေငါးပါး၊ မနောနှင့် အာရုံတို့ပေါင်းဆုံသောအခါ တွေးဆချက်လုံးဝကင်းရှင်းသောဉာဏ်၊ ၎င်းပြင် အခြားသောကိရိယာတန်ဆာပလာတစ်ခုဖြင့် မသိအပ်သောအနက်ကို ထုတ်ဖော်ပြတတ်သော ဉာဏ်သည် ပစ္စက္ခဉာဏ်မည်၏။ ထိုပစ္စက္ခပမာဏသည် တွေးဆချက်မဟုတ်။ ပတိ–အက္ခ (ဣန္ဒြေနှင့် ရှေးရှုရင်ဆိုင်) အားဖြင့်သာ အခိုင်အမာဖြစ်၏။ ဤသို့အားဖြင့် ပစ္စက္ခသည် မချွတ်မယွင်းသော (အနက်ရှိအပြုအမူသို့ အစဉ်လိုက်သော) မသိအပ်သောအနက်ကို ထုတ်ဖော်ပြတတ်သောဉာဏ်ဖြစ်၏။

၎င်းဉာဏ်သည် တွေးဆချက်မဝင်မီခဏ အာရုံနှင့် ပေါင်းဆုံမိခြင်းကြောင့် ဖြစ်၏။ ဓမ္မကိတ္တိသည် ဒိန္နာဂကဲ့သို့ ပစ္စက္ခ ၄ မျိုးရှိ၏ဟု အမှတ်အသားပြု၏။ ၎င်းတို့ကား

(၁) ဣန္ဒြိယ ပစ္စက္ခ
(၂) မာနသ ပစ္စက္ခ
(၃) သသံဝေဒန ပစ္စက္ခနှင့်
(၄) ယောဂိ ပစ္စက္ခတို့တည်း။ အသင်္ဂ၏ လောကပစ္စက္ခကား မပါပေ။

**ဣန္ဒြိယပစ္စက္ခ**– အဘက်ဘက်မှ တွေးခေါ်မှုကို ဖယ်ရှား၍ တွေးဆချက်မှကင်းသောကြောင့် မတုန်မလှုပ်သော စိတ်နှင့် ဣန္ဒြိယပစ္စက္ခဉာဏ်ဖြစ်၏။ ဣန္ဒြိယပစ္စက္ခဖြစ်ပြီးနောက် အကြင်အခါ ထိုယောဂီသည် တစ်စုံတစ်ခုကို တွေးဆ၏။ ငါ၏စိတ်၌ ဤအရာကား ထူးခြားသော အမျိုးအစားဖြစ်၍ အိုးပေတည်းဟူသော တွေးဆချက်ဖြစ်၏။ သို့သော်လည်း ဤအကြောင်းအရာသည် အဆိုပါဣန္ဒြေတို့ကြောင့်ဖြစ်ပေါ်လာသော ဉာဏ်၏

အခိုက်အတံ့တွင် မရှိပေ။ ထို့ကြောင့် အားလုံးသောစကြာစုသည်ဆိုင်ရာ ဣန္ဒြိယ ပစ္စက္ခတို့သည် အသီးအခြား အကောင်အထည်အထူးနှင့်သာ သက်ဆိုင်ကုန်၏။ အထူးဝိသေသဖြစ်သော အရာဝတ္ထုတို့၏ သဘောသည် သာမညမှ လွတ်၍ ကိုယ်ပိုင်လက္ခဏာ သက်သက်မျှသာဖြစ်၏။ ထို့ကြောင့် ၎င်းအရာဝတ္ထုများတွင် သဒ္ဒါများကို မသုံးစွဲနိုင်ပေ။ "အိုးသားဝတ္ထုကို ဟောတတ်သော သဒ္ဒါကား 'အိုး' ဖြစ်၏။ ဤသို့အားဖြင့် ဝါစ္စ (ဟောအပ်) ဝါစက (ဟောတတ်) ၂ မျိုးတို့၏ ဆက်စပ်မှုသည် အိုး၌ထင်ပေါ်နေကြသော ဝါစ္စဝါစက ဆက်စပ်မှုဘက်သို့ စိတ်ကူးက ပြေးသွားသောအခါ အရာဝတ္ထုသည် ဣန္ဒြေတို့၏ ရှေ့မှောက်မှ ဖယ်ရှားဆုတ်ခွာနေ၏။ စိတ်သည် မိမိ၏ အထုံဝါသနာအတွင်း၌ တည်ရှိနေသော လတ်လတ်ဆတ်ဆတ်နှင့် အဟောင်းတွေးခေါ်မှုကားချပ် ၂ ခုကို ပေါင်းစပ်၍ အမည်ပေးရန် ကြိုးစားနေ၏။

"သက်ရသာမိကဲ့သို့သော အချို့သော ဗုဒ္ဓဘာသာဝင် ပမာဏသျှတ္တရာသမားများသည် ပစ္စက္ခဉာဏ်ကို ဣန္ဒြေကြောင့်ဖြစ်၍ သဒ္ဒါအသိဉာဏ်ကင်းမဲ့သော ကလေးများ၏ ဉာဏ်ကဲ့သို့ တွေးခေါ်မှုကင်းသော ဉာဏ်ဟုခေါ်ဆိုကြ၏။ ထို့ပြင် ကလေးငယ်များသည် ဉာဏ်ကို အလားတူပင် တွေးခေါ်မှု ကင်းရာ၌ ဝါစ္စ ဝါစက သဘောအားဖြင့် သဒ္ဒါနှင့်အနက် ဆက်စပ်မှုသင်္ကေတကို အကြောင်းဟု ဆိုကြ၏။

ဤသို့သော သဘောရှိသော ဆရာတို့၏ အယူတွင် တွေးခေါ်မှု အချင်းခပ်သိမ်းကင်းသောကြောင့် ကလေးသူငယ်များဉာဏ်အားလုံးသည် ပစ္စက္ခချည်းဖြစ်လေရာ၏။ ကလေးသူငယ်များတွင် သင်္ကေတကိုသိမှတ်ရန် အကြောင်းတစ်စုံတစ်ရာမရှိသဖြင့် နောင်ကြီးပြင်းလာသောအခါလည်း သင်္ကေတဉာဏ်ဟု မဖြစ်နိုင်တော့ပေရာ။

**မာနသပစ္စက္ခ**–ဒိန္နာဂသည် ပမာဏသမုစ္စယ၌ မာနသပစ္စက္ခကို ဖွင့်ခဲ့၏။ "အရာဝတ္ထုကို အစွဲပြု၍ ရာဂစသော အသိဉာဏ်ဖြစ်၏။ ထိုတွေးခေါ်မှုကင်းသော အသိဉာဏ်သည် မာနသပစ္စက္ခဖြစ်၏" အကယ်၍ ပထမဣန္ဒြေများဖြင့် သိအပ်သောအနက်ကိုပင် စွဲယူထားခဲ့လျှင် မာနသပစ္စက္ခသည် လွတ်လပ်သောပစ္စက္ခမဖြစ်တော့ပေရာ၊ အကြောင်းသော်ကား ဤသို့သော အခြေအနေတွင် ပထမဣန္ဒြေတို့ဖြင့် သိအပ်ပြီးသောအနက်ကို ထုတ်ဖော်ပြတတ်

သဖြင့် မသိရသေးသော အနက်ကိုပြတတ်သော ဉာဏ်မဟုတ်တော့ပေ။ ထို့ကြောင့် ထိုဉာဏ်သည် ပမာဏမမြောက်တော့ပေရာ။ "အကယ်၍ ဣန္ဒြိယဉာဏ်ဖြင့် မမြင်အပ်သေးသောအရာကို မာနသပစ္စက္ခဟု ယူဆခဲ့သော် အကန်းအစရှိသော သူများကိုလည်း ရူပါရုံစသောအနက်ကိုမြင်ခြင်းဖြစ်၏ဟုယူဆရပေလိမ့်မည်" ဤအလုံးစုံကို သတိထား၍ ဓမ္မကတ္တိက မာနသပစ္စက္ခကို ဖွင့်ပြ၏။ "စက္ခုအစ စရှိသော ဣန္ဒြေတို့ဖြင့် သိအပ်ပြီးသော ရူပါရုံစသည်ကို သိတတ်သောဉာဏ်မှ ထူးခြားသောအာရုံကို မာနသ ပစ္စက္ခအနေအားဖြင့် စွဲယူ၏။ ထို့ကြောင့် ထိုပစ္စက္ခသည် သိအပ်ပြီးသောအနက်ကို ထုတ်ဖော်ဖွင့်ပြခြင်း မဟုတ်တော့ပေ။ မနအားဖြင့် ပစ္စက္ခဖြစ်မည့် ရူပါရုံအစရှိသည်ကို စွဲ၍ဖြစ်သော ဝိညာဉ်သည် ဣန္ဒြေဖြင့်သိအပ်ပြီးသော အဆိုပါရူပါရုံစသည်တို့နှင့် စပ်၏။ ၎င်းရူပါရုံစသည်တို့ကို အကန်းများ မမြင်နိုင်ပေ။ ထို့ကြောင့် မျက်ကန်းတို့၏ ရူပါရုံကိုမြင်ခြင်းအကြောင်း မရှိလာတော့ပေ။

**သသံဝေဒနပစ္စက္ခ**– ဒိန္နာဂသည် ဤလက္ခဏာများကို ဖွင့်ဆိုခဲ့၏။ "စက္ခု–ဣန္ဒြေဖြင့် ယူအပ်သော ရူပါရုံစွဲဝိညာဉ်ကို သိသော ဉာဏ်ဖြစ်ပေါ်ပြီးနောက် ရူပအစရှိသော အနက်ကို အစွဲပြု၍ မိမိ၏ အတွင်း၌ရှိသော ဒေါသအစရှိသည်ကို ခံစား၏။ တွေးခေါ်မှုကင်းသော အသိဉာဏ်သည်ပင် သသံဝေဒနပစ္စက္ခဖြစ်၏။ ဤအနက်အဓိပ္ပာယ်ကို သူ၏ ဝတ္တိကဖြင့် ထင်ရှားစွာဖွင့်ပြ၍ ဓမ္မကိတ္တိကဆိုခဲ့၏။

"ရာဂ (သုခ) စသော ကျွန်ုပ်တို့ခံစားရသော သဘောသည် အခြားတစ်စုံတစ်ခုသော ဣန္ဒြေစသည်နှင့် မဆက်စပ်၊ ထို့ကြောင့် ထိုသဘောကို အစွဲပြု၍ ဝါစ္စဝါစက သံကေတကို မသုံးစွဲနိုင်ပေ။ ထို့ကြောင့် မိမိတို့၏ ကိုယ်တိုင်ခံစားမှုကို ဝါစကသဒ္ဒဖြင့် ထုတ်ဖော်ခြင်းငှာ မသင့်လျော်ပေ။ ဤသို့ အားဖြင့်မသိရသေးသောအနက်ကို သိအောင်လည်း ဖော်ပြတတ်တွေးခေါ်မှုလည်းကင်း ၎င်းပြင် မချွတ်ယွင်းသော သဘောဖြစ်သဖြင့် ရာဂသုခစသည်ဣန္ဒြိယပစ္စက္ခ၌ ကျွန်ုပ်တို့သည် တစ်စုံတစ်ခုသော ဣန္ဒြေ၏ အာရုံတစ်ပါးပါးကိုသိသော အသိဉာဏ်ကိုရ၏။ မာနသပစ္စက္ခသည် ဣန္ဒြိယပစ္စက္ခမှ ရှေ့သို့တိုးတက်၍ ဣန္ဒြေအားဖြင့် ရအပ်သော ဉာဏ်ကို ကျွန်ုပ်တို့အား ခံစားစေ၏။ သို့အားဖြင့် ထိုခံစားသောအခါလည်း ဣန္ဒြေနှင့်အာရုံ၏ ဆက်စပ်မှု

သည်ရှိ၏။ သို့သော် သသံဝေဒနပစ္စက္ခဥ ဣန္ဒြိယဉာဏ်နှင့် ၎င်းဉာဏ်ကိုသိသောဉာဏ်မှ ရှေ့သို့တိုးတက်၍ လုံးဝကွဲပြားသော ရာဂ- ဒေါသ၊ သို့မဟုတ်၊ သုခ-ဒုက္ခကို ကျွန်ုပ်တို့ လက်တွေ့ခံစားကြ၏။

**ယောဂိပစ္စက္ခ**- အထက်ပါ ၃ မျိုးသော ပစ္စက္ခတို့မှတစ်ပါး ဗုဒ္ဓဘာသာဝင်များက လေးခုမြောက်သော ပစ္စက္ခကို ယောဂိပစ္စက္ခဟု အသိအမှတ်ပြု၏။ မသိအပ်သေးသောအနက်ကို ဖော်ထုတ်ပြတတ်ခြင်း၊ မချွတ်မယွင်းခြင်း-တည်းဟူသော ပစ္စက္ခ၏ ဝိသေသနများကို ဤယောဂိပစ္စက္ခတွင်လည်း ဆက်စပ်ပေးအပ်၏။ ဆက်၍လည်း ဆိုခဲ့သေး၏။ "ထိုယောဂီတို့၏ ဉာဏ်သည် ဘာဝနာကြောင့်ဖြစ်ပေါ်၍ တွေးခေါ်မှု ကွန်ရက်မှ လွတ်ကင်းစွာ ထင်ထင်ရှားရှားပင်ပေါ်လွင်နေ၏။ "ထင်ထင်ရှားရှား"ဟု ဆိုရခြင်း အကြောင်းသော်ကား လိုလားတောင့်တခြင်း၊ စိုးရိမ်ပူဆွေးခြင်း၊ ကြောက်လန့်ခြင်း၊ ရူးသွပ်ခြင်း၊ ခိုးခြင်း၊ အိပ်မက်မက်ခြင်း အစရှိသော အကြောင်းကြောင့် မှောက်မှားမှုတွင်ကျရောက်နေသော ပုဂ္ဂိုလ်များလည်း ထင်ရှားမရှိသော အရာဝတ္ထုများကိုလည်း ရှေ့မှောက်တွင် တည်နေဘိသကဲ့သို့ ထင်မြင်ကြ၏။ သို့သော် ထိုအဘာဝဝတ္ထုများသည် ထင်ထင်ရှားရှားရှိသော ဝတ္ထုများမဟုတ်ကြပေ။ တွေးခေါ်မှုရောနှောသော အသိဉာဏ်သည် ထင်ရှားသော အရာဝတ္ထု၏ သဘောအားဖြင့် မထင်ပေါ်ပေ။ အိပ်မက်တွင် မြင်မက်သော အရာဝတ္ထုသည်လည်း တွေးကြည့်လျှင် ပေါ်လာ၏။

သို့သော်လည်း နိုးသောအခိုက်အတန့်တွင် တွေးခေါ်မှုကင်းစွာ အိပ်မက်ထဲကအတိုင်း အရာဝတ္ထုများကို သတိမရတော့ပေ။

သမာဓိအစရှိသော ဘာဝနာအစွမ်းဖြင့် ရအပ်သော ဉာဏ်ရှိသမျှ ယောဂိပစ္စက္ခပမာဏတွင် မပါပေ။ သို့သော်လည်း ၎င်းဉာဏ်အနက် ပထမ (မသိအပ်သေးသောအနက်ကို ပြတတ်ခြင်းစသည်)ကဲ့သို့ မချွတ်မယွင်းသော အရာ (အနက်ရှိအပြအမှုသို့ အစဉ်လိုက်သောအရာ) ဖြစ်ခဲ့လျှင် ထိုဉာဏ်သည် သာ ဘာဝနာကြောင့်ဖြစ်ပေါ်သော ဉာဏ်ဖြစ်၍ ပစ္စက္ခပမာဏအားဖြင့် အလိုရှိအပ်၏။ ကြွင်းကျန်သော အခြားဘာဝနာကြောင့်ဖြစ်သော ဉာဏ်သည် ဖောက်ပြန်၏။

ပစ္စက္ခဉာဏ်ဖြစ်ရန်အတွက် ၎င်းဉာဏ်သည် တွေးဆချက်ကင်းရမည်။

ဤအချက်ကို အထူးပြုထား၏။ ဣန္ဒြိယပစ္စက္ခအထိ တွေးဆချက်ကင်းမှုကို လွယ်ကူစွာပင် သိနိုင်၏။ အကြောင်းသော်ကား ရှေ့မှောက်တွင် အိုးကိုမြင်ရသောအခါ မျက်စိပေါ်တွင်ကျရောက်လာသော အိုးအရိပ်၏ ပထမ ဖိလာမှုသည် ဉာဏ်မြင်များအားဖြင့် ကျွန်ုပ်တို့၏ ဦးနှောက်သို့ကျရောက်၏။ ထိုဖိလာမှုသည် တွေးဆချက်ကင်း၏။ ဤအချက်ကို ကျွန်ုပ်တို့ တွေ့ကြရပေသည်။ ပထမဖိမှု၏နောက်၌ အရိပ်ထင်ချက်တစ်ခုသည် ဦးနှောက်၌ ကျရောက်၏။ တစ်ဖန် ဦးနှောက်၌ အထုံဝါသနာသဘောအားဖြင့် ပထမထင်ခဲ့သော အိုး၏အရိပ်များ (အိုးရိပ်အစဉ်အတန်း) သည် ထင်ရှားရှိ၏။ ထိုအရိပ်ဟောင်းများနှင့် မပြတ်ကျရောက်နေသော အရိပ်သစ်အစဉ်အတန်းပေါင်းစပ်၏။ ထိုအခါ တွေးဆချက်စတင်လေတော့သည်။ တစ်ဖန် အရိပ်သစ်နှင့်ပေါင်းစပ်သောအရိပ်ဟောင်း၏ ဝါစကဖြစ်သောအမည်ကို သတိရ၏။ ထို့နောက် ဤအရိပ်သစ်ရှိသော အရာဝတ္ထုများ၏ အမည်ကို မှည့်ခေါ်အပ်၏။ ဤအချက်တွင် ဘယ်အထိတွေးဆချက်ကင်းသော ဉာဏ်ရှိနေသည်၊ အဘယ်မှ တွေးဆချက်စလာသည်ဟူသော အကြောင်းသိမှုသည် ပထမတွေးဆချက်ကင်းသော ဖိနှိပ်မှုအားဖြင့် လွယ်ကူ၏။

"အကြင် (အာရုံဝတ္ထု) ၌ အကြင် ( ဉာဏ်သည် အခြားသောဝတ္ထုများမှ သီးခြားပြုတတ်သော) သဒ္ဒ-အတ္ထ ဆက်စပ်မှုကို ဆွဲယူတတ်၏။ ထိုဉာဏ်သည် ထိုအာရုံ၌ တွေးဆချက်ဖြစ်၏။ ဝတ္ထု၏ မိမိသဘောသည် သဒ္ဒတ္ထ (သဒ္ဒါ၏အာရုံ) မဟုတ်ပေ။ ထို့ကြောင့် ထိုအာရုံဆိုင်ရာ ဉာဏ်အားလုံးသည် ပစ္စက္ခဖြစ်၏။

ဤသို့အားဖြင့် ဉာဏ်၏အာရုံသည် အပြင်အပအရာဝတ္ထုဖြစ်စေ၊ သို့မဟုတ် အတွင်းဝိညာဉ်ဖြစ်စေ၊ တူညီမှု မတူညီမှုကို အကြောင်းပြု၍ အသုံးကျသော သဒ္ဒါ၏အနက်သည် အကြင်မျှလောက် အခွင့်မရသေး။ ထိုမျှလောက် ထိုဉာဏ်၏ အာရုံသည် ပစ္စက္ခနယ်ပယ်အပိုင်းအခြားအတွင်းမှာသာ တည်ပေ၏။

(ပစ္စက္ခာဘာသ=ပစ္စက္ခ အတုအယောင်) လေးမျိုးပြားသော ပစ္စက္ခဉာဏ်ကို ဆိုခဲ့ပြီးလေပြီ။ သို့သော် ပစ္စက္ခပမာဏမဟုတ်ဘဲ ကြည့်လိုက်လျှင် ပစ္စက္ခနှင့် စပ်နေသော ဉာဏ်မျိုးလည်း ရှိ၏။ ကျွန်ုပ်တို့ လမ်းမှားဖို့ ကျ

ရောက်မသွားစေရန် ပစ္စက္ခအတုအယောင်မျိုးကိုသိထားဖို့အရေးကြီး၏။ ဒိဂ္နာဂသည် ဤသို့သဘောရှိသော ပစ္စက္ခအတုအယောင်များ၏ အရေအတွက်ကိုလေးမျိုးရှိ၏ဟု ဆိုခဲ့၏။

(၁) ဘန္တိဉာဏ်
(၂) သမ္ဗုဋ္ဌိဉာဏ်
(၃) အနုမာနာနုနာနိကသတျာဘိလာပိကဉာဏ်
(၄) တေမိရိဉာဏ်

**ဘန္တိဉာဏ်**– သဲကန္တာရအတွင်း သဲများကို ရေဟုသိသောဉာဏ်။

**သမ္ဗုဋ္ဌိဉာဏ်**– အတုဖြစ်သော ဒဗ္ဗ၏ဂုဏ်စသည်ကို ဤကား ဤမည်သောဒဗ္ဗ၊ ဤကား ဤမည်သောဂုဏ်ဟု သိသောဉာဏ်။

**အနုမာနာနုမာနိကသတျာဘိလာပိကဉာဏ်**= အနုမာန(=လိင်္ဂ–မီးခိုး) အာနုမာနိက(=လိင်္ဂီ–မီး) ၏ သင်္ကေတကို ပြောတတ်သောသတိ၏ စကား အနက်ရှိသော "ဤကားအိုးတည်း"ဟု သိတတ်သောဉာဏ်။

**တေမိရိဉာဏ်**– အသား၀ါရောဂါရှိသောသူသည် အရာဝတ္ထုအားလုံးကိုပင် ဝါသည်ဟု ထင်မြင်ခြင်းကဲ့သို့ ကွန္ဒေ့တွင် အမျိုးမျိုးချို့တဲ့ပျက်စီးခြင်းကြောင့် ဖြစ်ပေါ်သော အသိဉာဏ်။

၎င်းတို့အနက် ပထမ ၃ မျိုးသော ပစ္စက္ခအတုတို့သည် တွေးဆချက်နှင့်ယှဉ်သော ဉာဏ်များဖြစ်ကြ၏။ (၎င်းတို့ကို တွေးဆချက်နှင့်ယှဉ်သောကြောင့်ပင် ပစ္စက္ခအတွင်းသို့ သွတ်သွင်း၍ မရေတွက်နိုင်တော့ပေ။ တစ်ခုသော တေမိရိ–ဉာဏ်သည် တွေးဆချက်ကင်း၏။ သို့သော် တည်ရာ(ကွန္ဒေ့)၌ ဖောက်ပြန်ခြင်းကြောင့် ဖြစ်ပေါ်သော ဉာဏ်ဖြစ်သောကြောင့် ပစ္စက္ခဉာဏ်တွင် မဝင်နိုင်ပေ။ ဤ ၄ မျိုးတို့ကား ပစ္စက္ခအတုအယောင်များပေတည်း။

**အနုမာန ပမာဏ**– မီးကို သိမှုသည် ၂ မျိုး ၂ စားအားဖြင့် ဖြစ်နိုင်၏။ တစ်မျိုးကား သူ့သဘာဝအားဖြင့် ဖြစ်၏။ ဥပမာသော်ကား ပစ္စက္ခအားဖြင့် တွေ့ခြင်းတည်း။ အခြားတစ်မျိုးသော်ကား အခြားသော သဘောတစ်မျိုးအားဖြင့်ဖြစ်၏။ ဥပမာသော်ကား မီးခိုးကိုမြင်လျှင် အခြား စားဖိုအိမ်မှ မီးတစ်မျိုး၏ သဘောကို သတိရလာ၏။ ဤသို့လျှင် အခြားသဘောတစ်မျိုးအားဖြင့် မီးခိုးတည်းဟူသော အမှတ်အသားရှိသော မီးကို သိခြင်းဖြစ်ပေါ်

လာ၏။ ဤကား အနုမာနတည်း။ အရာဝတ္ထု၏ မိမိသဘောနှင့် သူတစ်ပါးသဘော (သရူပနှင့် ပရရူပ) နှစ်မျိုးအားဖြင့်သာ အသိဉာဏ်ဖြစ်၏။ ထို့ကြောင့် ပမာဏ၏အကြောင်းအရာအပြားသည် ၂ မျိုးသာရှိ၏။ တစ်မျိုးကား ပစ္စက္ခပမာဏ၏ အကြောင်းအရာဖြစ်၍ အခြားတစ်မျိုးကား အနုမာန၏ အကြောင်းအရာဖြစ်၏။

သို့သော် သူ့သဘောအားဖြင့်ဖြစ်သော အနုမာနဉာဏ်သည် ဝတ္ထုတည်ရှိသောအတိုင်းမယူ။ ထို့ကြောင့် အခြားတစ်မျိုးတစ်မည်ဖြစ်သော အသိဉာဏ်သည် ဖောက်ပြန်မှုသာတည်း။

အရာဝတ္ထု၏ သူ့သဘောအားဖြင့်မဟုတ်ဘဲ တစ်ပါးသောအားဖြင့် အသိဉာဏ်ဖြစ်ခဲ့သော် ၎င်းအသိဉာဏ်သည် ဖောက်ပြန်မှုဖြစ်၏။ ဖောက်ပြန်မှုကို ပမာဏဟု မဆိုနိုင်သည် မဟုတ်တုံလော။ (အကြောင်းသော်ကား ၎င်းဖောက်ပြန်မှုသည် မချွတ်မယွင်းရှိရင်းအတိုင်း မဟုတ်ပေရာ) ဤသို့ အမေးရှိ၏။

အဖြေကား လိုအပ်သော အရာဝတ္ထု မချွတ်ယွင်းလျှင် တစ်ပါးသောသဘောဖြင့် ရအပ်သော်လည်း လိုအပ်သောအရာဝတ္ထုသည် တွေးဆချက်မဟုတ်။ ထို့ကြောင့် ဖောက်ပြန်သော အသိဉာဏ်ကိုလည်း ပမာဏဟု မှတ်သားနိုင်၏။ အခိုးထနေသော တောင်ထိပ်မီးကိုသိသောအသိဉာဏ်ကို ကျွန်ုပ်တို့သည် သူ့သဘောအားဖြင့် ရခြင်းမဟုတ်။ စားဖိုအိမ်၌ ရှိသောမီး၏ သဘောအားဖြင့်ရခြင်းဖြစ်၏။ သို့သော်လည်း ကျွန်ုပ်တို့၏ ဤအနုမာနဉာဏ်ဖြင့် ရအပ်သောအနက်ဖြစ်သည့် တောင်ထိပ်မီးနှင့် စဖိုအိမ်ကမီးသည် ဆန့်ကျင်ခြင်းမရှိပေ။

**အနုမာနအရေးကြီးပုံ**–ဝတ္ထုပစ္စည်း၏ မိမိသဘောလက္ခဏာ၌ တွေးဆချက်ကင်းသော ပစ္စက္ခပမာဏအရေးကြီးကြောင်း ဆိုခဲ့ပြီးလေပြီ။ သို့သော်လည်း အရာဝတ္ထုများစွာ၏ အတွင်း၌ရှိသော သာမညသဘောကို တွေးဆချက်ကင်း၍ မစွဲယူနိုင်ပေ။ ထို့ကြောင့် သာမညဉာဏ်၏ အနုမာနကို လိုအပ်ပေ၏။

တစ်စုံတစ်ခုသော အဆက်အစပ်ရှိသည့် အရာဝတ္ထု(မီးခိုးနှင့် ဆက်စပ်နေသောမီး)၏ အမှတ်အသား(မီးခိုး) အားဖြင့် အမှတ်အသားရှိသော ဝတ္ထု

(မီး)ကို မျက်ကွယ်အားဖြင့် သိ၏။ ထိုအသိဉာဏ်သည် အနုမာနပေတည်း။

တောင်ပေါ်၌ရှိသော မီးခိုးကို အဝေးကပင် ကျွန်ုပ်တို့ မြင်ကြ၏။ ကျွန်ုပ်တို့သည် စားဖိုအိမ်သို့မဟုတ် အခြားနေရာများ၌ မြင်ဖူးသောမီးကို သတိရလာ၏။ ထို့ပြင် ဘယ်နေရာမဆို မီးခိုးထလျှင် မီးရှိ၏ဟုလည်း သိ၏။ ထို့နောက် မီးခိုးကို အကြောင်းပြု၍ တောင်ပေါ်တွင် မီးရှိ၏ဟု ကျွန်ုပ်တို့ သိကြ၏။ တောင်ပေါ်၌ ရှိသောမီးကား မျက်ကွယ်တည်း။ ထို့ကြောင့် ထိုအသိဉာဏ်သည် လက်တွေ့မီးကဲ့သို့ သူ့သဘောအားဖြင့် မဟုတ်။

တစ်နည်းအားဖြင့်ကား ကျွန်ုပ်တို့၌ပေါ်လာသော အသိဉာဏ်သည် ချက်ချင်းဖြစ်ပေါ်လာသော ဉာဏ်မဟုတ်ဘဲ ထိုမီးအပေါ်၌ သတိရခြင်း၊ တွေးဆခြင်းများကို အမှီတကဲပြုရပေ၏။

(ပမာဏ ၂ မျိုးသာ) ပမာဏ၏ အစွမ်းအားဖြင့် ဥေယျ(=ပမေယ) အရာဝတ္ထုကို သရူပ(=တွေးဆချက်မဲ့) ပရရူပ(=တွေးဆချက်ရှိ) နှစ်မျိုးအားဖြင့်သာ သိရ၏။ ၎င်းနှစ်မျိုးအနက် ပထမအမျိုးကို ပစ္စက္ခအနေအားဖြင့် သိရ၏။ ဒုတိယအမျိုးကိုကား ပရောက္ခ(ပစ္စက္ခမဟုတ်သောအနေ) အားဖြင့် သိရ၏။ ပစ္စက္ခနှင့် ပရောက္ခကို ချန်ထားလိုက်လျှင် အခြားတတိယဖြစ်သော ပမေယမရှိနိုင်ပေ။ ထိုသို့ ပမေယျနှစ်မျိုးသာရှိသောကြောင့် ပမာဏလည်း ၂ မျိုးသာ ရှိရ၏။ ပမေယနှစ်မျိုးကို တွေ့ရသဖြင့် ပမာဏအရေအတွက် ကိုတိုး၍ သို့မဟုတ် လျှော့၍ ၁ ခုပြုလုပ်ခြင်းလည်း မှား၏။

**အနုမာနအပြား**– ကဏာဒ၊ အက္ခပါဒသည် အနုမာနတစ်မျိုးသာ ဟု သတ်မှတ်၏။ ထို့ကြောင့် သူတို့ရှေ့သွား 'ဣသိကြီးများ' ၏ လမ်းစဉ် ကို လိုက်၍ ပသတ္တပါဒကဲ့သို့သော ခြင်းချက်ပုဂ္ဂိုလ်အနည်းငယ်မှအပ ယနေ့အထိ ဗြာဟ္မဏတက္ကဆရာများသည် အနုမာနကို တစ်မျိုးတည်းသာ သတ်မှတ်လာခဲ့ကြ၏။

(၁) သတ္တာနုမာန(၂) ပရတ္ထာနုမာန ဟူသော အနုမာန ၂မျိုးကို ပထမဦးစွာ ဒိန္နာဂက ခွဲပြခဲ့၏။ ၂ မျိုးပြားသော အနုမာနများအနက် ပထမဖြစ်သော သတ္တာနုမာနဟူသည်မှာ ဟေတုသုံးမျိုးအားဖြင့် တစ်စုံတစ်ခုသော ပမေယကို သိသောဉာဏ်ကို မိမိအတွက် ဖြစ်ပေါ်စေ၏။ ပရတ္ထာနုမာန၌ အဆိုပါဟေတု ၃ မျိုးအားဖြင့် သူတစ်ပါးအတွက် ပမေယကို သိသောဉာဏ်

ကို ဖြစ်ပေါ်စေ၏။

ဟေတု(=လိင်္ဂ) ဓမ္မ–အရာဝတ္ထု၏ အသွင်(ဓမ္မ)ကို ကျွန်ုပ်တို့ ကြည့်ရှု၍ တွေးဆချက်အားဖြင့် အရာဝတ္ထု၏ ရှိမှုကို ကျွန်ုပ်တို့ခန့်မှန်းကြ၏။ ထိုအသွင်သည် ဟေတုဖြစ်၏။ ထိုဟေတုသည် ပက္ခ(=မီး)၏ အစိတ်(=ဓမ္မအခိုး) ဖြင့် ပျံ့နှံ့နေ၏။

ဟေတုသည် သုံးမျိုးသာရှိ၏။ ၎င်းတို့ကား

(၁) ကာရိယဟိတ်

(၂) သဘာဝဟိတ်နှင့်

(၃) အနုပလဒ္ဓိဟိတ်တို့ပေတည်း။

"တောင်ပေါ်တွင် မီးခိုးရှိသောကြောင့် မီးရှိ၏"ဤကဲ့သို့လျှင် ကျွန်ုပ်တို့သည် တစ်စုံတစ်ခုသော အရာဝတ္ထုကို ၎င်း၏ အကျိုးအားဖြင့် ခန့်မှန်းကြ၏။ ဤဥဒါဟရဏ်၌ မီးခိုးသည် မီး၏အကျိုးတည်း။ ဤကဲ့သို့ အကျိုးအားဖြင့် ၎င်း၏အကြောင်း(=မီး)ကို ကျွန်ုပ်တို့ ခန့်မှန်းကြ၏။ ထို့ကြောင့် "မီးခိုးရှိသောကြောင့်" ဟူသော ဟိတ်သည် ကာရိယဟိတ်ဖြစ်၏။

ဤရှေ့မှောက်တွင်ရှိသော အရာကား 'သျှိသျှမ်'ပင်ဖြစ်သောကြောင့် သစ်ပင်တည်း။ ဤဥဒါဟရဏ်၌ 'သျှိသျှမ်' ပင်ဖြစ်သောကြောင့်ဟု ဟိတ်ခတ်၏။ သစ်ပင်သည် သျှိသျှမ်ပင်အားလုံး၏ သဘာဝဖြစ်၏။ ရှေ့မှောက်တွင်ရှိသော အရာဝတ္ထုကို ကျွန်ုပ်တို့သည် သျှိသျှမ်ပင်ဟု သိလျှင် ၎င်းအပင်ကို ဤကဲ့သို့သော သဘာဝဟိတ်ကို အကြောင်းပြု၍ သစ်ပင်ဟူ၍လည်း သိရပေလိမ့်မည်။

"စားပွဲပေါ်တွင် ဖန်ခွက်မရှိ" "ရအပ်ရသင့်သော သဘောရှိပါလျက် မရသောကြောင့်" ဤကား အနုပလဒ္ဓိဟိတ်၏ ဥဒါဟရဏ်တည်း။ ဖန်ခွက်ဟူသည်မှာ ရှိလျှင်မြင်ရသော အရာဝတ္ထုပေတည်း။ မမြင်ရခြင်း(မရခြင်း)၏ အဓိပ္ပာယ်သော်ကား ဖန်ခွက်သည် စားပွဲပေါ်၌ မရှိ။ ဖန်ခွက်မတွေ့ရခြင်းကို အကြောင်း(ဟိတ်)ပြု၍ ဖန်ခွက်မရှိခြင်းကို အခိုင်အမာပြုပေ၏။

အနုမာနအားဖြင့်တစ်စုံတစ်ခုသော အကြောင်းအရာကို အခိုင်အမာပြုရန်အတွက် အကျိုး(ကာရိယ)၊ သဘာဝ၊ မတွေ့ရခြင်း(အနုပလဒ္ဓိ) အားဖြင့် ၃ မျိုးပြားသောဟိတ်များရှိကုန်၏။ ရှိရခြင်းအကြောင်းသော်ကား ဟိတ်ရှိ

ကုန်သော အဆိုပါ ဓမ္မတို့နှင့်ကင်း၍ ဓမ္မီ(=သာဓျ၊ မီး) သည် ဘယ်သော အခါမှ မရှိ။ ဓမ္မနှင့်ဓမ္မီ၏ ဆက်စပ်မှုကား ခွဲ၍ မရစကောင်းပေ။ "မီးခိုး ထနေသော နေရာတိုင်းတွင် မုချမီးရှိ၏"ဟု ကျွန်ုပ်တို့ သိကြ၏။ "သျှီ သျှမ်ပင် မှန်သမျှ မုချသစ်ပင်ဖြစ်၏" "မျက်စိဖြင့် မြင်ရသော ဖန်ခွက်သည် ရှိလျှင် မုချမြင်ရ၏။ မမြင်ရခြင်း၏ အဓိပ္ပာယ်သော်ကား မရှိခြင်းပေတည်း"

## မနနှင့် သရီရ

(က) တစ်ခုကို တစ်ခုက မှီနေ၏။ မနနှင့် သရီရ (ကိုယ်)သည် တကွဲတပြားစီလော၊ သို့မဟုတ် တစ်ခုတည်းသာလော။ ဤအမေးနှင့် ပတ်သက်၍လည်း ဓမ္မကိတ္တိက မိမိ၏အယူအဆကို ထင်စွာ ဖော်ပြခဲ့၏။ ဗုဒ္ဓအမြင်နှင့်ပတ်သက်၍ ရေးသားစဉ်က ကျွန်ုပ်တို့ဆိုခဲ့ပြီးသော အတိုင်း ရှေ့သို့လည်း ဆက်လက်ဆိုလတ္တံ့သောအတိုင်း၊ ဗုဒ္ဓဘာသာဝင်များ သည် အတ္တကိုလက်မခံကြပေ။ အတ္တ၏နေရာ တွင် စိတ္တ၊ မနနှင့် ဝိညာဏ်ကို လက်ခံကြ၏။ ၎င်းတို့ ၃ မျိုးကား ပရိယာယ် (စကားလှယ်)များပေတည်း။ မနသည် သရီရ(ကိုယ်) မဟုတ်။ သို့သော် ကွဲပြားသည်နှင့်အမျှပင် "မနသည် ကာယကို မှီတင်းပေ၏" ဣန္ဒြေများသည် ကာယတွင်ရှိကြောင်း ကျွန်ုပ်တို့ သိကြ၏။ ဣန္ဒြေများနှင့်ကင်း၍ အသိဉာဏ်မဖြစ်သည်နှင့်အမျှ ဣန္ဒြေများ လည်း အသိဉာဏ်နှင့် ကင်း၍မဖြစ် နိုင်ပေ။ ဤသို့လျှင် ၂ မျိုးသည် (ဣန္ဒြေ များနှင့် အသိဉာဏ်) အညောညဟေတုကဖြစ်၏။ (=တစ်ခုကို တစ်ခုမှီ၏) ဤသို့အားဖြင့် (မနနှင့်ကာယ) ၏ အချင်းချင်းမှီတင်းမှုပြီးမြောက်ထင်ရှား၏။

(ခ) မနသည် သရီရမဟုတ်–မနနှင့် သရီရတစ်ခုကိုတစ်ခု မှီတင်းမှု နှစ်မျိုးတွင် ခွဲ၍မရစကောင်းသော ဆက်စပ်မှုသည် ကျွန်ုပ်တို့အား ဤဆို လတ္တံ့သောအကျိုးသဘောသို့ ပို့ဆောင်ပေး၏။ မနသည် သရီရမှ အချင်းခပ် သိမ်း ကွဲပြားသော တရားမဟုတ်။ မနသည်သရီရ၏ အစိတ်အပိုင်းတစ်ခု သာ ဖြစ်၏။ တစ်နည်းသော်ကား မနနှင့် သရီရ ၂ မျိုးသည် ထိုသရီရရှိ ရုပ် တရားတို့၏ တိုးတက်ပွင့်ကားမှုသာဖြစ်၏။ ထို့ကြောင့် ဓာတ်သားအနေအား ဖြင့် မနနှင့်သရီရတွင် ကွဲပြားမှုမရှိ။ ရုပ်တရားကြောင့်သာ စိတ်သဘောဖြစ် ၏။ စိတ်သဘောလည်း ရုပ်တရားသာတည်း။ ဓမ္မကိတ္တိသည် အခြားသော

ဗုဒ္ဓဘာသာဝင်များကဲ့သို့ ဘူတစေတညဝါဒ(=ရုပ်ဝါဒ)ကို ပယ်ဖျက်လျက် ဆိုခဲ့၏။ "ဝင်သက်ထွက်သက် ဣန္ဒြေများနှင့် အသိဉာဏ်(=မန)၏ ဖြစ်ပေါ်မှုသည် မိမိနှင့်တူသော (မျိုးတူ) ရှေးရှေးအကြောင်းမပါဘဲ ကိုယ်ကာယ သက်သက်ကြောင့်ဖြစ်ပေါ်လာသည်မဟုတ်။

အကယ်၍ သရီရသက်သက်ကြောင့် ဇာတိဖြစ်ပေါ်လာပါက ဝင်သက်ထွက်သက်၊ ဣန္ဒြေ၊ အသိဉာဏ်ရှိသော သရီရကြောင့် ဖြစ်ပေါ်သော စဉ်လာ ထုံးတမ်းမရှိတော့ပေရာ။ အမှတ်မထင် ရုပ်ဝတ္ထုကြောင့် အသက်–ဝင်သက်၊ ထွက်သက်၊ ဣန္ဒြေ၊ အသိဉာဏ်ရှိသော သရီရဖြစ်ပေါ်လေရာ၏။

အသက်ဗီဇရှိသော အရာဝတ္ထုကြောင့်သာလျှင် အခြားသော အသက်ဖြစ်ပေါ်လာရ၏။ ဤအချက်သည်လည်း မနသည် ရုပ်တရားသက်သက်ကြောင့် ဖြစ်ပေါ်လာသောအရာမဟုတ်ဟူသော အကြောင်း၏ အထောက်အထားဖြစ်၏။

ရံဖန်ရံခါအသက်ဗီဇမရှိဘဲလည်း အသက်ဖြစ်ပေါ်လာတတ်၏။ မိုးရေတွင် ပိုးကောင်ကလေးများကဲ့သို့တည်း။

"သံသေဒဇသတ္တဝါစသည် မပေါက်ဖွားနိုင်သော မြေ ရေ အစိတ်အပိုင်း တစ်ခုမှမရှိ။ ထိုအချက်ကိုထောက်၍ ရုပ်တရားကြောင့် ဖြစ်ပေါ်လာဟန်ရှိသော အရာဝတ္ထုအားလုံး ဗီဇသဘောရှိပြီးသားများဖြစ်ကြောင်းသိရ၏"

အကယ်၍ မိမိနှင့်မျိုးတူ (အသက်လွတ်အကြောင်း)မပါဘဲ ဣန္ဒြေစသည်ဖြစ်ပေါ်မှုကို လက်ခံယူဆပါမူ တစ်ခုသော နေရာမှ ရုပ်ဝတ္ထုသည် အသက်သဘောသို့ ပြောင်းလဲသွားသင့်၏။ အကြောင်းသော်ကား ပထမ အသက်ဓာတ်ကင်းခြင်းအားဖြင့် အားလုံးအတူတူချည်းပင်ဖြစ်သောကြောင့်တည်း။ သို့သော်လည်း မြေကြီးအိုးခြမ်းကွဲအားလုံး သက်ရှိသတ္တဝါသဘောသို့ ပြောင်းလဲသွားမည်ကို မတွေ့မြင်ကြရပေ။

မီးစာ၊ (ဆီ) အစရှိသည်တို့ကဲ့သို့ (သလိပ်၊ သည်းခြေစသော) ဒေါသများကြောင့် ကိုယ်ကာယပျက်စီးသေဆုံးသွားရသည်ဟု ဆိုလျှင် မမှန်ပေ။ ဤအတိုင်းမှန်လျှင် သေဆုံးပြီးနောက်လည်း (သလိပ်၊ သည်းခြေ) စသော ဒေါသများ၏ ငြိမ်းပျောက်သွားမှုဖြစ်ရာ၏။ တစ်ဖန်တဲ့ ဒေါသများငြိမ်းပျောက် သွားသဖြင့် ပျက်စီးသေဆုံးမှုကင်းသွားသောကြောင့် အသေကောင်သည်

တစ်ဖန်ပြန်၍ ရှင်လာသင့်၏။

မီးမြိုက်လောင်ကျွမ်း၍ မီးငြိမ်းသွားသည့်အခါလည်း ထင်း၏ ဖောက်ပြန်မှု(မီးသွေး သို့မဟုတ် ပြာ) မှ ဆုတ်နစ်မှု (ပထမ ထင်းသဘော ပြန်ရောက်မှု) မဖြစ်တော့ပေ။ ထို့အတူ အသေကောင်တွင် သလိပ်စသည် ငြိမ်းသွားသော်လည်း သက်ရှိသဘောသို့ ပြန်မရောက်တော့ပေဟု အကယ်၍ ဆိုငြားအံ့။ ဤစကားလည်း မမှန်ပေ။ အကြောင်းသော်ကား ဆေးဝါးပေးသွင်းခြင်းအားဖြင့် ဒေါသများကင်းစင်သွားသော် ပကတိအတိုင်း ကျန်းမာသွား၏။

သို့သော် ဤကိုယ်ကာယ၏ ဇီဝသဘောကား သည်အတိုင်း သည်အတိုင်းသာတည်း။

ဒေါသများကြောင့်ဖြစ်သော ဖောက်ပြန်မှုများ၏ ဆုတ်နစ်မှု၊ မဆုတ်နစ်မှုသည် နေရာတကာတွင် အတူတူမဟုတ်ပေ။ အချို့သော အရာဝတ္ထုသည် ရံဖန်ရံခါမူရင်းမပြန်တော့သော ဖောက်ပြန်မှုများကို ဖြစ်စေတတ်၏။ ဥပမာ မီးသည် ထင်းနှင့်ပတ်သက်ရာ၌ မူရင်းမပြန်တော့သော ဖောက်ပြန်မှုကို ဖြစ်စေတတ်၏။ ပထမ–ထင်း၌စွဲလောင်သောမီးသည် မည်းသွားခြင်းစသော အနည်းငယ်မျှသာ ဖောက်ပြန်မှုကိုပြုစေကာ တဖန်ပြန်၍ မူရင်းသို့ မရောက်အောင် ပြုတတ်၏။ သို့သော် ဒုတိယ ရွှေကျိုသော မီး၌ ရှိသော မူရင်းသို့ ပြန်နိုင်သည့်ဖောက်ပြန်မှုကား တစ်ဖန် ရှေးအတိုင်း ရွှေသားပကတိ ဖြစ်နိုင်၏။

ကုစား၍မရနိုင်သော ရောဂါဆိုသမျှ အနာရောဂါများနှင့် သေခြင်း၏ အကြောင်း သလိပ်ဒေါသစသည်ကို တားမြစ်တတ်သော ဆေးဝါးရခဲ့မှု ကြောင့်၊ တစ်နည်းသက်တမ်းကုန်ခန်းမှုကြောင့်ဟု ဆိုအပ်၏။ အကယ်၍ (ရုပ်ဝါဒီတို့၏ အလိုအတိုင်း) သက်သက်ရုပ်ဒေါသများသာလျှင် သေခြင်း၏ အကြောင်းဖြစ်ခဲ့သော် ဤကဲ့သို့သော ဒေါသများကို ဖယ်ရှားပစ်ခြင်းသည် လုပ်၍မဖြစ်နိုင်သော အရာမဟုတ်ပေ။

မြေကိုက်သောအခါ အသက်မထွက်သေးသမျှ အဆိပ်သည် တစ်ကိုယ်လုံးပျံ့နှံ့နေ၏။ သို့သော် အသက်ထွက်သွားသောအခါ အဆိပ်သည်မြွေကိုက်ရာဌာနတွင် စုဝေးသွား၏။ ဤသို့လျှင် အကယ်၍ ရုပ်သည်ပင် ဇေတနာ (စိတ်) ဖြစ်ခဲ့လျှင် အသက်ထွက်သွားသောအခါ အဆိပ်အစရှိသည်တို့၏

(ကိုယ်ကာယ အခြားနေရာများမှာ ရွေ့လျား၍ တစ်နေ့တည်းတွင်) စုဝေးသွားခြင်းကြောင့် ကိုယ်ကာယ၏ ကျန်သောနေရာများ တစ်နည်းသော်ကား ကိုက်မိသောနေရာတွင် ကိုက်မိခြင်းကြောင့် (ကျန်သောကိုယ်ကာယ၌ သက်မဲ့တည်းဟူသော) ဖောက်ပြန်မှု၏ ဟိတ် (အဆိပ်) ရွေ့လျောသွားခဲ့လျှင် ဤကိုယ်ကာယသည် အဘယ်ကြောင့် အသက်မရှူတော့သနည်း။ ဤအချက်ကို ထောက်ထား၍ စေတနာ (စိတ်) သည် ရုပ်တရားမဟုတ်။ စင်စစ်ရုပ်တရားနှင့် တသီးတခြား ကွဲပြားသောအရာသာ ဖြစ်၏။ သို့သော် ၂ မျိုး၊ တစ်မျိုးနှင့် တစ်မျိုးမှီတင်းနေကြသောကြောင့် တသီးတခြားစီမနေနိုင်ကြပေဟု သိရ၏။

ရုပ်ကြောင့် စိတ်ဖြစ်သည်ဟုယူဆလျှင် ရုပ်သည် ဥပါဒါန (နီးကပ်သောအကြောင်း) ဖြစ်၍ စေတနာ (စိတ်) သည် ၎င်း၏အကျိုးဖြစ်ရာ၏။ သို့ဖြစ်လျှင် ဥပါဒါန (သရီရ) မဖောက်ပြန်ဘဲ ဥပါဒေယ (စေတနာ) ဖောက်ပြန်မှုကို မပြုနိုင်ပေ။ ဥပမာ– မြေမဖောက်ပြန်ဘဲ မြေအိုး၊ မြေခွက် စသည်၌ ဖောက်ပြန်မှုကို မပြုနိုင်ပေ။ တစ်စုံတစ်ခုသောအရာဝတ္ထု၏ ဖောက်ပြန်မှုနှင့် မယှဉ်ဘဲ အကြင်အရာဝတ္ထုသည် ဖောက်ပြန်၏။ ထိုအရာဝတ္ထု ပစ္စည်းဝတ္ထု၏ ဥပါဒါန မဖြစ်နိုင်ပေ။ ဤသို့လျှင် မနနှင့် သရီရကိုလည်း မှတ်သားအပ်၏။ ၂ ခုအနက် တစ်ခု၏ဖောက်ပြန်မှုနှင့် မယှဉ်ဘဲ အခြားတစ်ခု၏ ဖောက်ပြန်မှုကို တွေ့ရ၏။

မန၏သရုပ်– သဘာဝအားဖြင့် မနသည် ပြိုးပြိုးပြက်ပြက် (ဖောက်ပြန်မှုမရှိ) ဖြစ်၏။ မနတွင် ရောက်လာသောအညစ်အကြေးများသည် အာဂန္တုကများ (ကောင်းကင်၌အမိုက်တိုက်နှင့် မြူအစရှိသည်တို့ကဲ့သို့ အရင်းခံနှင့် ကွဲပြားသောအရာများ) ဖြစ်ကြ၏။

*

## ၆။ အခြားသောအဘိဓမ္မာဆရာများအား ပယ်ဖျက်ခြင်း

ဓမ္မကိတ္တိသည် မိမိ၏ကျမ်းစာဖြစ်သော ပမာဏဝတ္တိက၌ သူ၏အဘိဓမ္မာဆိုင်ရာ သဘောတရားများကို အနိုင်အမာပြု၍ အထောက်အထားပေးခဲ့ရုံသာမက ဓမ္မကိတ္တိသည် သူ၏ခေတ်အထိ ဟိန္ဒူအဘိဓမ္မာဆရာများ၏ တိုးတက်မှုကိုလည်း ဝေဖန်စိစစ်ခဲ့၏။ ၎င်းအဘိဓမ္မာဆရာများအနက် ဥဒ္ဒျောတကရနှင့် ကုမာရိလကဲ့သို့သော ထိပ်တန်းဗြဟ္မဏအဘိဓမ္မာဆရာများလည်း ပါဝင်၏။ ကျွန်ုပ်တို့သည် ပုနရုတ္တိ (စကားထပ်) နှင့်ဂန္ထဝိတ္ထာရ (ကျမ်းကျယ်မှု) ဖြစ်မည်စိုးသဖြင့် ၎င်းဆရာများအကြောင်းနှင့် ပတ်သက်၍ သီးခြားမရေးတော့ပေ။ သို့သော် ဤနေရာ၌ ဓမ္မကိတ္တိ၏ဝေဖန်ချက်အားဖြင့် ၎င်းဆရာများ၏ အယူဝါဒများကို ကျွန်ုပ်တို့ သိနိုင်ကြ၏။

**(၁) နိစ္စဝါဒီတို့အား သာမညသဘောအားဖြင့် ပယ်ဖျက်ခြင်း–** တစ်ဦးထက် ပိုသောအဘိဓမ္မာဆရာများအဖွဲ့က လက်ခံသောအယူဝါဒများကို ပထမ ကျွန်ုပ်တို့ သုံးသပ်ရပေမည်။

**(က)နိစ္စဝါဒကို ပယ်ဖျက်ခြင်း–** အနိစ္စဝါဒ (ခဏိကဝါဒ)၏ ထက်သန်သော ဘက်တော်သားဖြစ်သဖြင့် ဗုဒ္ဓအဘိဓမ္မာသည် နိစ္စဝါဒ၏ ပြင်းထန်သော ဆန့်ကျင်ဘက်ဖြစ်၏။ အိန္ဒိယပြည်ရှိ ဗုဒ္ဓမှကြွင်းကျန်သော အဘိဓမ္မာ ဆရာအား လုံးပင် တစ်နည်းနည်းအားဖြင့် နိစ္စဝါဒကို လက်ခံကြ၏။ ဂျိန်းနှင့် မီမံသော ဆရာများကဲ့သို့သော အတ္တဝါဒီများသာမက စာရ်ဗာက်ကဲ့သို့သော ရုပ်ဝါဒီ များပင်သော်လည်း ရုပ်၏အသိမ်မွေ့ဆုံးသော

အစိတ်အပိုင်းကို ခဏိက (အနိစ္စ) ဆိုဖို့အတွက် အသင့်မရှိကြပေ။ ပမာဆိုသော် လွန်ခဲ့သော ရာစုနှစ်အထိ ဥရောပတိုက်သား စက်မှုရုပ်ဝါဒီများသည် ကမ္ဘာ၏ မူလအုတ်ချပ်များ ပရမာဏုမြူများကို ခဏိကဆိုရန်အတွက် အသင့်မရှိကြပေ။

ဒိန္နာဂက ဆိုခဲ့၏။ "အကြောင်းသည်(ကိုယ်တိုင်) ဖောက်ပြန်ခြင်းသို့ ရောက်ပြီးမှသာ အခြားသော အရာဝတ္ထု၏ အကြောင်းဖြစ်နိုင်၏"

ဓမ္မကိတ္တိက ဆိုခဲ့၏။"အကြင်အရာဝတ္ထုဖြစ်ပြီးနောက် အကြင်အရာဝတ္ထုဖြစ်ပေါ်လာ၏။ တစ်နည်း အကြင်အရာဝတ္ထုဖောက်ပြန်မှုနှင့် ယှဉ်ပြီးနောက် အခြားအရာဝတ္ထုတွင် ဖောက်ပြန်မှုဖြစ်၏။ ထိုအရာဝတ္ထုသည် ထို (နောက်ဖြစ်သော) အရာဝတ္ထု၏ အကြောင်းဖြစ်သည်ဟု ဆိုကြ၏"

ဤသို့အားဖြင့် ဖောက်ပြန်မှုရှိသော တရားသာအကြောင်းဖြစ်နိုင်၏။ "နိစ္စ(ဝတ္ထု)တွင် ဤကဲ့သို့ အကြောင်းဖြစ်မှုမရှိနိုင်ပေ။ ထို့ကြောင့် ဣဿရစသော နိစ္စအရာဝတ္ထုများမှ တစ်စုံတစ်ခုသော အရာဝတ္ထုဖြစ်ပေါ်မလာနိုင်ပေ"

"အနိစ္စဟု မခေါ်ဆိုနိုင်သော အရာဝတ္ထုသည် မည်သည့်အရာဝတ္ထု၏ အကြောင်းမှ မဖြစ်နိုင်ပေ။ (နိစ္စဝါဒီ) ပညာရှင်တို့သည် မပျောက်မပျက်သော သဘာဝကို နိစ္စဟု ခေါ်ဆိုကြသည်။ အနက်ရှိအပြုအမူ၌ စွမ်းနိုင်သောအရာဝတ္ထုကို ပရမတ္ထသဘောတရားဟု ဓမ္မကိတ္တိက ယူဆကြောင်း ရေးသားပြီးခဲ့လေပြီ။ နိစ္စတရား၌ ဖောက်ပြန်မှု အချင်းခပ်သိမ်းမရှိသောကြောင့် ကြိယာ အပြုအမူရှိကိုမရှိနိုင်ပေ။ အတ္တ၊ ဣဿရသည် ဣန္ဒြေစသည်ဖြင့် အာရုံမယူနိုင်သော အရာများဖြစ်ကြ၏။ နိစ္စဖြစ်သောကြောင့် အပြုအမူမရှိသောအရာလည်း တစ်ဆက်တည်းဖြစ်၏။ ထိုသို့ဖြစ်ပါလျက် အတ္တ၊ ဣဿရတို့၏ အရှိသဘောကို ကြွေးကြော်ခြင်းမှာ ရဲတင်းမှုမျှသာတည်း။

**(ခ) အတ္တဝါဒကို ပယ်ဖျက်ခြင်း**–စာရ်ဗာက်နှင့် ဗုဒ္ဓအဘိဓမ္မာကို ချန်ထား၍ အိန္ဒိယအဘိဓမ္မာအားလုံးပင် အတ္တကို နိစ္စသက်ဝင်သဘော တစ်ခုအဖြစ် အသိအမှတ်ပြုကြ၏။ ဗုဒ္ဓဝါဒီများကား အနတ္တဝါဒီတို့ပေတည်း။ အတ္တကို အသိအမှတ်မပြုကြဟု ဆိုလိုသည်။ အတ္တကို အသိအမှတ်မပြုသော်လည်း ခဏတိုင်းပြောင်းလဲနေသော စေတနာအစဉ်(ဝိညာဉ်အစဉ်)သည်

ကိုယ်ကာယတစ်ခုမှ တစ်ခုသို့ ဆက်နေသည်(ပဋိသန္ဓေယူသည်)ဟု ကျွန်ုပ်တို့ ပထမဦးစွာ ဆိုခဲ့ပြီးလေပြီ။ စေတနာ(မန-ဝိညာဉ်)သည် အမြဲတမ်းကိုယ်ကာယကို မှီတင်းနေသည်။ ကိုယ်ကာယတစ်ခုနှင့် အခြားကိုယ်ကာယတစ်ခု ဆက်စပ်မှုသည် လုံးဝနီးကပ်လျက်ချည်းမဟုတ်ပေ။ သေလွန်သော "က" ကိုယ်ကာယသည် မြေပြင်လောက၌ရှိ၏။ ထိုကိုယ်ကာယ၏ နောက်၌ ရှင်လာပြန်သော "ခ" ကိုယ်ကာယသည် အင်္ဂါဂြိုဟ်လောက၌ဖြစ်၏။ ဤသို့သော အခြေအနေတွင် "က"ကိုယ်ကာယကို စွန့်လွှတ်၍ "ခ" ကိုယ်ကာယတိုင်အောင် ပို့ဆောင်ရာ၌ အလယ်အလတ် ကြားအခိုက်အတံ့တစ်ခုရှိရာ၏။ ထိုကြားအခိုက်အတံ့၌ ဝိညာဉ်ကို ကိုယ်ကာယမှ သီးခြားကင်းလွတ်နေသည်ဟု ယူဆရပေမည်။ သို့ဖြစ်လျှင် "မနသည် ကာယကို မှီနေ၏" ဟူသောစကား မှားရာ၏။ ဤပြဿနာ၏အဖြေကို ဗုဒ္ဓဘာသာဝင်များက ဖြေဆိုနိုင်၏။ ကျွန်ုပ်တို့သည် မနကို တစ်ခုတည်းမဟုတ်ဘဲ စင်စစ် အလျဉ်-အစဉ်အတန်းဟု ယူဆကြ၏။ အလျဉ်-အစဉ်အတန်း၏ အနက်ကား အကြားမရှိ-မပြတ်ဖြစ်သွားသော အရာဝတ္ထုတစ်ခုမဟုတ်။ စင်စစ်သော်ကား ခဏတိုင်း မိမိသဘောအားဖြင့် ပြတ်စဲသော အချင်းခပ်သိမ်း ပျက်စီးသော သဘောဟူ၍ဖြစ်၏။ ထိုရှေ့ဖြစ်သော မန၏နောက်၌ ထိုမနနှင့် အလားတူ၊ သို့သော် လုံးဝအသစ်ဖြစ်သော အရာဝတ္ထု၏ဖြစ်ပေါ်မှု၊ ထို့နောက် ဤ ပျက် ဖြစ် ပျက် ဖြစ် အစဉ်အားဖြင့် ပြတ်တောက်သော အလျဉ်၏ ဆက်မှုတည်း။

စေတနာ အလျဉ်သည် ဤနည်းအတိုင်းသွားသော ပြတ်တောက်သည့် အလျဉ်ဖြစ်၏။ ၎င်းအလျဉ်သည် အသက်အရေးအကြောင်းအဟန့်ထင်၏။ သို့သော် အသက်ဗိန္ဒုများ၏ အစဉ်အတန်းသာဖြစ်၏။ သို့ဖြစ်၍ အလျဉ်ကို ပြတ်တောက်သည်ဟု ယူဆခဲ့ရသော် 'မနသည် ကာယအပေါ် မှီ၏' ဟူသော စကား၏ အဓိပ္ပာယ်မှာ မန၏ ဗိန္ဒုတစ်ခုစီကို ချန်ထား၍ ကာယ၏ ဖြစ်မှု မရှိသင့်ဟု ဖြစ်၏။

ကိုယ်တိုင် ခဏတိုင်းပြောင်းလဲ၍ ကိုယ်ကာယကို တည်ဆောက်တတ်သော မူလဗိန္ဒုများ၏ ပြတ်တောက်သောအစဉ်ဟုဆိုအပ်သည့် "က" ကိုယ်ကာယ၏ နောက်ဆုံး စိတ်ဗိန္ဒုသည် ပျက်စီးပျောက်ကွယ်၏။ ၎င်း၏အမွေခံသည် "ခ" ကိုယ်ကာယနှင့် တကွဖြစ်၏။ "က" ကိုယ်ကာယ(အလျဉ်)

၏ နောက်ဆုံးနှင့် "ခ" ကိုယ်ကာယ (အစဉ်) ၏ အစဖြစ်သောစိတ် ဗိန္ဒုတို့ (က–စိတ္တ၊ ခ–စိတ္တ)၏ အလယ်၌ တစ်စုံတစ်ခုသော "ဂ" စိတ်ဗိန္ဒုကို အသိအမှတ်ပြုသော် ထိုအခါ "ဂ" စိတ်ဗိန္ဒုသည် ကာယနှင့်ကင်း၏ဟု မစွပ်စွဲနိုင်တော့ပေ။ ဤသို့အားဖြင့် ထာဝရ (နိစ္စ–စိရဋ္ဌာယီ) မဟုတ်။ စင်စစ်သော်ကား လျှပ်စစ်လက်သည်ထက် ပို၍လျင်မြန်သောအသွားဖြင့် "မျက်စိတစ်မှိတ်" စိတ်အစဉ် (အနတ္တသဘော) ကို လက်ခံသော်လည်း ဗုဒ္ဓဝါဒီများသည် တစ်ခုထက် ပိုလွန်သော ကိုယ်ကာယများ (ကိုယ်ကာယအစဉ်များ) သို့ ဆက်သွယ်ကြောင်း အခိုင်အမာပြုခဲ့ကြ၏။

နိစ္စ အတ္တမရှိ– အတ္တကိုနိစ္စဟု ယူဆကြသော ပုဂ္ဂိုလ်များသည် ထိုကဲ့သို့ နိစ္စဟု ယူဆရခြင်း၏ အကြီးဆုံးသော အကြောင်းမှာ– အတ္တနှင့်ကင်း၍ နှောင်ဖွဲ့ခြင်း– ဇာတိမရဏာတွင် ကျရောက်၍ ဒုက္ခကို ခံစားရခြင်းနှင့် လွတ်မြောက်ခြင်း– ဒုက္ခတို့မှ ကင်းလွတ်၍ တကယ့်ချမ်းသာရှင်ကြီးဖြစ်ကာ လှည့်လည်ကျက်စားခြင်း ၂မျိုးစလုံးမဖြစ်နိုင်ပေဟု ယူဆကြသောကြောင့် ပေတည်း။

ဤအချက်နှင့်ပတ်သက်၍ ဓမ္မကိတ္တိက ဖြေဆိုထားခဲ့၏။ "ဒုက္ခဖြစ်မှု၌ အကြောင်း(ကံ)သည် အနှောင်အဖွဲ့ဖြစ်၏။ သို့သော် နိစ္စဖြစ်သော တရားသည် အပြုအမူကင်းသောတရားဖြစ်သောကြောင့် အတ္တသည် ဤကဲ့သို့သော (အကြောင်း)အဘယ်မှာ ဖြစ်နိုင်ပေအံ့နည်း။ ဒုက္ခဖြစ်မှု မရှိရာ၌ အကြောင်းသည် ကံကြောင့်ဖြစ်သော အနှောင်အဖွဲ့မှ လွတ်မြောက်ခြင်းဖြစ်၏။ နိစ္စဖြစ်သောတရားသည် ဤကဲ့သို့သော (အကြောင်း) အဘယ်မှာ ဖြစ်နိုင်ပေအံ့နည်း။ အမှန်စင်စစ်အားဖြင့် အနိစ္စခဏိက မခေါ်နိုင်သောတရားသည် မည်သည့်အရာဝတ္ထု၏အကြောင်းမှ မဖြစ်နိုင်ပေ။ မပျောက်မပျက်သောသဘောကို အနိစ္စဟုခေါ်၏။ ဤရှက်ဖွယ်ကောင်းသော အယူ (နိစ္စသဘောတရား) ကို စွန့်၍ အတ္တကို အနိစ္စဟု ဆိုပါလေလော့။

နိစ္စ အတ္တ အယူအဆ (သက္ကာယဒိဋ္ဌိ) သည် အဆိုးအားလုံးတို့၏ အရင်းအမြစ်ဖြစ်၏။ "ငါချမ်းသာလို၏။ မဆင်းရဲလို" ဤသို့တောင့်တလျက် သတ္တဝါအား "ငါ" ဟူသော အစွဲအသိသည် ဖြစ်၏။ ဤသည်ကား ဖြစ်လွယ်သော အတ္တဝါဒ=သဟဇ အတ္တဝါဒပေတည်း။ အတ္တ၌ (ဤသို့သဘော ရှိသော) အစေးအညှော်မပါဘဲ သုခကို တောင့်တသူအဖြစ် (တစ်ခုသော

ကိုယ်ဝန်တည်ရာဌာနသို့) ပြေးသွားခြင်းမပြုနိုင်ပေ။

အတ္တနှင့်ပတ်သက်သော ချစ်ခြင်းမကုန်သမျှ သတ္တဝါသည် မိမိကိုယ်ကို ဒုက္ခမကင်းသူအဖြစ် အမှတ်အသားပြုနေရပေမည်။ ကြောင့်ကြမကင်းနိုင်ပေ။ တစ်စုံတစ်ယောက်သော ပုဂ္ဂိုလ်သည် မိမိကိုယ်ကို လွတ်မြောက်အောင် မလုပ်သော်လည်း "ငါ" "ငါ၏ဥစ္စာ" ကဲ့သို့သော အယူအစွဲ အမှားများကိုဖယ်ရှားရန် ကြိုးစားအားထုတ်ရ၏။

ဝတ္ထု၏ ထာဝရသဘောအစရှိသော သဘာဝဖောက်ပြန်မှုဖြင့် ရာဂဖြစ်ခြင်း၏ အကြောင်းဖြစ်သော အယူအစွဲကား ခဏိကမန– သရိရအစဉ်မှတစ်ပါး တခြားဖြစ်သော အတ္တကို စွဲယူမှုပေတည်း။

အတ္တအယူအစွဲသည် မိုက်မဲမှုသက်သက်သာတည်း။ ထိုအတ္တအစွဲသည်ပင် အဆိုးအပြစ်အားလုံး၏ အရင်းအမြစ်ဖြစ်၏။

ငင်းမိုက်မဲမှုသည် သက္ကာယဒိဋ္ဌိဖြစ်၏။ စိတ်အညစ်အကြေးမှန်သမျှ၏ မူလကား မောဟသာတည်း။ ဘာသာတရားကို လက်ခံယုံကြည်ကြသော သူများအတွက်လည်း အတ္တဝါဒ (သက္ကာယဒိဋ္ဌိ) သည် ဆိုးဝါးသောအရာဖြစ်၏။ ဤအကြောင်းကို ဖွင့်ဆိုခဲ့၏။

"အကြင်သူသည် (နိစ္စ) အတ္တကို လက်ခံယုံကြည်၏။ ထိုသူတွင် "ငါ" ကဲ့သို့သော ရာဂသည် အမြဲတမ်းရှိနေ၏။ ရာဂကြောင့် သုခတဏှာဖြစ်၏။ တဏှာသည် အပြစ်အားလုံးကို ဖုံးအုပ်ပေး၏။ အပြစ်ဖုံးသွားသောအခါ ဂုဏ်ကျေးဇူးများကို တွေ့မြင်၏။ ဂုဏ်ကျေးဇူးကို မြင်တတ်သော တဏှာဖြစ်သောအခါ 'ငါ၏သုခ'ဟူ၍ တွယ်တာ၏။ သုခကိုရရန် သုခရကြောင်း (ဘဝသစ်) အစရှိသည်ကို စွဲယူ၏။ ဤကဲ့သို့ သက္ကာယဒိဋ္ဌိဖြင့် အတ္တဟူ၍ စွဲနေသမျှ ထိုသူသည် သံသရာ (ဘဝသမုဒ္ဒရာ) တွင် ကျရောက်နေ၏။ "ငါ" စွဲရှိနေသောအခါ "သူ" စွဲရှိလာ၏။ ငါ– သူတစ်ပါးကွဲပြားမှုရှိခဲ့သော် သိမ်း ပိုက်မှု၊ စွန့်ပစ်မှု (ရာဂဒေါသ) ဖြစ်၏။ ဤသိမ်းပိုက်မှု စွန့်ပစ်မှုများဖြင့် နှောင် ဖွဲ့ထားအပ်သောသူသည် အပြစ်အားလုံး (က္လေသအစရှိသည်) ကိုဖြစ်ပွားစေ၏။ အကြင်သူသည် အမြဲတစေအားဖြင့် အတ္တအစွဲရှိနေ၏။ ထိုသူသည် အတ္တနီယ (သုခရကြောင်း) များဖြင့် ရာဂကင်းသူမဖြစ်နိုင်ပေ"

"အတ္တစွဲသည် အချင်းခပ်သိမ်း တကိုယ်ကောင်းအစွဲကို ခိုင်မာစေတတ်

၏။ အတ္တနီယများကို အကြောင်းပြု၍ဖြစ်သော အစွဲဗီဇရှိခဲ့သော် ထိုသူသည် အပြစ်များကို မှုမပျက်ဆက်လက်ဖြစ်ပွားစေလိမ့်မည်သာဖြစ်၏"

"အမှန်စင်စစ်အားဖြင့် အတ္တဟူ၍မရှိ၊ အနတ္တတည်း။ သို့သော် အနတ္တ၌ မှားယွင်းဖောက်ပြန်သောအားဖြင့် အတ္တဟူသောအစွဲဖြစ်ပေါ်ခဲ့သော် အတ္တနီယ သုခအစရှိသောအရာဝတ္ထုများ ထင်မှတ်သောသူသည် ဘာကိုရရ ရသမျှနှင့် ပင် အလုပ်ဖြစ်အောင် လုပ်လေတော့၏။ အကြီးအကျယ်မရသည်ရှိသော် အသေးအဖွဲလာဘ်ကလေးကိုပင်သော်လည်း မစွန့်တော့ပေ။ မိန်းမအချော အလှကိုမရသောအခါ တဏှာရူးယောကျ်ားသည် တိရစ္ဆာန်နှင့်သော်လည်း ကာမကို ဖြေဖျောက်၏။

ဤသို့အားဖြင့် နိစ္စအတ္တသည် ယုတ္တိအားဖြင့် အခိုင်အမာပြပေးနိုင်သော အရာမဟုတ်၊ အတ္တကိုလက်ခံသဖြင့် ဘာသာရေး၊ ပရလောက၊ မုတ္တိ(နိဗ္ဗာန်) အရာတွင်လည်း အဆီးအတားဖြစ်သည်သာတည်း။

ဣဿရဝါဒီတို့သည် ဣဿရကို နိစ္စဟူ၍လည်းကောင်း၊ ကမ္ဘာပြုဟူ၍လည်းကောင်း အမှတ်ပြုကြ၏။ ဓမ္မကိတ္တိသည် ဣဿရရှိမှုကို ပယ်ဖျက် လျက် ဆိုခဲ့၏။

"သဘာဝအားဖြင့် ဣဿရသည် ကမ္ဘာကို ဖန်ဆင်းသောအခါ၌ အကြောင်းဝတ္ထုဖြစ်သကဲ့သို့ သဘာဝအားဖြင့် ဖန်ဆင်းခြင်းမပြုမီ ဣဿရ ည် အကြောင်းမဟုတ်သော အရာဝတ္ထုလည်း ဖြစ်ခဲ့၏။ နောက်ဆုံး သဘာဝ သည် တစ်မျိုးတည်းဖြစ်သောကြောင့် အခိုက်အတံ့ ၂ မျိုးအားဖြင့် ဣဿရ တွင် ကွဲပြားမှုမဖြစ်နိုင်ပေ။ ဣဿရကို အကြောင်းဟု ယူဆသောအခါ အဘယ်အထောက်အထားဖြင့် ထိုကဲ့သို့ အကြောင်းဟု ယူဆရပါသနည်း။ အကြောင်းမဟုတ်ဟု ယူဆရမည်မဟုတ်ပါလော။

ပြုတတ်သူနှင့် ပြုတတ်သူမဟုတ်ဟူသော အခိုက်အတံ့ ၂ မျိုးတွင် တစ်သဘောတည်းဖြစ်နေသော ဣဿရကို အကြောင်းဟု ခေါ်ဆိုသည်ရှိ သော် အမေးရှိလာ၏။ ရာမ၏ကိုယ်ကာယ၌ လက်နက်ထိသဖြင့် အနာဖြစ် ၍ ဆေးသိပ်သဖြင့် အနာကျက်လာသည်ကို တွေ့မြင်ရ၏။ လက်နက်နှင့် ဆေးသည် ခဏိကဖြစ်သဖြင့် အပြုအမူကို ပြုစွမ်းနိုင်၏။ ထို့ကြောင့် အနာ နှင့်ဆေးတို့အတွက် ထိခြင်း၊ ကျက်စေခြင်းသဘောသည် ဖြစ်နိုင်၏။ သို့

သော် နိစ္စဖြစ်သောကြောင့်ပင် အပြုအမူကင်းမဲ့သော ဣသရကိုပြုတတ်သူ (ကာရက)ဟု ယူဆခဲ့သော် အပြုအမူ(ကြိယာ) စသော အဆက်အစပ်ကင်းသော သစ်ငုတ်တို၌ ကမ္ဘာ၏ အကြောင်းဟု စွဲယူစရာ အဘယ်မှာ ရှိပေအံ့နည်း။

ဣသရတွင် ဖန်ဆင်းမှုကို ပြုတတ်သော အခိုက်အတန့်နှင့် ဖန်ဆင်းမှုကို မပြုတတ်သော အခိုက်အတန့်ကွဲပြားမှုရှိသည်ဟု အကယ်၍ ဆိုခဲ့ငြားအံ့။ အမေးရှိလာ၏။ ဤကဲ့သို့ ကွဲပြားမှုမရှိခဲ့လျှင် ဣသရသည် သဘာဝအားဖြင့် ဖောက်ပြန်ပြောင်းလဲသွားပေလိမ့်မည်။ အကြောင်းသော်ကား သဘာဝအားဖြင့် ဖောက်ပြန်မှုမရှိဘဲ ဣသရသည် ပြုတတ်သူမဖြစ်နိုင်ပေ။ နိစ္စဖြစ်သဖြင့် ဣသရသည် တစ်စုံတစ်ခုသော ဗျာပါရ (ကြိယာ) ကို မပြုနိုင်ပေ။ ၎င်းပြင် အကြင်အရာဝတ္ထုသည် နိစ္စဖြစ်၏။ ထိုအရာဝတ္ထုသည်သီးခြားမဟုတ်။ အမြဲတမ်းထိုအရာဝတ္ထု၌ ထင်ရှားရှိနေ၏။ အမြဲတမ်းတန်ခိုးသတ္တိရှိနေပါလျက် တစ်ချိန်မှာသာ တန်ခိုးပြနိုင်၍ အခြားအချိန်တွင် မပြနိုင်ဘူးဟု ဣသရ၏ တန်ခိုးနှင့်ပတ်သက်၍ သိမှတ်ရန် ခဲယဉ်းလှပေ၏။

အကြင်အကြောင်းများရှိသောအခါ အကြင်အကျိုးဖြစ်ပေါ်၏။ ထိုအကြောင်းများမှ တစ်ပါးသောအရာကို ထိုအကျိုး၏အကြောင်းဟု ယူဆခဲ့သော် (အကြောင်းရှာသောအခါဣသရအထိသာရောက်၍ ရပ်သွားမည်မဟုတ်။ စင်စစ်) နေရာတကာမှာပင် အကြောင်းတို့၏ အဆုံးဟူ၍ပင် မရှိပေရာ(ဣသရအရင် အရင့် အရင် အကြောင်းများကိုလည်း ရှာရပေလိမ့်မည်)

"အကျိုးကို ဖြစ်ပေါ်စေသော အချိန်၌ သဘာဝအားဖြင့် ဖောက်ပြန်သော အရာသည်သာ အကြောင်းဖြစ်၏။ မြေကြီးစသည်သည် အညွန့်အညှောက်ကို ဖြစ်စေရာ၌ အကြောင်းသည် သူ၏သဘာဝဖောက်ပြန်မှုကို ဖြစ်ပေါ်စေ၏။ အကြောင်းသော်ကား ထိုမြေအစရှိသည်တို့၏ ပြုပြင်မှုကြောင့် အညွန့်အညှောက်တွင် ထူးခြားမှုကို တွေ့ရ၏။ (ဣသရသည် မိမိသဘာဝဖောက်ပြန်မှုကို မပြုဘဲ အကြောင်းမလုပ်နိုင်ပေ။ သဘာဝဖောက်ပြန်မှုကို ပြုသောအခါလည်း ဣသရသည် နိစ္စဖြစ်မနေနိုင်တော့ပေ)

ဣသရဝါဒီတို့သည် ဣသရကို အခိုင်အမာပြုရန်အတွက် ဤဆိုလတ္တံ့သော အချက်ကို အားကောင်းသော ယုတ္တိဟု အသိအမှတ်ပြုကြ၏။

စုဝေးနေသော အရာဝတ္ထုကို မြင်သဖြင့် စီရင်ဖန်ဆင်းသူကို ခန့်မှန်းရ၏။ ဥပမာသော်ကား စုဝေးနေသော အိုးကိုမြင်ရ၍ အိုးကိုပြုလုပ်သော အိုးထိန်းသည်ကို ခန့်မှန်းရ၏။ ၎င်းကိုပြန်လည်ချေပ၍ ဓမ္မကိတ္တိက ဆိုခဲ့၏ ။

တစ်စုံတစ်ခုသော အရာဝတ္ထု(အိုး)နှင့်ပတ်သက်၍ ယောကျ်ားရှိခြင်းကြောင့် စုဝေးမှုဖြစ်ခြင်း၊ အကယ်၍ ထင်ရှားခဲ့လျှင် စုဝေးခြင်းဖြစ်သည် ယောကျ်ားရှေ့သွားရှိ၏ဟူသော စကားတူကို သုံးခြင်းအားဖြင့် အိုးထိန်းသည်အလား ဣဿရကို ခန့်မှန်းခြင်းသည် မမှန်။ ဥပမာသော်ကား နေရာတစ်နေရာတွင် ရံခါမီးခိုးရောင်ရှိသော မီးခိုးကို မြင်ရ၍ သင်တို့သည် မီးကို ခန့်မှန်းကြ၏။ သို့ဖြစ်၍ နေရာတိုင်းတွင် မီးခိုးရောင်ကို မြင်၍ မီးကို ခန့်မှန်းကြပါစို့။ အကယ်၍ ဤအတိုင်း မယူဆလျှင် အိုးထိန်းသည်သည် မြေအိုးအစရှိသော တစ်စုံတစ်ခုကို ပြုလုပ်၏။ ထို့ကြောင့် ခြတို့၏ တောင်ပို့ကို အိုးထိန်းသည်၏ လက်ရာအဖြစ် အခိုင်အမာလုပ်ပေးရလိမ့်မည်။

ပထမ သာမဂ္ဂိကာရဏာဝါဒနှင့် ပတ်သက်၍ ဆိုစဉ်အခါက ဓမ္မကိတ္တိ ဆိုခဲ့ဖူးသောအတိုင်း အရာဝတ္ထုတစ်ခုခုက အကျိုးကို မဖြစ်စေတတ်၊ အရာဝတ္ထုများစွာ ပေါင်းစပ်မှ သို့မဟုတ် အကြောင်းများစွာ ပေါင်းဆုံမိမှ အကျိုးကို ပြုရာတွင် စွမ်းနိုင်၏။

**(၂) နျာယ– ဝိသေသိကအယူကို ပယ်ဖျက်ခြင်း–** ဝိသေသိကနှင့် နျာယ အဘိဓမ္မာ၌ ကမ္ဘာကို အပြင်အပမှ ပြောင်းလဲဖောက်ပြန်သည်ဟု ယူဆလျက် ဂရိတ်အဘိဓမ္မာဆရာများ– အထူးအားဖြင့် အရစ္စတော် (တလ) ၏ အဘိဓမ္မာနောက်သို့ အစဉ်လိုက်လျက် အပြင်အပပြောင်းလဲမှုများ၏ အတွင်း၌ နိစ္စသဘောတစ်မျိုးတည်းတည်ရှိနေသော ပရမတ္ထများ– စေတနာ နှင့်ရုပ်တည်းဟူသော မူလတရားများကို အခိုင်အမာပြုရန် ကြိုးပမ်းခဲ့ကြ၏။

ဗုဒ္ဓအဘိဓမ္မာသည် ခြွင်းချက်မရှိ ခဏိကသဘော၏ အခိုင်အခံ့အလုံးစုံပျံ့နှံ့သော စည်းကမ်းကို ဝန်ခံလျက် ထာဝရသဘောကို ပြီးစေတတ်သော မည်သည့်သဘောတရားကိုမှ လက်ခံရန် အသင့်မရှိပေ။ ထို့ကြောင့် ကျွန်ုပ်တို့သည် "ပမာဏဝတ္တိက" ၌ ဓမ္မကိတ္တိက အရေးတကြီးအားဖြင့် ဤသို့သော

အယူဝါဒများကို အပြင်းအထန်ပယ်ဖျက်ခဲ့ကြောင်းကို တွေ့သိရ၏။

ဝိသေသိကသည် ထာဝရဝါဒီသဘောတရားအရ သူ၏

(၁) ဒဗ္ဗ

(၂) ဂုဏ

(၃) ကမ္မ

(၄) သာမည

(၅) ဝိသေသ

(၆) သမဝါယ–တည်းဟူသော အရာဝတ္ထု ၆ မျိုးကို ဝန်ခံခဲ့၏။ ၎င်းတို့နောက် ဗုဒ္ဓဘာသာဝင်များ ရှေ့တိုးနောက်ငင်ရှိမည့် သဘောတရားများမှာ ကမ္မနှင့် ဝိသေသတို့သာလျှင်ဖြစ်၏။ အကြောင်းသော်ကား ကမ္မ သို့မဟုတ် ကြိယာသည် ခဏိကဝါဒ၏ အခြင်းအရာရှိ ပရမတ္ထသဘာဝသာလျှင်ဖြစ်သောကြောင့်တည်း။ ဟေတု သာမဂ္ဂီနှင့် အပေါဟ(၎င်းနှင့်ပတ်သက်၍ ရှေ့တွင်သဒ္ဒပမာဏအကြောင်း အချေအတင်ငြင်းခုံသောအခါ ရေးသားမည်) သဘောတရားများကို လက်ခံသူများဖြစ်သဖြင့် ဝိသေသကိုလည်း ဗုဒ္ဓဘာသာဝင်များလက်ခံကြ၏။

ကျန်သော– (၁) ဒဗ္ဗ

(၂) ဂုဏ

(၃) သာမည

(၄) သမဝါယတို့ကိုကား ဗုဒ္ဓဘာသာဝင်များက တွေးဆချက်အပေါ်တွင် အမှီပြုသော ဝေါဟာရသစ္စာအနေအားဖြင့်သာ လက်ခံနိုင်ကြ၏။

**(က) ဒဗ္ဗဂုဏစသည်ကို ပယ်ဖျက်ခြင်း–** ဗုဒ္ဓဘာသာဝင်တို့၏ ပရမတ္ထသစ္စာနှင့် ဝေါဟာရသစ္စာအခေါ်အဝေါ်နှင့်ပတ်သက်၍ ရှေးဦးစွာဆိုခဲ့ပြီးလေပြီ။ အခေါ် အဝေါ်နှင့်ပတ်သက်၍ ဆိုခဲ့ရာတွင် ဗုဒ္ဓဘာသာဝင်တို့သည် ပရမတ္ထသဘော၏ မှတ်ကျောက်အဖြစ် အနက်ရှိအပြုအမူ (အတ္တကြိယာ) ကို ထားကြ၏။ ကမ္ဘာတွင် အကြင်အရာဝတ္ထုသည် ထင်ရှားရှိ၏။ ထိုအရာဝတ္ထုသည် အနက်ရှိ

အပြုအမူနှင့် ပုံ့နှံ့နေ၏။ အကြွင်းအရာဝတ္ထုသည် အနက်ရှိအပြုအမူကို မပြု တတ်။ ထိုအရာဝတ္ထုသည် ပရမတ္ထသဘောတရားမဖြစ်နိုင်။ ကမ္ဘာနှင့် ကမ္ဘာ "ဝတ္ထုပစ္စည်း" များနှင့်ပတ်သက်၍ ဤသို့ယူဆလျက် ဗုဒ္ဓဘာသာဝင်များ သည် တကယ့်အနေအားဖြင့် "ဝတ္ထု" ဟူသော အခေါ်အဝေါ်အားဖြင့် လူ သာမန် တို့တွင် စိတ်တွင် ထာဝရအရာဝတ္ထုဟု ထင်မှတ်၏။

ထို့ကြောင့် ဗုဒ္ဓဘာသာဝင်အဘိဓမ္မာဆရာများသည် "ဝတ္ထု"အစား "ဓမ္မ" ဟူ၍သော်လည်းကောင်း၊ ဘာသာရေးဆိုင်ရာ ထာဝရသစ္စာဟူ၍သော်လည်း ကောင်း မယူကြဘဲ စင်စစ်အားဖြင့် ပြတ်တောက်သော အလျဉ်၏ ခဏတိုင်း ပျက်၊ ခဏတိုင်းဖြစ်နေ၍ အရာဝတ္ထုအသွင်အားဖြင့်သာ ထင်မှတ်ရသော ဗိန္ဒုများဟူသော အနက်အားဖြင့်သာ ယူကြ၏။ အရာဝတ္ထု၏ တည်နေမှုသည် "ဖြစ်၏"ဟူသော အဓိပ္ပာယ်မရှိဘဲ "ဖြစ်ခြင်း" ဟူသော အဓိပ္ပာယ်ရှိသော ကြောင့် ဗုဒ္ဓဘာသာဝင်များက "ဘာဝ" (ဖြစ်ခြင်း) ဟူသောအသုံးကို နှစ်သက် ကြ၏။

ကမ္ဘာကြီးသည် "ဖြစ်၏" ဟု ကျွန်ုပ်တို့ သုံးစွဲရအောင် ထာဝရအရာ ဝတ္ထုများ၏ အပေါင်းမဟုတ်။ စင်စစ်သော်ကား ကမ္ဘာကြီးသည် ခဏမလပ် ဖြစ်ပျက်နေသော အဖြစ်အပျက်၏အပေါင်းဖြစ်၏။ ဝိသေသိက ကျမ်းဆရာ ၏ ဒဗ္ဗ၊ ဂုဏများကို ကြဲဆချက်သည် "ဘာဝ"၏နောက်တွင် ဖုံးကွယ်နေ သော "ပြတ်တောက်သောအလျဉ်" အယူအဆနှင့် ဆန့်ကျင်၏။

ဝိသေသိက ကျမ်းဆရာ၏အဆိုကား ဒဗ္ဗနှင့် ဂုဏ ၂ မျိုးသည် အရာ ဝတ္ထုတစ်ခုခုအပေါ် မှီတင်းနေသော အရာပေတည်း။ ကျွန်ုပ်တို့သည် အနံ့ ကို အမြဲတမ်း ပထဝီဓာတ်အခြေခံပေါ်တွင် တွေ့ကြရ၏။ ထိုကဲ့သို့ပင် ပထဝီ ဓာတ် ရှိရာဌာနမှန်သမျှ ၎င်းပထဝီဓာတ်၏ အာဓေယ(=အာဓည်–မှီတတ် သောအရာ)ဂုဏ်ကိုလည်း တွေ့ရ၏။ ဤသို့အားဖြင့် ဂုဏ်အတွက် အာဓာရ (=မှီရာ)တစ်ခုရှိသင့်၏။ ဤအယူအဆသည် ကျွန်ုပ်တို့အား ဒဗ္ဗသဘောကို လက်မခံ ခံအောင် ပြုလုပ်ပေး၏။ ၎င်းပြင် ဒဗ္ဗသည် အမြဲတမ်း မိမိ၏ အာ ဓေယဂုဏ်နှင့်တကွ တည်နေ၏။ ဤအယူအဆသည် ကျွန်ုပ်တို့အား ဂုဏ် သဘောကို လက်မခံခံအောင် ပြုလုပ်ပေး၏။

ဗုဒ္ဓဘာသာဝင်တို့၏အဆိုကား ပကတိ(သဘာဝ)သည် ဤဒဗ္ဗ၊ ဂုဏ

ကွဲပြားမှုကို မသိတတ်။ သိလွယ်စေခြင်းငှာသာ ကျွန်ုပ်တို့က ခွဲခြား၍ ခေါ်ဆိုကြ၏။ ပကတိသည် သရက်သီးဆယ်လုံးတွင် တစ်လုံးကို ပထမ၊ နောက်တစ်လုံးကို ဒုတိယ၊ ဤသို့ နံပါတ်တပ်၍ ကျွန်ုပ်တို့ရှေ့တွင် ထင်ရှားပေါ်ပေါက်လာအောင် လုပ်မပေးပေ။ သရက်သီးအလုံးတိုင်း တစ်လုံးနှင့်တစ်လုံး ကွဲပြားခြားနား၏။ ပကတိကား ဤမျှလောက်သာသိ၏။ "ဘာဝ" များကား ခဏတိုင်း ပျက်စီးနေ၍ ဘာဝတို့၏ အလျဉ်သည် ခဏတိုင်း ပျက်စီးမှုနှင့် ယှဉ်သောဖြစ်စဉ်အားဖြင့် ဤဖြစ်စဉ်သည် အမြဲတမ်းအကြောင်းရှိကြောင်း အခိုင်အမာဖြစ်၏။ ဤသို့အားဖြင့် အာသယ(=အာဓာရ)ဟူသည်ကို ဘာဝတိုင်း၏ ရှေ့တွင် ဘာဝအစဉ်သည် ထင်ရှားရှိနေ၏ဟူသော အနက်အားဖြင့်သာ ယူဆသင့်၏။ ဤသို့အားဖြင့် ကွဲပြားသော အနက်အားဖြင့် (အာသယဟူ၍လည်းကောင်း၊ အာဓာရဟူ၍သော်လည်းကောင်း၊ ဒဗ္ဗဟူ၍သော်လည်းကောင်း ယူဆခြင်းသည်) ယုတ္တိမရှိပေ။

ရေ၏တည်ရာ အိုးကို ယူဆသကဲ့သို့ အနံ့၏တည်ရာ ပထဝီဓာတ်ကို ယူဆသည်ဟူသောစကားမှာ မမှန်ပေ။ "ရေစသည်အတွက် တည်ရာလိုအပ်သည်ဆိုသော် ဖြစ်နိုင်၏။ အကြောင်းသော်ကား ရွေ့လျားတတ်သောသဘောရှိသောရေ၏ ရွေ့လျားမှုကို အိုးက ဆီးတားရ၏။ ဂုဏသာမည(=ဇာတိ)နှင့် ကမ္မသော်ကား သင်တို့၏ အယူအားဖြင့် ရွေ့လျားမှုကင်းသော ဒဗ္ဗအတွင်းတွင် စွဲဝင်နေ၏။ သို့ဖြစ်လျှင် ဤသို့ ရွေ့လျားမှုကင်းသော ဂုဏသာမညနှင့် ကမ္မတို့ကို အာဓာရက ဘာများလုပ်ပေးရဦးမည်နည်း။

ဤသို့အားဖြင့် အာဓာရတွေးဆချက် မှားယွင်းကြောင်း အခိုင်အမာဖြစ်ပြီးနောက် အာဓေယဖြစ်သော ဂုဏစသည်ကို သီးခြားအရာဝတ္ထုများ ဖြစ်သည်ဟူသော မှတ်သားမှုလည်း မှားယွင်းသောအမှတ်အသားပေတည်း။ ဂုဏသည် အမြဲတမ်း ဒဗ္ဗတွင် တည်နေ၏။ ဆိုလိုသည်ကား ဒဗ္ဗနှင့် ဂုဏ ၂ မျိုး အကြားတွင် သမဝါယ(=နိစ္စဖြစ်သော) ဆက်စပ်မှုရှိ၏။ ဒဗ္ဗသည် ဂုဏ၏ သမဝါယီ(နိစ္စဆက်စပ်မှုရှိသော) အကြောင်းဖြစ်၏။

ဤသို့ သမဝါယနှင့် သမဝါယီအကြောင်းကို အမှတ်အသားပြုခြင်းသည်လည်း ရှေးက ပယ်ဖျက်ပြီးသော ဒဗ္ဗ၊ ဂုဏ တွေးဆချက်ပေါ်တွင် အမှီပြုနေသဖြင့် မှားယွင်း၏။

**(ခ) သာမညကို ပယ်ဖျက်ခြင်း–** နွားပေါင်း ကုဋေကုဋာရှိ၏။ ကျွန်ုပ်တို့သည် ထိုနွားများ၏ အတိတ်၊ ပစ္စုပ္ပန်၊ အနာဂတ်ကာလရှိ တစ်ကောင်စီအပေါ်တွင် စဉ်းစားကြည့်လိုက်သော် နွားများ မရေမတွက်နိုင်လောက်အောင် ပင် ထင်ရ၏။ ထို မရေမတွက်နိုင်သော နွားတစ်ကောင်စီ၌ အကြောင်းအရာတစ်ခုကို ကျွန်ုပ်တို့ အမြဲတမ်းတွေ့ရ၏။ ၎င်းကား နွားတစ်ကောင်စီ သေကုန်သော်လည်း အသစ်အသစ်မွေးလာသောနွားတိုင်းတွင် တွေ့ရသည့် နွားအဖြစ် နွားဇာပေတည်း။ များစွာသော တစ်ကောင်စီတွင် တစ်မျိုးတည်းကဲ့သို့ တွေ့ရသော အရာကား သာမည သို့မဟုတ် ဇာတိဖြစ်၏။ ၎င်းသည် နိစ္စကာလ သုံးပါးစလုံးနှင့်ယှဉ်သောအရာဖြစ်၏။

ဤဆိုခဲ့ပြီးသော ယုတ္တိကား သာမညကို အခိုင်အမာပြုရန်အတွက် ဝိသေသိကဆရာပေးသော အကြောင်း ယုတ္တိပေတည်း။ ၎င်းယုတ္တိနှင့် ပတ်သက်၍ ရှေးက ရေးသားခဲ့ပြီးသော်လည်း အရာဌာနကို နားလည်လွယ်စေရန် ကျွန်ုပ်တို့က ဤနေရာတွင် တစ်ဖန်ထပ်၍ ဆိုလိုက်ရပေ၏။

အနုမာနအရာ၌ ဓမ္မကိတ္တိဆိုခဲ့ပြီးသောအတိုင်း သာမညသည် အနုမာန၏ အရာဖြစ်၏။ ၎င်းပြင် သာမညသည် "ဝတ္ထုရှိ" အရာမဟုတ်ပေ။ စင်စစ်သော်ကား တွေးဆချက်အပေါ်တွင် မှီတင်းနေ၏။ ဤသို့လျှင် ဝေါဟာရသစ္စာနှင့် ဆက်စပ်သမျှကို လက်ခံသဖြင့် ဓမ္မကိတ္တိက မပယ်ခဲ့ပေ။ ထို့ကြောင့် ဓမ္မကိတ္တိက ဆိုခဲ့၏။

အပြင်အပအနက် (အရာဝတ္ထု) ကို မငဲ့ဘဲ၊ အရာဝတ္ထု၌ ဝါစကအဖြစ် အသိအမှတ်ပြု၍ ဆိုသူများက အကြင် သဒ္ဒါကို သတ်မှတ်ကြ၏။ထိုဆိုသူများသတ်မှတ်သော အတိုင်း ဝါစကသဒ္ဒါဖြစ်ရ၏။

မိန်းမတစ်ဦးတည်းအတွက်ပင်သော်လည်း သက္ကတဘာသာ၌ ဗဟုဝုစ်အားဖြင့် "ဒါရာ" ဟု ဆို၏။ မြို့ ၆ မြို့ဖြစ်၍ ဗဟုဝုစ်ရှိသော အနက်အတွက် ဧကဝုဒ်အားဖြင့် ဆန္နဂရီ (ဆနဂရီ) ဟု ဆို၏။ ဤကဲ့သို့သော သဒ္ဒရုပ်များတွင် ဧကဝုစ် ဗဟုဝုစ်စည်းမျဉ်း၏ အကြောင်းကား အဘယ်နည်း။ တစ်နည်းသော်ကား (သာမညသည် တစ်ခုစီဖြစ်သော အရာဝတ္ထုများစွာ၌ တစ်မျိုးတည်းသာဖြစ်၏)ကောင်းကင်သည် သုညသဘောသက်သက်တစ်ခုသာတည်း။ သို့ဖြစ်လျက် ကောင်းကင်၏ သဘောဖြစ်သော ကောင်းကင်အ

ဖြစ်ကို သာမညကို အဘယ်ကြောင့် မှတ်သားရသနည်း။

ဆိုခဲ့ပြီးသော စကား၏အဓိပ္ပာယ်မှာ ဤသို့သာတည်း။ သဒ္ဒါများကို သုံးစွဲရာ၌ အရာဝတ္ထုကို အရေးတကြီးမလုပ်ဘဲ ဆိုသူတို့က နေရာများစွာတွင် လွတ်လပ်မှုကို ပြကြ၏။ နွားဇာတ်အစရှိသည်ကဲ့သို့ ဆိုသူတို့၏"လွတ်လပ်သော"တွေးဆချက်ဖြစ်၏။ ထိုလွတ်လပ်သော တွေးဆချက်အပေါ်တွင် အခြေပြု၍ ဝတ္ထု၏ တည်ရှိမှုကို ဆုံးဖြတ်ခြင်းသည် မှားပေလိမ့်မည်။

(အချင်းခပ်သိမ်း တစ်ခုနှင့်တစ်ခု) ကွဲပြားမှုရှိနေသော ဘာဝများ(ဝတ္ထုများ)ကို အကြောင်းပြု၍ တစ်ခုသောအနက် (နွားအဖြစ်)ကို သိတတ်သော အကြင်အသိဉာဏ်အားဖြင့် ထို(ဘာဝများ)၏ (တကယ် ဝတ္ထုရှိ) သဘော ဖုံးကွယ်သွား၏။ (ထို့ကြောင့်) ဤသို့သဘောရှိသော ဉာဏ်ကို သမ္ဗုဋိ (တကယ့်ဝတ္ထုရှိသဘောကို ဖုံးအုပ်ပေးတတ်သောအရာ) ဟု ခေါ်ကြ၏။

ဤသို့ သဘောရှိသောသမ္ဗုဋိကြောင့် (ဘာဝများ=နွားများ)၏ ထူးခြားမှုဖုံးအုပ်သွား၏။ (ထို့ကြောင့်) ဘာဝများ (=နွားများအချင်းချင်း) ကွဲပြားသော်(လည်း) တစ်စုံတစ်ခု (ကြံဆအပ်သော) သဘောအားဖြင့် မကွဲမပြားသော သဘောရှိသကဲ့သို့ ထင်ရ၏။

ထိုသမ္ဗုဋိ (ဝါ) တွေ့ဆချက်ပါသော အသိဉာဏ်၏ အဓိပ္ပာယ်ကို အကြောင်းပြု၍ သာမညကို ဘာဝ (အရှိသဘော) ဟု ခေါ်ဆို၏။ အကြောင်းသော်ကား သာမညသည် အဘာဝဖြစ်၍ ထို(သမ္ဗုဋိဉာဏ်) ဖြင့် ကြံဆထားအပ်သောအရာဖြစ်သောကြောင့်တည်း။

နွားအဖြစ်သည် အားလုံးသည် တစ်ကောင်စီ၌ရှိသော ဝတ္ထုရှိသဘော တစ်ခုဖြစ်၏ဟူသော အသိအမှတ်အသားသည် မှား၏။ အကြောင်းသော်ကား-

တစ်ကောင်ချင်း(အသီးသီးကွဲပြားသောနွားများသည် တစ်ကောင်က တစ်ကောင်သို့) မလိုက်ပေ။ (ထို့ပြင်) ထိုတစ်ကောင်ချင်းကွဲပြားသော နွားများ၌ အစဉ်လိုက်တတ်သော အရာဝတ္ထုကို မတွေ့မြင်ရပေ၊ မြင်ရသော အရာများကား အသီးသီးကွဲပြားသော နွားတစ်ကောင်စီသာတည်း။ ဉာဏ်အားဖြင့် မကွဲမပြားဖြစ်နေသော သာမညသည် အဘယ်သို့လျှင် တစ်ခုသောအရာဝတ္ထုဖြင့် အခြားတစ်ခုသော အရာဝတ္ထုကို ရရောက်နိုင်အံ့နည်း။

"ထို့ကြောင့် (များစွာသော အရာဝတ္ထုများတွင် တူညီသောသဘော (= သာမည) ကို စွဲယူခြင်းသည် မှားယွင်းသော ကြံဆချက်ဖြစ်၏။ (မှားယွင်းသောကြံဆချက်) ၏မူလကား (တစ်ကောင်စီ၏) အချင်းချင်း ကွဲပြားမှုဖြစ်၏။ ထိုကွဲပြားမှုအတွက် (ဂေါတ္တ-နွားအဖြစ်အစရှိသော) အမည် (သဒ္ဒါကို သုံးစွဲခြင်း) ဖြစ်၏။

"အကယ်၍ အမည်များ-သဒ္ဒါများဖြင့် အရာဝတ္ထုတို့၏ ကွဲပြားသော အဟန်ထင်သည်ရှိသော ကွဲပြားမှုသည်သာ သဒ္ဒါတို့၏ အကျိုးဖြစ်၏။ သို့ဖြစ်လျှင် ထိုအရာဝတ္ထုများအပေါ်တွင် သာမည (သို့မဟုတ်) အခြားတစ်ခုသော အရာဝတ္ထုများကို ကြံဆသဖြင့် သင်တို့အား အဘယ်အကျိုးရှိအံ့နည်း"

အမှန်စင်စစ်အားဖြင့် နွားအဖြစ် အစရှိသော သာမညဟောသဒ္ဒါများကို ပညာရှိတို့က ဝေါဟာရ လွယ်ကူစေရန်အတွက် ပြုလုပ်ထားကြ၏။

အကျိုးတစ်မျိုးကို ဖြစ်စေတတ်သော ဘာဝများ(=ဝတ္ထုများ)တွင် ၎င်းဝတ္ထုများ၏ အကျိုးကိုသိစေရန် ခွဲခြားမှုကို ပြုတတ်သော သညာကို အလိုရှိအပ်၏။ ဥပမာ နို့နှင့် အားကိုပေးခြင်းအစရှိသော တြိယာများကို ပြုတတ်သော နွားမများတွင် ၎င်းတို့၏အကျိုးကို ဖော်ပြရန်အတွက် ကွဲပြားမှုကို ပြုတတ်သော သညာကိုလည်း အလိုရှိအပ်သကဲ့သို့တည်း။ သို့သော် နွားတစ်ကောင်စီမရေမတွက်နိုင်အောင် များသဖြင့် တစ်ကောင်စီအသီးသီး အမည်သညာတပ်နေရလျှင် နာမ်ပုဒ်များအလွန်ပင် များပြားလေရာ၏။ ထိုသို့ အသီးသီးအမည်တပ်မှုသည်ဖြစ်လည်း ဖြစ်နိုင်မည်မဟုတ်ပေ။ အမည်တပ်ရန် ကြိုးပမ်းမှုလည်း အချည်းအနှီးသာဖြစ်လေရာ၏။ ထို့ကြောင့် (ဝေါဟာရအရာ၌ လိမ္မာသော) ပညာရှိများက ထိုနွားနှင့်ပတ်သက်သော အကျိုးမှကွဲပြားစေလိုသော သဘောဖြင့် တစ်ခုသောသဒ္ဒါ (နွားဟူသောအမည်) ကို အသုံးပြုခဲ့၏ ။

အမေးထွက်လာပြန်၏။ နိစ္စဟုခေါ်ဆိုအပ်သော သာမည (နွားအဖြစ်) သည် တစ်စိတ်တစ်ဒေသတွင်တည်ရှိသလော။ အလုံးစုံပျံ့နှံ့သလော။

တစ်စိတ်တစ်ဒေသတွင် တည်သည် (ဧကဒေသီ) ကို မိမိနှင့်စပ်သော နွားတစ်ကောင်ချင်းအပေါ်မှာသာတည်သည်ဟု အကယ်၍ ဆိုငြားအံ့။ သို့ဆိုခဲ့သော်-

"(နွားတစ်ကောင်တွင် တည်ရှိသော သာမညသည် ထိုနွားတစ်ကောင် သေ၍ အခြားနွားတစ်ကောင်မွေးသောအခါ တစ်ကောင်မှ အခြားတစ်ကောင်သို့) မပြောင်းမကူး။ ထိုနွားမွေးဖွားသော နေရာတွင် စောစောစီးစီးကလည်း ရှိမနေနှင့်။ အကြောင်းသော်ကား သာမညသည် တစ်ကောင်စီသက်သက်မှာ သာရှိ၏။ နွားတစ်ကောင်မွေးပြီးနောက်တွင်ကား မုချရှိ၏။ (အကြောင်းသော်ကား သာမညနှင့်ကင်း၍ အကောင်မဖြစ်နိုင်။ အကယ်၍ (သာမည) ကို အစိတ်ရှိသောအရာဟု ယူဆခဲ့သော် သာမည၏တစ်ခုသော အစိတ်=အစွန်းအနားသည် ပထမအကောင်၊ ၎င်းပြင် ဒုတိယမြောက်နောက်ဖြစ်သော အကောင် နှင့် ဆက်စပ်ပေရာ၏။ အစိတ်ကင်းမဲ့သောအရာဟု ယူဆလျှင် သာမညသည် ရှေးဦးစွာဖြစ်ပေါ်ပြီးနောက် ပျက်စီးသွားသောတည်ရာ (=အာဓာရ)ကို စွန့်သွားသည်ဟု မဆိုနိုင်ပေ။

အကြောင်းသော်ကား ဤသို့အစိတ်ကင်းမဲ့သော အရာဟုယူဆခဲ့လျှင် နိစ္စဖြစ်သော သာမညကဒေသ၊ ကာလ၏ထူးခြားမှုကို ဖြတ်ကူးမည် ရှိသောအခါ သာမညကို အကောင်နှင့်သီးခြားဖြစ်သောအရာဟုလည်း ယူဆရပေလိမ့်မည်။ ဤသို့အားဖြင့် သနားစရာကောင်းသော သာမညဝါဒီတို့အတွက် အခက်အခဲမှာ အဆုံးရှိတော့မည်မဟုတ်ပေ။

အခြားတစ်နေရာတွင် လက်ရှိဖြစ်နေသော သာမည၏ မိမိတည်ရာဌာနမှ လှုပ်ရှားမှုမရှိဘဲ ထိုပထမနေရာမှ အခြားတစ်နေရာတွင် ဖြစ်ပေါ်လာသော အစိုင်အခဲပေါ်သို့ ရောက်ရှိမှုသည် ယုတ္တိယုတ္တာရှိသော အကြောင်းမဟုတ်ပေ။

အကြင်ဒေသ၌ ထိုနွားတည်းဟူသော ဘာဝသည် ထင်ရှားရှိနေ၏။ ထိုဒေသနှင့် သာမညဖြစ်သော နွားအဖြစ်သည်လည်း ဆက်စပ်ခြင်းမရှိပေ။ အကြောင်းသော်ကား သာမညသည် ဒေသတွင်းမဟုတ်။ အကောင်အထည်ပေါ်တွင် တည်သည်ဟု သင်တို့ယူဆကြ၏။ ဒေသတွင်ရှိနေသော ထိုဒေသနှင့် စပ်နေသော နွားအကောင်အထည်တွင် ပျံ့နှံ့နေ၏ဟု သင်တို့ ဆိုကြပြန်၏။ ဤစကားမှာ အလွန်ထူးခြားဆန်းကြယ်သော စကားတစ်ရပ်ပေတကား။

"အကယ်၍ သာမညကို တစ်စိတ်တစ်ဒေသ၌တည်သော အရာမဟုတ်။ အလုံးစုံပျံ့နှံ့နေသော အရာဟု ယူဆခဲ့လျှင် တစ်နေရာတွင် နွားတစ်ကောင်

အပေါ် ပျံ့နှံ့သွားပြီးလျှင် သာမညကို အလုံးစုံသောနေရာတွင် တွေ့မြင်သင့်၏။ အကြောင်းသော်ကား အလုံးစုံပျံ့နှံ့သော သာမညတွင် ကွဲပြားမှုမရှိ တစ်ခုတည်းဖြစ်သဖြင့် အကောင်ကို ငဲ့ဖွယ်မလိုတော့ပေ။

ထို့ပြင် အထက်ပါ အကြောင်းအချက်များဖြင့် နွားအဖြစ်သည် နေရာအနှံ့တည်၏ဟူသောအချက်သည် အခိုင်အမာဖြစ်နေခဲ့လေရာ၏။ သို့ဖြစ်လျက် သာမညကို အဘယ်ကြောင့် မတွေ့ရလေသနည်းဟု မေးသောအခါ သင်တို့က ဖြေကြ၏။ ထိုသာမညအတွက် ဗျဉ္ဇက (=ထင်ရှားပြတတ်သော) အကောင်–နွား–ကို အလိုရှိအပ်၏။ ထို့ကြောင့် မတွေ့ရတဲ့ ထိုအဖြေ၏ အဓိပ္ပာယ်ကား ပထမ ဗျဉ္ဇကဖြစ်သော နွားအကောင်အထည်ကို သိတတ်သော အသိဉာဏ်မပါဘဲ ဗျဂ်ျ (သာမည)ကို အသေအချာမသိရပေ။ သို့ဖြစ်လျက် သာမည(=နွားအဖြစ်) နှင့် သာမညရှိသောအရာ (နွားအဖြစ်ရှိသော နွားအကောင်အထည်) ၏ ဆက်စပ်မှုတွင် အဘယ်ကြောင့် ပြောင်းပြန်အသိအမှတ်ပြုရပါသနည်း။ ဆိုလိုသည်မှာ နွားအဖြစ် သာမညသည် နွားအကောင်အထည်၏ရှေးမဆွကပင် အဘယ်ကြောင့် ရှိနှင့်နေရပါသနည်း။

ထို့ကြောင့် သာမညဟူသည် ရှိကို မရှိ။

"အကြောင်းသော်ကား (အကောင်အထည်မှ တသီးတခြား) ဓာတ်–သာမည သက်သက်ကို မတွေ့မြင်ရပေ။ ထို့ပြင် (နွား) အကောင်အထည်ကို စွဲယူသော အခါလည်း ထိုအကောင်အထည်၏ နာမဝါစီ–အမည်ဟောဖြစ်သော သဒ္ဒရုပ် (နွား) မှ တစ်ပါး တခြားတစ်စုံတစ်ရာ မတွေ့ရပေ"

ထို့ကြောင့် သာမညသည် ဝတ္ထုရုပ်မဟုတ်။ ၎င်းပြင် သာမညသည် ရုပ်များ (နွားအကောင်အထည်များ) အပေါ်တွင် အမှီတကဲပြု၍ ကြဲဆအပ်သောအရာမဟုတ်၊ စင်စစ်သော်ကား သာမညသည် အကောင်အထည်တို့၏ အပြုအမူနှင့် ဆက်စပ်နေသော ထိုထိုထူးခြားချက်များကို ဖော်ပြရန်အတွက် သဒ္ဒါတို့၏ အစွမ်းအားဖြင့် ပြအပ်သော အရာသာတည်း။

ဤသို့သဘောရှိသော သာမည၌ ဝတ္ထုရုပ်၏ အရိပ်အယောင် ၎င်းပြင် သာမညအနေဖြင့် အနက်(အရာဝတ္ထု နွား အကောင်အထည်)ကို စွဲယူခြင်းသည် ဖောက်ပြန်မှုသာတည်း။ ထိုဖောက်ပြန်မှုသည် ကြာမြင့်စွာသော ကာလကပင် ရှိနေတိုင်းဖြစ်သောအသုံးကို တွေ့ကြုံနေကြသဖြင့် ဖြစ်ပေါ်ရာရ၏။

အရာဝတ္ထုအကောင်အထည်များစွာအနက် အသီးသီးသော အကောင်အထည်မှ သီးခြားသဘောရှိသော သာမည၊ သာမည၏အရာ၌ သဒ္ဒါနှင့် အနက်ဆက်စပ်မှုသင်္ကေတရှိသော သဒ္ဒါများတွင် ဘယ်အရာမှ ဝတ္ထုရုပ်မဟုတ်ပေ။ အကြောင်းသော်ကား ထိုအရာများသည် သဒ္ဒဝေါဟာရ လွယ်ကူမှုအတွက် ကြံဆထားအပ်သော အရာသာဖြစ်၏။

**(ဂ)အပေါင်း (အဝယဝီ)ကို ပယ်ဖျက်ခြင်း–** အက္ခပါဒသည် အဝယဝ (အင်္ဂါ– အစိတ်)များ၏ အတွင်း၌၊ သို့သော် အစိတ်များမှ သီးသန့်ဖြစ်သော အလွတ်အရာဝတ္ထုတစ်ခုကို အဝယဝီ (အင်္ဂီ–အပေါင်း) ဟု အဘယ်ပုံ အသိအမှတ်ပြုကြောင်း ကျွန်ုပ်တို့ ဆိုခဲ့ပြီးလေပြီ။

ဓမ္မကိတ္တိသည် သာမညအလားတူ အဝယဝများကို ဝေါဟာရ (=သမ္မုတိ) သစ္စာအနေအားဖြင့် လက်ခံရန်အသင့်ရှိသော်လည်း အဝယဝတို့မှ တစ်ပါးသော အဝယဝီကို ပရမတ္ထသစ္စာအနေအားဖြင့် လက်မခံပေ။

အကြင် အခြင်းအရာနှင့်စပ်၍ အသိဉာဏ်ဖြစ်၏။ ထိုအခြင်းအရာကို အသိဉာဏ်၏စွဲယူရာ (ဂါဟ)ဟု ခေါ်၏။

ကျွန်ုပ်တို့သည် အသိဉာဏ်ဖြင့် အစိတ်–အစိတ်၏ သရုပ်ကိုသာ တွေ့မြင်ကြ၏။ ထိုအစိတ်အစိတ်တွင် အပေါင်း၏ သရုပ်ကို မတွေ့ရပေ။ အသီးသီးသော အစိတ်များ၏ ပစ္စက္ခဉာဏ်များကို တစ်ပေါင်းတည်းစု၍ တွေးဆချက်၏အထောက်အပံ့ဖြင့် ကျွန်ုပ်တို့က အပေါင်းကို စိတ်ကူးထဲတွင် ဖန်ဆင်းကြ၏။ ၎င်းသည် စိတ်ကူးချက်မှအပ တကယ့်ဝတ္ထုရုပ်မဖြစ်နိုင်ပေ။

အပေါင်းကိုလည်း စွဲယူရာ၏ဟု အကယ်၍ဆိုခဲ့သော် အမေးရှိလာလိမ့်မည်။

"တစ်ပြိုင်နက် တစ်ချက်တည်းဖြင့် အသီးသီးသော အစိတ်များနှင့်အတူ အပေါင်းကို အဘယ်သို့လျှင် စွဲယူနိုင်အံ့နည်း"

ပါးပျဉ်း၊ ဦးချိုအစရှိသော အစိတ်များကို မမြင်ဘဲ နွား (–အပေါင်း)ကို မမြင်နိုင်ပေ။

ဝါကျကို ဖတ်သောအခါ ပထမဦးစွာ တစ်လုံးတစ်လုံးသော အက္ခရာ ဖတ်ပြီးသည်နှင့်တစ်ပြိုင်နက် ဝါကျ၏အနက်မထင်သေး။ စင်စစ်သော်ကား တစ်လုံးတစ်လုံးသော အက္ခရာသည် ကျွန်ုပ်တို့ရှေ့မှ ဖြတ်ကျော်သွားလျက်

သင်္ကေတအားလျော်စွာ ထူးခြားသော ရိုက်ခတ်မှုသည် ကျွန်ုပ်တို့ဦးနှောက်သို့ ကျရောက်ကျရောက်သွားကြ၏။ ထိုရိုက်ခတ်မှုများကို ပေါင်းစပ်၍ စိတ်ကူးဉာဏ်ဖြင့် တစ်ဝါကျလုံး၏ အနက်ကို အသင့်ဖြစ်အောင် ပြုလုပ်ရ၏။ ထိုနည်းတူစွာ ကျွန်ုပ်တို့သည် နွား၏ ဦးချို၊ ပါးပျဉ်း၊ အမြီးကို တစ်လှည့်စီမြင်၍ ကျရောက်လာသော ရိုက်ခတ်မှုအားလျော်စွာ နွားအပေါင်းကို ကြံဆကြ၏။ စင်စစ် သာမညသည် အကောင်အထည်မှတစ်ပါး အခြားတစ်စုံတစ်ခုသော ဝတ္ထုရုပ်မဟုတ်သကဲ့သို့ အပေါင်းလည်း ဝတ္ထုရုပ်မှတစ်ပါး အခြားတစ်စုံ တစ်ခုသောဝတ္ထုရုပ်မဟုတ်ပေ။ အကယ်၍ အပေါင်းသည် အကယ်စင်စစ် အားဖြင့် သီးခြားဝတ္ထုတစ်ခုဖြစ်ခဲ့လျှင်–

"လက်အစရှိသည်တို့အနက် တစ်ခုခုသော ကိုယ်အင်္ဂါလှုပ်သဖြင့် တစ်ကိုယ်လုံးလှုပ်လေရာ၏။ အကြောင်းသော်ကား တစ်ဆက်တည်း အပိုင်း အပြတ်မရှိသောအပေါင်းတွင် လှုပ်မှုနှင့် လှုပ်မှု၏ ဆန့်ကျင်ဘက် မလှုပ်မှု ၂ ခု အတူမနေနိုင်ပေ။ ဤကဲ့သို့ မဟုတ်လျှင် လှုပ်မှုရှိသော အစိတ်နှင့် မလှုပ်မှုရှိသော အပေါင်းသည် သီးခြားဖြစ်၏ ဟူသော စကား အခိုင်အမာဖြစ် လေရာ၏။

အစိတ်များကို ပေါင်းသဖြင့် အပေါင်းဟူသော သီးခြားအရာဝတ္ထုတစ်ခု ပေါ်လာ၏ဟု ယူဆလျှင် အစိတ်တို့နှင့်တကွ "အပေါင်း"ကိုပါရောပေါင်း လျှင်

(၁) အစိတ်
(၂) အစိတ်
(၃) အစိတ်–များ၏ အလေးချိန်ထက်
(၁) အစိတ်
(၂) အစိတ်
(၃) အစိတ်
(၄) အပေါင်း– များ၏ အလေးချိန်က ပို၍ စီးသင့်၏။

အကြောင်းသော်ကား အကယ်၍ အစိတ်တို့၏ အလေးချိန်နှင့် ထို အလေးချိန်အားလျော်စွာ ချိန်တွယ်ရာ စဉ်းချိန်အောက်သို့ ကျသွားသည်ရှိ သော် အစိတ်တို့နှင့်တကွ အပေါင်းကိုပါ ရောပေါင်း၍ ချိန်သည်ရှိသော်

စဉ်းချိန်သည် ပို၍ အောက်သို့ကျသင့်၏။

အစဉ်အတိုင်း သိမ်မွေ့သော အစိတ်များကိုတိုးစေလျက် အစိတ်ပေါင်းများစွာနှင့်ယှဉ်သော မြူမှုန်အစုတွင် တစ်ချိန်တည်း၌ အသီးသီးသော အစိတ်များနှင့် ထိုအစိတ်တို့နှင့် ယှဉ်သော အပေါင်း၏ အလေးချိန်တွင် ကွဲပြားမှုဖြစ်သင့်၏။ ဤကဲ့သို့ အလေးချိန် ကွဲပြားမှုကြောင့် ရွှေ၊ သို့မဟုတ် ငွေ၏ သေးငယ်သောအစိတ်အပိုင်းများကို အသီးသီးချိန်တွယ်ရာတွင်လည်းကောင်း၊ ထိုအစိတ်အပိုင်းများကို ကျုံ၍ အစိုင်အခဲတစ်ခုပြုလုပ်၍ ချိန်တွယ်ရာတွင်လည်းကောင်း၊ ရွှေ၏ ပဲအစရှိသော အလေးချိန်တူညီမှုမဖြစ်သင့်ပေ။

တပဲအလေးချိန်ရှိသော ရွှေကို သီးခြားချိန်တွယ်ရာ တပဲသာရှိ၏။ သို့သော် ၉၆ ပဲရှိသော ရွှေကိုကျုံ၍ အတုံးအခဲတစ်ခုပြုလုပ်ပြီးသော် ထိုအတုံးအခဲ၌ ၉၆ ပဲအလေးချိန်ရှိသော အစိတ် ၉၆ စိတ်အပြင် ၉၆ စိတ်ကြောင့်ဖြစ်သော အပေါင်းလည်း ရောက်လာ၏။ ထို့ကြောင့် ထိုအချိန်တွင် ၉၆ ပဲထက်ပိုလွန်သင့်၏။

ဝိသေသိက ကျမ်းဆရာသည် သချ်ာ (အရေအတွက်) သံယောဂ (ပေါင်းစပ်ခြင်း) ကမ္မ (အလုပ်) ဝိဘာဂ (ခွဲခြမ်းဝေဖန်ခြင်း) အစရှိသော ဂုဏ်များကို ဝတ္ထုရှိအနေအားဖြင့် လက်ခံ၏။ ၎င်းတို့ကို ဓမ္မကိတ္တိက ဝေါဟာရသတ္တာအနေမျှဖြင့်သာ လက်ခံရန်အသင့်ရှိ၏။ ထို့နောက် ဓမ္မကိတ္တိက ဆိုခဲ့၏။

"သချ်ာ သံယောဂ ကမ္မအစရှိသော သရုပ်သဘောသည် ထိုသရုပ်သဘောရှိသော ဒဗ္ဗသရုပ်သဘောအားဖြင့် တစ်နည်းဒဗ္ဗ၏ ကွဲပြားမှုနှင့်တကွ ဆိုသဖြင့် အသိဉာဏ်တွင် ထင်မလာပေ။ ထို့ကြောင့် ထင်မလာသော်လည်း ဝတ္ထုရှိဟု ယူဆမှုသည် မှား၏။

သဒ္ဒအသိဉာဏ်အားဖြင့် အိုးတစ်လုံးဟူ၍ ကြားအပ်သောအနက်၌ ဝတ္ထုတို့၏ အချင်းချင်းကွဲပြားမှုကို အစဉ်လိုက်တတ်သော တစ်ခုစီအားဖြင့် သချ်ာအစရှိသည်ကို အသုံးပြုမှုသည် ဂုဏ်အစရှိသည်ကို သုံးသကဲ့သို့တည်း။ (အဆင့်အတန်းအားဖြင့် "တစ်ခုသောကြီးမားသော ဓာတ်ဟူရာ၌ "တစ်ခုသော" လည်းဂုဏ် "ကြီးမားသော" လည်းဂုဏ်၊ သို့သော် ဂုဏ်တွင် ဂုဏ်မရှိနိုင်သဖြင့် "တစ်ခု" သချ်ာနှင့်တကွ ကြီးသော အတိုင်းအရှည်ကို အသုံးပြုခြင်းမဖြစ်သင့်ပေ) တစ်နည်းသော်ကား ပျက်စီးလေပြီးသော သို့မဟုတ်

ယခုအချိန်အထိ မဖြစ်ပေါ်သေးသော အရာဝတ္ထုများတွင် (တစ်၊ နှစ် အများပင် ကွယ်လွန်ခဲ့လေပြီ။ သို့မဟုတ် "မွေးလိမ့်မည်" ဟု ဆိုမှုမဖြစ်သင့်ပေ။ အမှန်စင်စစ်အားဖြင့် သေပြီးသော သို့မဟုတ် မမွေးရသေးသော အရှိသဘောကင်းသည့် အာဓာရ၏ အာဓေယ်ဂုဏနှင့် အလားတူသည့် တစ်၊ နှစ် သင်္ချာသည် ကြဲဆချက်မှတစ်ပါး ဝတ္ထုရုပ်မဟုတ်နိုင်ပေ။

**(ဃ)သင်္ချာအဘိဓမ္မာကို ပယ်ဖျက်ခြင်း** – သင်္ချာအဘိဓမ္မာသည် နာမ်တရား နှင့် ရုပ်တရား ၂ ပါးစလုံးကို လက်ခံ၏။ ၎င်း ၂ ခုအနက် နာမ် (စေတနပုရိသ)သည် အပြုအမူကင်းမဲ့သော သက်သေခံမျှသာတည်း။ သို့သော် ထိုနာမ်နှင့် ပေါင်းစပ်သဖြင့် ရုပ်တရား (=ပဓာန) သည် တစ်ကမ္ဘာ လုံးကို မိမိ၏ သဘာဝပြောင်းလဲမှုအားဖြင့် ဖန်ဆင်း၏။ သင်္ချာအဘိဓမ္မာသည် ပဓာန၌ ကွဲပြားမှုရှိသည်ဟု မယူဆ၊ တစ်ဆက်တည်း သက္ကာရိယဝါဒ (=အကျိုးတွင် ရှေးယခင်ကပင် အကြောင်း အပြည့်အစုံရှိနှင့်သည်ဟူသော ဝါဒ)ကိုကား လက်ခံ၏။ ဓမ္မကိတ္တိက ဆိုခဲ့၏။

"အကယ်၍ အများ (မျိုးစေ့၊ ရေ၊ မြေစသည်) သည် တစ်ခု (ပဓာန–ပကတိ) သဘောဖြစ်လျက် တစ်ခုသောအကျိုး (အညှောက်) ကို ဖြစ်စေသည် ဆိုသော် ထိုသဘော (=ပဓာန) သည် ထစ်ခုသောအရာ (မျိုးစေ့) ၌ အခြားနေရာ၌ ဖြစ်သကဲ့သို့အလားတူပင်ဖြစ်၏။ ထို့ကြောင့် အခြားသော တွဲဖက်အကြောင်း ရေ၊ မြေ စသည် အချည်းနှီးဖြစ်ရာ၏"

ရေ၊ မြေစသည် တွဲဖက်အကြောင်း မရှိသော်လည်း မျိုးစေ့ရှိသဖြင့် ထို (ပဓာန–မူလရုပ်ဓာတ်သည်) မကွဲမပြားဖြစ်၏။ ၎င်းပြင် ထိုပဓာနသည် ရေမြေ ဖြစ်သွားသော်လည်း သူ၏ ရှေးသဘောကို မစွန့်။ အကြောင်းသော်ကား ထိုပဓာနသည် နိစ္စဖြစ်၏။ ၎င်းပြင် ဝိသေသ (=ရေ မြေစသည်) သည် ပျက်စီးတတ်၏။ သို့သော် တစ်ခုသောအရာ (တွဲဖက် ရေ၊ သို့မဟုတ် မြေ) မရှိသော်အကျိုး (=အညှောက်) မဖြစ်သည်ကို ကျွန်ုပ်တို့မြင်ကြ၏။ ထို့ ကြောင့် ထိုအညှောက်သည် ပဓာနကြောင့်မဟုတ်။ စင်စစ်သော်ကား ဝိသေသများ (ရေ မြေ စသည်) ကြောင့် ဖြစ်ကြောင်း သိရ၏။

အနက်ရှိ အပြုအမူကို ပြုတတ်သော အရာသည် ပရမတ္ထသဘောရှိသော အရာဝတ္ထုသာတည်း။ မြေ၊ ရေ အစရှိသော ဝိသေသသည် ဤသို့

သဘောရှိသော အနက်ရှိ အပြုအမူကိုပြုတတ်၏။ ၎င်းပြင် ဝိသေသသည် အချင်းချင်းကွဲပြားသဖြင့် အကျိုး–အဩောက်၌ တစ်မျိုးတည်းသော သဘော မရှိပေ။ တစ်မျိုးသော သဘောရှိသည်ဟု သင်တို့ဆိုထားသော ပဓာနမှ (အဩောက်) အကျိုးမဖြစ်နိုင်ပေ။ အကြောင်းသော်ကား သက္ကာရိယဝါဒအား လျော်စွာ ပဓာနသည် မိမိ၏သဘောတွင်ဖြစ်သကဲ့သို့ အစရှိသည်ဖြစ်သော အခါလည်း အလားတူပင်ဖြစ်၏။

ပဓာနကို အခြေအနေတိုင်းမှာပင် တစ်သဘောတည်း ယူဆခဲ့သော် မျိုးစေ့ မြေ ရေ အားလုံး ပဓာနတုံး ပဓာနခဲဖြစ်၍ တစ်သဘောတည်း ဖြစ်လေရာ၏။ သို့ဖြစ်လျှင် တစ်ခုတည်းသော ဗီဇရှိနေလျှင် မြေ ရေ စသည် ရှိသော်လည်း အဩောက်ပေါက်မှုတွင် တစ်စုံတစ်ခုအနှောင့်အယှက်မရှိ သင့်ပေ။ သို့သော် ကျွန်ုပ်တို့သည် ဤသို့သောသဘောကို တွေ့မြင်ကြ၏။ ထိုအကြောင်းသဘောအားဖြင့် မျိုးစေ့၊ မြေ၊ ရေ စသည် အချင်းချင်းကွဲပြား ရာတွင် တစ်စုံတစ်ခုသော မျိုးစေ့ မြေ အစရှိသည်သည် အဩောက်၏ အကြောင်းဖြစ်၏။ အခြားသော မီး ရွှေစသည်သည် အကြောင်းမဟုတ်ပေ။ အကယ်၍ မျိုးစေ့ မြေ မီးစသော ဝိသေသတို့၏ ကွဲပြားခြင်းမဖြစ်သော် အဩောက်၏ မီးကြောင့် ပျက်စီးခြင်း၊ မျိုးစေ့စသည်ကြောင့်ဖြစ်ခြင်း ၂ မျိုးသည် အတူတကွဖြစ်လေရာ၏။

အနက်ရှိ အပြုအမူကို ပြုတတ်သော အရာများကို အကျိုးအကြောင်း ဟုခေါ်ကြ၏။ ထိုအရာများသာ မိမိလက္ခဏာနှင့် တကွသော ဝတ္ထုရှိ တရား ဖြစ်၏။ ထိုဝတ္ထုရှိ သဘောတရားကို စွန့်ပယ်ရန် ရရှိရန် “ပုရိသ” တို့၏ အမျိုးမျိုးသော အကျိုးသဘောအားဖြင့် အစဉ်တစိုက်ဖြစ်ရာ၏။

သချာဆရာယူဆထားသော မူလရုပ် ဓာတ်ပဓာနမှ ဖြစ်သော ရုပ်ဝတ္ထု အားလုံး မြေ မျိုးစေ့ ရေတို့သည် မီး၌ မကွဲမပြားတစ်မျိုးတည်း တူနေသော် လည်း အားလုံးသော မျိုးစေ့ ရေ မီးတို့သည် ပဓာနတုံး ပဓာနခဲဖြစ်၍ အား လုံးသော အဩောက် အိုးစသော အကျိုးဖြစ်စေရာ၌ ကိရိယာတန်ဆာပလာ မဖြစ်ကုန်ပေရာ။ ထို့အတူ ခဏိကဖြစ်သော ပရမာဏု၊ သို့မဟုတ် ရုပ်ဝတ္ထု တို့၏ ရှေးရှေးအကြောင်းများသည် မြေ မျိုးစေ့ ရေ မီးစသော နောက် နောက်ဖြစ်သော အကျိုးအားလုံး၌ ကွဲပြားမှု တစ်ဆက်တည်းသဘောတူ

သော်လည်း အားလုံးသောအကြောင်းများသည် အားလုံးသော အကျိုးတို့ကို ဖြစ်စေရာ၌ ကိရိယာတန်ဆာပလာမဟုတ်ကြတော့ပေ။

ဤမျှသာမကသေး၊ သက္ကာရိယဝါဒနှင့် ဆန့်ကျင်၍ အကြောင်းနှင့် အကျိုးကို ကွဲပြားသည်ဟု မှတ်ယူသည်ရှိသော် အားလုံးမဟုတ်၊ တစ်ခုခု သော အရာဝတ္ထုသာလျှင် မိမိ၏ထူးခြားမှု (သဘာဝ) အားဖြင့် တစ်ခုတစ်ခု သော အကျိုး၏ အကြောင်းဖြစ်နိုင်ပေရာ၏။

သို့သော်လည်း သက္ကာရိယဝါဒအားလျော်စွာ အကြောင်းနှင့် အကျိုး ကို မကွဲပြားဟု မှတ်ယူခဲ့သည်ရှိသော် အရာဝတ္ထုအားလုံးပင် မကွဲမပြားဖြစ် ကုန်ရာ၏။ သို့ဖြစ်လျက် ၎င်းတို့အနက်တစ်ခုတည်း၏ တစ်နေရာတွင် အကျိုးကို ဖြစ်စေခြင်းနှင့် တစ်နေရာတွင် အကျိုးကို မဖြစ်စေခြင်း ၂ မျိုး သည် အချင်းချင်း ဆန့်ကျင်ဘက်အကြောင်းများဖြစ်ကြ၏။

ဤသို့အားဖြင့် သချၤာကျမ်း၏ သက္ကာရိယဝါဒ–အရင်းခံအားဖြင့် ကမ္ဘာနှင့် ကမ္ဘာ့ဝတ္ထုပစ္စည်းများသည် အကြောင်းနှင့် အကျိုးအခိုက်အတံ့ များတွင် တစ်စုံတစ်ရာကွဲပြားမှုမရှိ (ပဓာန=ရေ၊ ပဓာန=မီး၊ ပဓာန=သကြား၊ ပဓာန (=ငရုတ်သီး) သည် မှား၏။

ဗုဒ္ဓဘာသာဝင်တို့၏ အသက္ကာရိယဝါဒသာမှန်၏။ ၎င်းဝါဒအရ အကြောင်းသည် တစ်ခုတည်းမဟုတ်၊ အကြောင်းသည် များစွာဖြစ်၏။ အကျိုး တိုင်းပင် မိမိ၏အကြောင်းနှင့် လုံးဝကွဲပြားသော အရာဝတ္ထုများဖြစ်ကြ၏။ သို့သော်လည်း အသစ်အသစ်ဖြစ်ပေါ်သော အကျိုးတိုင်းပင် မိမိ၏အကြောင်း နှင့် လုံးဝကွဲပြားသော အရာဝတ္ထုများဖြစ်ကြ၏။ သို့သော်လည်း အသစ် အသစ်ဖြစ်ပေါ်သော အကျိုးတိုင်း မိမိတို့၏ အကြောင်းနှင့် တူကြ၏။ ဤ သို့တူသဖြင့်"ဤအကျိုးသည် ထိုအကြောင်းပင်တည်း" ဟု မှောက်မှားမှု ဖြစ်၏။

**(၄) မီမံသာအယူကို ပယ်ဖျက်ခြင်း**– မီမံသာ အယူဝါဒများနှင့် ပတ်သက် ၍ ကျွန်ုပ်တို့ရှေ့ပိုင်းက ရေးသားပြီးခဲ့လေပြီ။ ပစ္စက္ခအနုမာန အစရှိသော ပမာဏရှေ့တွင် ထင်ရှားရှိနေသော အရာဝတ္ထုများကိုလည်း အဟုတ်တကယ် အားဖြင့် အဘယ်အရာဟု မပြောဆိုနိုင်ပေဟု မီမံသာဆရာက ဆိုခဲ့၏။ ၎င်းပြင်

ပရလောကနတ်ပြည် ငရဲပြည်အတ္တ အစရှိသော ဣန္ဒြေဖြင့် မယူနိုင်သော (ဝါ)လက်တွေ့မပြနိုင်သော အရာဝတ္ထုများကို ဉာဏ်စေစားရာတိုင်းလည်း ၎င်းတို့သည် လုံးဝမစွမ်းနိုင်ပေ။

ထို့ကြောင့် ပရလောက စသည်နှင့် ပတ်သက်၍ အားအကောင်းဆုံးသော မှီငြမ်းမှုမှာ သဒ္ဒပမာဏ–ဝေဒ–အပေါ်တွင် တည်လေသည်။ ၎င်း တို့က ဝေဒကို တစ်စုံတစ်ယောက်သောသူ (လူ၊ နတ် သို့မဟုတ် ဘုရားသခင်) က ဖန်ဆင်းစီရင်ခဲ့သော အရာမဟုတ် အသခ်တ နိစ္စတရားဟု ယူဆကြ၏။

ဗုဒ္ဓဝါဒီတို့သည် ပစ္စက္ခနှင့် အစိတ်အပိုင်းအားဖြင့် ပစ္စက္ခ(ဝါ) အနုမာန မှတစ်ပါး မည်သည့်တတိယပမာဏတစ်ခုကိုမျှ အမှတ်အသားမပြုကြကုန်။ ပစ္စက္ခ–အနုမာန မှတ်ကျောက်တွင် တင်သဖြင့် ဝေဒကျမ်း၊ ၎င်း၏ သတ်ဖြတ်ညှဉ်းဆဲမှုအပြီးပါသော ယဇ်–ကမ္မကဏ္ဍစသည်သာလျှင် မဟုတ်သေး။ အခြားသော ညာဝါးလှည့်ပတ်ချက်များနှင့် ပုရောဟိတ်တို့၏ အလှူတော်လောဘကြောင့် စီရင်ခဲ့သော အကြောင်းများလည်း မှားယွင်းကြောင်း အခိုင်အမာဖြစ်လေတော့၏။ ဤကဲ့သို့သော အခြေအနေတွင် အားလုံးသော ဘာသာရေး နောက်လိုက်များ အလားတူ ဝေဒဆိုင်ရာပုရောဟိတ်များအတွက် မိမိသာကဲ့သို့သော ကျမ်းဂန်များကို စီရင်၍ သဒ္ဒပမာဏကိုသာ အမြတ်ဆုံးသော ပမာဏအဖြစ် အခိုင်အမာပြုပေးဖို့အရေးကြီးလှပေသည်။

ဗုဒ္ဓမှစ၍ နာဂဇ္ဇုနတိုင်အောင် ဗြာဟ္မဏပုရောဟိတ်တို့၏ ထက်မြက်ပြင်းထန်သော လက်နက်ဖြစ်သည့် ဝေဒ၏ ကမ္မကဏ္ဍနှင့် ဉာဏကဏ္ဍအပေါ် ပြင်းထန်သော ရိုက်ခတ်မှုဖြစ်နေပေသည်။

ယုတ္တိ(တက်ကျမ်းအတတ်)အထောက်အကူဖြင့် ဉာဏကဏ္ဍကို ကယ်ဆယ်ရန် အက္ခပါဒနှင့် ၎င်း၏ကျမ်းကို အဖွင့်ရေးသော ဝတ္ထာယနတို့ ကြိုးစားကြ၏။ ထိုကျမ်းများသည် ဒိန္နာဂ၏ ပြင်းထန်သော တက္ကမြားသင့်ရောက်ခြင်းကို ကယ်ဆယ်ရန် ပါသုပတာစရိယဉဒ္ဒေါတကရ ဘာရဒွါဇ (ခရစ်နှစ် ၅၀၀)က ကြိုးစားခဲ့၏။ သို့သော် ဓမ္မကိတ္တိသည် ဥဒ္ဒေါတကရ၏ အခြေ အနေကို အဘယ်ကဲ့သို့ဖြစ်အောင် လုပ်ပစ်လိုက်သနည်းဆိုသော် ဝါစပ္ပတိ မိဿသည် ဥဒ္ဒေါတကရတည်းဟူသော နွားအိုနွားမင်းကြီးကို တုတ်ဆောင် ရန် ခါးစည်းယူရသည်အထိ လုပ်ပစ်လိုက်လေသည်။

သို့သော် ယုတ္တိဝါဒီများ(တက္ကဆရာများ) ၏ အကူအညီဖြင့် ဝေဒိက ဉာဏ်နှင့် ကမ္မကဏ္ဍကိုယ်စားလှယ်များ၏ လုပ်ငန်းတွင်ကျယ်ပေါက်ရောက် မှုမဖြစ်နိုင်တော့ပေ။ ထို့ကြောင့် ဉာဏကဏ္ဍ (ဗြဟ္မဝါဒ) နှင့် ပတ်သက်၍ ဝါဒရာယဏ၊ ကမ္မကဏ္ဍနှင့် ပတ်သက်၍ ဇေမိနိတို့ ကလောင်ကို ထူကြရလေ သည်။ ၎င်းကျမ်းများ၏အဖွင့်ကိုစီရင်သော သဗရသည် အသင်္ဂ၏ ဝိညာဉ် ဝါဒကို တတ်သိနားလည်၏။ ဒိန္နာဂသည် အက္ခပါဒနှင့် ဝစ္ဆာယနကဲ့သို့ သဗရနှင့် ဇေမိနိအပေါ်လည်း ပြင်းပြင်းထန်ထန်ရိုက်ခတ်ခဲ့လေသည်။ ထိုအရေးတွင် နေယာယိကဖြစ်သော ဥဒ္ဒျောတကရကဲ့သို့ မိမံသက ကုမာရိ လဘဋ္ဋလည်း ကွင်းပြင်သို့ ထွက်ခဲ့လေသည်။

ဓမ္မကိတ္တိသည် ဥဒ္ဒျောတကရအပေါ် ရိုက်ပုတ်သည်ထက် ပိုမိုပြင်းထန် စွာ ကုမာရိလအပေါ် ရိုက်ပုတ်ခဲ့လေသည်။ ဝေဒပမာဏအပြင် မိမံသက တို့သည် "ပစ္စဘိညာ"(အခိုင်အမာအမှတ်ရမှု)ကို ခိုင်ခံ့သော ပမာဏတစ်ခု အဖြစ် အသိအမှတ်ပြုကြ၏။ ကျွန်ုပ်တို့သည် ဝေဒပမာဏနှင့် ပစ္စဘိညာ ပမာဏ ၂ မျိုးနှင့်ပတ်သက်၍ ဓမ္မကိတ္တိ၏ အယူဝါဒများကို ရေးသားပေအံ့။

**(က) ပစ္စဘိညာကို ပယ်ဖျက်ခြင်း–** အရာဝတ္ထု(ရာမ)ကို ရှေ့တွင် မြင်၍ "ဤသူကား ထိုသူ(ရာမ)ပင်တည်း" ဤသို့သော ပစ္စဘိညာ(အခိုင်အမာ အမှတ်ရမှု)သည် ကိုယ်ထင်ပြသည့်အလား ထင်ရှားသော ပစ္စက္ခပမာဏ တည်း။ ဤသည်ကား မိမံသကတို့၏ ပစ္စဘိညာတည်း။

ဗုဒ္ဓဝါဒီတို့သည် "ဤသူကား ထိုသူပင်တည်း" ဟူသော တွေးဆချက် အပေါ် မှီသဖြင့် ပစ္စက္ခဟု မယူဆကြပေ။ "ကိုယ်ထင်ပြသည့်အလား ထင်ရှားသောအရာ"နှင့် ပတ်သက်၍ ဓမ္မကိတ္တိက ဆိုခဲ့၏။

"ရိတ်ဖြတ်ပြီးနောက် ပြန်ပေါက်လာသော ဆံပင်များ၊ မြွေအလမ္ဗာယ် သမား၏ အသစ်အသစ်ထုတ်လာသော ဂေါ်လီလုံးများနှင့် ခဏတိုင်းပျက် စီး၍ အသစ်အသစ်မီးတောက်မီးလျှံထွက်သော ဆီမီးများ၌လည်း ဤဆံပင်၊ ဤဂေါ်လီ၊ ဤမီးတောက်ကား ထိုဆံပင်၊ ထိုဂေါ်လီ၊ ထိုမီးတောက်ပင်တည်း" ဟု ထင်ထင်ရှားရှားပြတ်သားပေါ်လွင်၏။ သို့သော် ဤကဲ့သို့ပေါ်လွင်နေ သဖြင့် ထိုဆံပင်၊ ထိုဂေါ်လီလုံး၊ ထိုဆီမီးပင်တည်းဟုဆိုလျှင် ဟုတ်မှန်ပါအံ့ လော။

ကွဲပြားမှုကို ပစ္စက္ခအားဖြင့် မြင်အပ်ပါသော်လည်း "ဒီအတိုင်းပါပဲ"ဟု (တစ်ခုတည်းဟု မှောက်မှားစွာ မကွဲမပြား)သိသောဉာဏ်သည် အဘယ်သို့လျှင် ပစ္စက္ခဖြစ်နိုင်အံ့နည်း။ ထို့ကြောင့် ပစ္စက္ခဘိညာ ဉာဏ်ဖြင့် ဆံပင်အစရှိသည်ကို တစ်မျိုးတည်းဟု ဆုံးဖြတ်ခြင်းသည် မမှန်ပေ။

**(ခ) သဒ္ဒပမာဏကို ပယ်ဖျက်ခြင်း**- ယထာဘူတ ဉာဏ်ကို ပမာဏဟု ခေါ်၏။ သဒ္ဒပမာဏကို အသိအမှတ်ပြုကြသော ကပိလ၊ ကဏာဒ၊ အက္ခ ပါဒတို့သည် ပစ္စက္ခ၊ အနုမာနအပြင် ယထာဘူတကို ဟောညွှန်တတ်သော ပုဂ္ဂိုလ်၏ စကားတော် (သဒ္ဒ) ကိုလည်း ပမာဏဟု အသိအမှတ်ပြု၏။ မီမံသကတို့သည် "အဘယ်ပုဂ္ဂိုလ်သည် ယထာဘူတကို ဟောညွှန်သနည်း"ဟု သိရန်မဖြစ်နိုင်ကြောင်း ဖော်ပြလျက် ဆိုကြ၏။

တစ်စုံတစ်ယောက်သော ပုဂ္ဂိုလ်စီရင်ခဲ့သည် မဟုတ်ဟူသော သဘောသည် အချည်းနှီး-ပုဂ္ဂိုလ်သည် ဟုတ်တိုင်းမှန်ရာကို ဟောညွှန်တတ်သူ ဟုတ်သလော၊ မဟုတ်လော။ ဤသို့ တစ်ထစ်ချပမာဏများကို ရခဲ့သော အခြားတစ်စုံတစ်ယောက်သောသူ၏ အမှားကို ဟောညွှန်တတ်သူ သို့မဟုတ် အမှန်ကို ဟောညွှန်တတ်သူဟု သိဖို့ရန် အလွန်ခဲယဉ်း၏။

အချို့သော စကားများ၏ မှားယွင်းရခြင်းအကြောင်းဖြစ်သော မောဟ၊ လောဘ၊ ဒေါသစသည်အပြစ်များ ပုဂ္ဂိုလ်တွင် ရှိကြ၏။ ထို့ကြောင့် ပုဂ္ဂိုလ်ပြောစကားသည် မှား၏။ ပုဂ္ဂိုလ်ပြောမဟုတ်သောစကားသာ မှန်၏။

၎င်းစကားကို တုံ့ပြန်သော အနေအားဖြင့် ဓမ္မကိတ္တိကဆိုခဲ့၏။

"အချို့သော စကားများ၏ မှန်ကန်ရခြင်းအကြောင်းဖြစ်သော အမောဟ၊ အလောဘ၊ အဒေါသစသည် ဂုဏ်များပုဂ္ဂိုလ်တွင် ရှိကြ၏။ ထို့ကြောင့် ပုဂ္ဂိုလ်၏ စကား မဟုတ်သော စကားသည် အဘယ်မှာ မှန်နိုင်တော့အံ့နည်း။ ပုဂ္ဂိုလ်ပြောစကားသာ မှန်နိုင်ပေ၏။

၎င်းပြင် သဒ္ဒါ၏အနက်ကိုသိကြောင်း ကိရိယာတန်ဆာပလာမှာ (နွားသဒ္ဒါ၏ အနက်ကား ဦးချို၊ အမြီး၊ ပါးပျဉ်းရှိသော အစိုင်အခဲတည်း၊ ဤသို့သော) သင်္ကေတတည်း။ ထို့ပြင် သင်္ကေတသည် ပုဂ္ဂိုလ်တည်းဟူသော တည်ရာအားဖြင့်သာ တည်နေ၏။ ဤသင်္ကေတသည် "ပုဂ္ဂိုလ်လုပ်"ဖြစ်သောကြောင့် စကားများ ပုဂ္ဂိုလ်ပြောမဟုတ်သော်လည်း စကား၏ မှားယွင်း

မှုအပြစ်သင့်ရောက်နိုင်၏။

သဒ္ဒါနှင့်အနက်၏ ဆက်စပ်မှုသည် ပုဂ္ဂိုလ်လုပ် မဟုတ်ဟု အကယ်၍ ဆိုငြားအံ့။ မီးနှင့် မီးတောက်၏ ဆက်စပ်မှုကဲ့သို့ သဒ္ဒါ အနက် ဆက်စပ်မှုသည် သဘာဝဖြစ်သောကြောင့် သင်္ကေတကို မသိသောပုဂ္ဂိုလ်များလည်း ဝေဒ၏ အနက်အားလုံးကိုသိသင့်၏။ ပုဂ္ဂိုလ်လုပ်သင်္ကေတအားဖြင့် ထိုသဒ္ဒါ အနက် ဆက်စပ်မှုပေါ်လွင်လာငြားအံ့။ သင်္ကေတမှတစ်ပါး တခြားဖြစ်သော အခြားတွေးဆချက် တစ်စုံတစ်ခုသည် ဆက်စပ်မှုကို ထိန်းသိမ်းထားနိုင်မည် မဟုတ်တော့ပေ။

အမှန်စင်စစ်အားဖြင့် စကားတို့၏ တစ်ခုသောအနက်၌ သတ်မှတ်ထားခြင်းသည် ပကတိသိဒ္ဓ-သဘာဝအားဖြင့် ပြီးစီးလေသောအရာဖြစ်ခဲ့လျှင် ဧကသဒ္ဒါကို 'တစ်ခု' မှတစ်ပါး အခြားအနက်များ၌ သုံးစွဲမှုမဖြစ်ပေရာ။

ဧကသဒ္ဒါ၏ အနက်များစွာနှင့် ဝါစ္စ-ဝါစကအဖြစ် ဆက်စပ်မှုသည် သဘာဝဖြစ်၏ဆိုသော် ဧကဟူသော သဒ္ဒါနှင့်ပင် ဆန့်ကျင်သော အနက်များကို ဖော်ပြပေလိမ့်မည်။ သို့ဖြစ်လျှင် "အဂ္ဂိဒ္ဒေါမယာဇ်သည် နတ်ပြည်ရောက်ကြောင်းတည်း"ဟူသော စကား၏ အနက်သည် "အဂ္ဂိဒ္ဒေါမယာဇ်ကား ငရဲဘုံသို့ ရောက်ကြောင်းတည်း" ဟူ၍လည်း ဖြစ်နိုင်၏။

ဝေဒကို ပုဂ္ဂိုလ်လုပ်မဟုတ်ဟု မည်သို့ပင် လက်မခံစေကာမူ အစိုင်အခဲ မကွဲမကျေပေ။ အကြောင်းသော်ကား သဒ္ဒါအနက်ဆက်စပ်မှုကို ပုဂ္ဂိုလ်၏ သင်္ကေတအားဖြင့် ထွက်ပေါ်ခြင်းမရှိဟု ယူဆလျှင် စကားသည် လုံးဝအနက်မဲ့ဖြစ်ကြလေရာ၏။ အကြောင်းသော်ကား သဒ္ဒ-အတ္ထဆက်စပ်မှုသင်္ကေတကို လူအားလုံးပင် ဆရာ-တပည့်အဆက်အစပ်အားဖြင့်သာ သိနိုင်ကြ၏။ ဤအချက်ကို မငြင်းဆိုနိုင်ပေ။ အကယ်၍ ပုဂ္ဂိုလ်အားဖြင့် သင်္ကေတထွက်ပေါ်လာမှုကို လက်ခံသော် တကယ့်ကို "ဆင်ရေချိုး"(မနံ့မစပ်)ဖြစ်ခဲ့လေရာ၏။ (ဝေဒ-စကားနှင့် ၎င်း၏သဒ္ဒါ အနက် ဆက်စပ်မှုကိုကား ပုဂ္ဂိုလ်လုပ်ဟူ၍ အသိအမှတ်မပြုဘဲ သဒ္ဒါ-အနက် ဆက်စပ်မှုသင်္ကေတကိုကား ပုဂ္ဂိုလ်က စီမံဖန်တီးပေးသည်ဟု ယူဆ၍ တစ်ဖန်စကားနှင့်ဆက်စပ်နေသော အသိဉာဏ်၏ အမှန်အမှားတွင်ကား ယုံမှားသံသယကို ဖြစ်ပေါ်စေခဲ့၏)

အမှန်စင်စစ်အားဖြင့် ဝေဒကို "ပုဂ္ဂိုလ်လုပ်"မဟုတ်ဟူ၍ အခိုင်အမာ

လုပ်လိုရာတွင် ဓေမိနိဆရာပြသော အကြောင်းများလည်း လုံးဝမှား၏။ ဝေဒစကားများကို ပြုစီရင်သူ ပုဂ္ဂိုလ်ကို မမှတ်မိ။ ထို့ကြောင့် ဝေဒသည် ပုဂ္ဂိုလ်လုပ်မဟုတ်။ ဤသို့လည်း အရှက်အကြောက်ကင်းမဲ့စွာ ဆိုကြ၏။ ကမ္ဘာတစ်ခွင်လုံးဖုံးလေသည့် အမိုက်အမှောင်။ (မီဗျာပကံတမော)

ပုဂ္ဂိုလ်လုပ် မဟုတ်ဟူသော သဘောကို အခိုင်အမာပြုရန် အချို့က ဆိုကြ၏။ "တပည့်သည် မိမိ၏ဆရာထံမှ ကြားနာရခြင်းမရှိဘဲ အက္ခရာပဒ အစရှိသော ဝေဒကို မရွတ်ဆိုနိုင်သကဲ့သို့ ထို့အတူ ဆရာလည်း မိမိဆရာ၊ ဆရာ့ဆရာများထံမှ မကြားမရှိသောကြောင့် ဝေဒသည် အစမရှိ (အနာဒိ)၊ ပုဂ္ဂိုလ်လုပ်မဟုတ်ကြောင်း ထင်ရှား၏။

သို့သော် ဤသို့ဆိုသောသူသည် မေ့သွား၏။ ဝေဒမှတစ်ပါး အခြားပုဂ္ဂိုလ်က စီရင်သော ရဃုဝံသစသော ကျမ်းများလည်း ဆရာ–တပည့် အဖွဲ့အစည်းနှင့်ကင်း၍ သင်အံကျက်မှတ်လာခဲ့ကြသည်ကို မတွေ့မြင်ရဖူးပေ။

သို့ဖြစ်ရာ အဆိုပါ အကြောင်းပြချက်အားဖြင့် ရဃုဝံသစသည်ကိုလည်း ဝေဒကဲ့သို့ အနာဒိဟု ခန့်မှန်းရပေလိမ့်မည်။

ဆရာတပည့်၊ သား အဖ အဆက်အစပ်ဖြင့် အမျိုးမျိုးသောအကြောင်းကို သင်ယူရ၏။ ဆရာ တပည့် အစဉ်အဆက်အားဖြင့် မိမံသကတို့က ဝေဒကို အနာဒိဟု အခိုင်အမာပြုကြ၏။ သို့ဖြစ်လျှင် မိလက္ခုအစရှိသည် တို့ (အိန္ဒိယသားမဟုတ်သော လူမျိုးများ) ၏ ဓလေ့ထုံးစံ(အမိရင်း၊ နှမရင်း နှင့် ထိမ်းမြားခြင်း)နှင့် နတ္ထိကတို့၏ စကား(ကျမ်းဂန်)များကိုလည်း အနာဒိ ဟူ၍ အသိအမှတ်ပြုရပေလိမ့်မည်။ အနာဒိဖြစ်သဖြင့် ၎င်းတို့ကိုလည်း ဝေဒ ကဲ့သို့ပင် သဘာဝအားဖြင့် ပမာဏမြောက်သည်ဟု ယူဆရပေလိမ့်မည်။

ဤကဲ့သို့ ပုဂ္ဂိုလ်လုပ် မဟုတ်ဟူသော သဘော အခိုင်အမာဖြစ်သော်လည်း ဓေမိနိနှင့် ကုမာရိလတို့အား အဘယ်ကဲ့သို့သော အကျိုးသက်ရောက်လေအံ့နည်း။ အကြောင်းသော်ကား ပုဂ္ဂိုလ်လုပ် မဟုတ်ဟူသော သဘောတရားဖြင့် နွားထီး ငါးကျပ်၊ နွားမ ငါးကျပ် သဘောသို့ ရောက်လေရာ၏။

–ပုဂ္ဂိုလ်လုပ် မဟုတ်ဟူသော သဘောတရားနယ်ပယ်တွင် အချို့သော ပုဂ္ဂိုလ်များ ကြီးကျယ်မှုတိုးချဲ့နေခြင်း– အမှန်စင်စင်အားဖြင့် တစ်ဦးနှင့်တစ်ဦး ရိုင်းပင်းသော အနေအားဖြင့် ဓေမိနိ–ကုမာရိလနှင့် အစုစပ်များသည် ပုဂ္ဂိုလ်လုပ်

မဟုတ်ဟူသော ကြွေးကြော်သံကို ဟစ်အော်ကြွေးကြော်ခဲ့ကြ၏။

"ဝေဒစကားတော်၏ အနက်ကား ဤသို့တည်း၊ ဤသို့ မဟုတ်ဟူ၍ ဝေဒသဒ္ဒါများ ကိုယ်တိုင်က မပြောပေ။ သဒ္ဒါ၏ အနက်ကို ပုဂ္ဂိုလ်များက ကြံဆကြ၏။ ထိုပုဂ္ဂိုလ်များသည် ရာဂစသည်နှင့် ယှဉ်ကုန်၏။ ဤကဲ့သို့ ရာဂစသည်နှင့်ယှဉ်သော ပုဂ္ဂိုလ်များအလယ်၌ ဇေမိနိသည် ဝေဒအနက်ကို ယထာဘူတကျအောင် ဟောညွှန်နိုင်သူတစ်ယောက်ဖြစ်ပေ၏။ မေးစရာရှိပြန်၏။ ထိုဇေမိနိတစ်ဦးတည်းသာ ယထာဘူတကျအောင် ဟောညွှန်နိုင်သူဟုတ်၏။ အခြားသူများကား မဟုတ်။ ဤကဲ့သို့ ကွဲပြားမှုအဘယ်ကြောင့် ဖြစ်ရလေသနည်း။ ထိုဇေမိနိအလားတူ ပုဂ္ဂိုလ်ဖြစ်ပါလျက် တစ်နည်းတစ်လမ်းအားဖြင့် အခြားသော ပုဂ္ဂိုလ်များကိုလည်း ဉာဏ်ပညာရှိသူဟု သင်တို့ အဘယ်ကြောင့် ဝန်မခံကြသနည်း။

– ပုဂ္ဂိုလ်လုပ် မဟုတ်ဟူသော သဘောဖြင့် ဝေဒ၏ အနက်သည် အချည်းအနှီးဖြစ်၏။ သင်တို့ဆိုကြ၏။ ပုဂ္ဂိုလ်သည် ရာဂစသည်နှင့် ယှဉ်၏။ ထို့ကြောင့် ဝေဒ၏ အနက်ကို မသိ။ ထိုရာဂစသည်နှင့်ယှဉ်သောကြောင့်ပင် ပုဂ္ဂိုလ်သည် အခြားပုဂ္ဂိုလ်အား သိအောင် လုပ်မပေးနိုင်။ သနားစရာကောင်းသော ဝေဒကား ကိုယ်တိုင်သူ့အနက်ကိုသူ မပြောနိုင်ပေ။ သို့ဖြစ်လျှင် ဝေဒ၏ အနက်သည် ဘယ်အဖြစ်သို့ ရောက်ရှာမည်နည်း။ ဤကဲ့သို့ ကစဉ့်ကလျားနိုင်နေခြင်းအားဖြင့် "နတ်ပြည်ကို လိုလားသော ပုဂ္ဂိုလ်သည် အဂ္ဂိဟုတ္တဟုမ်းကို ပြုရာ၏"ဟူသော အနက်ဖြစ်မသွားဘူးဟု ငြင်းဆိုနိုင်ရန် အဘယ်အထောက်အထားရှိပါသနည်း။

လူများအလယ်တွင် စကားသည် ထင်ရှား၏။ ဤကဲ့သို့ ထင်ရှားသဖြင့် ဤကဲ့သို့ ကစဉ့်ကလျားနိုင်သောအနက်ဖြစ်မသွားနိုင်ပေဟု အကယ်ဆိုငြားအံ့၊ အမေးထွက်လာရာ၏။ လူအားလုံးပင် ရာဂ စသည်နှင့် ယှဉ်ကုန်၏။ ဆိုလူအားလုံးအနက် အဘယ်သူသည် နတ်ပြည်ကဲ့သို့သော ဣန္ဒြေကို ကျော်လွန်သည့်(ဝါ)လက်တွေ့မဟုတ်သည့်အရာဝတ္ထုကို မြင်နိုင်တော့အံ့နည်း" ရာဂစသည်နှင့်ယှဉ်သော ပုဂ္ဂိုလ်က အနက်များစွာရှိသော သဒ္ဒါများတွင် ဤသဒ္ဒါကား ဤအနက်ရှိ၏ဟူသော ဆုံးဖြတ်ချက်ကို ချမှတ်လေသလော။

သဂ္ဂဥဗ္ဗသိစသော ဝေဒကျမ်းလာ သဒ္ဒါအမြောက်အမြား၏ အနက်ကို

'ဝေဒညူ'ဟု ဝန်ခံကြကုန်သော မိမံသကတို့က မလာကရဋ္ဌီနှင့် ကွဲပြားခြားနားစွာ ယူဆထားကြသည်ကို တွေ့ရ၏။ ဥပမာ–သဂ္ဂ၏ လူအများ လက်ခံထားသော အနက်ကား–လူသားထက် အလွန်မြင့်သော အတန်းအဆင့်ရှိ ထူးခြားသော ပုဂ္ဂိုလ်များ၏ နေရာဌာနဖြစ်၍ ထိုဌာနတွင် လူသားတရံမဆံ့ဖူးသော သုခနှင့် ထိုသုခကို ခံစားဖို့ ခံစရာ အမျိုးမျိုးကိုလည်း အမြဲတမ်း ရလွယ်၏ဟူ၍ ဖြစ်သည်။

ထိုဆိုအပ်ခဲ့ပြီးသော အနက်နှင့် ဆန့်ကျင်၍ မိမံသကတို့က အဘယ်သို့ ဆိုကြသနည်း ဆိုသော် သဂ္ဂဟူသည်မှာ ဒုက္ခမှ အချင်းခပ်သိမ်းကင်းသော အမြင့်အမြတ်ဆုံးသော သုခ၏ အမည်တည်းဟု ဆိုကြ၏။ ဥဗ္ဗသီသဒ္ဒါ၏ လူအများလက်ခံသော အနက်ကား နတ်သမီးတည်း။ သို့သော် မိမံသက ဖြစ်သော ဝေဒညူတို့က မီးပွတ်ခုံ သို့မဟုတ် ပါတြီမည်သော ယာဇ်ခွက်၏ ပရိယာယ် (စကားလှယ်) ဟု ဆိုကြ၏။ သို့ဖြစ်လျှင် သဂ္ဂ ဥဗ္ဗသီသဒ္ဒါများ အလားတူ "ဇုဝေယျ"၏အနက်သည် "ခွေးသားစားလော့" ဖြစ်၏။ အနက်အမျိုးမျိုးထွက်နိုင်သော အခြားသဒ္ဒါများ (အဂ္ဂိဟုတ္တဇုဝေယျ) ၌ အလားတူပင် "ခွေးသားစားလော့" ဟူသောအနက် ကြံဆချက်ကိုလည်း လက်ခံလေလော့။

ရာဇဂြိုဟ်သွားလမ်းကို မေးသောအခါ တစ်ယောက်က "ဒီဟာ လမ်းဆိုတာ ခြေမသန်တဲ့လူက ပြောတာ" ဟုဆို၏။ အခြားတစ်ယောက်က "ဒီဟာ လမ်းဆိုတာ ငါကိုယ်တိုင်ပြောတာ"ဟု ဆိုဘိသကဲ့သို့ ပုဂ္ဂိုလ်လုပ် မဟုတ်ဟူသော ကြွေးကြော်သံမှာ ပုရောဟိတ်တို့၏ သူတပါးအား လှည့်ပတ်ဖြားယောင်းချက်မျှသာတည်း။ ယခုအခါ သင်တို့သည် ထိုသူ ၂ ဦး၏ လှည့်စားချက်နှင့် အမှန်ကို ကိုယ်တိုင် စမ်းသပ်နိုင်ကြ၏။

–ဝေဒ၏ စကားတစ်လုံးမှန်သဖြင့် ဝေဒတစ်ခုလုံး မမှန်ပေ။ "အဂ္ဂိဟိပယ္ယ ဘေသဇံ" "မီးသည် ဆောင်းအအေး၏ဆေး" ဟူသော ဝေဒဝါကျ တစ်ခုရှိ၏။ ဤဝေဒဝါကျကို အကြောင်းပြု၍ မိမံသကတို့ကဆိုကြ ၏။ "အဂ္ဂိဟိမ ဿဘေသဇံ" ဟူသောဝါကျသည် လုံးလုံးမှန်၏။ (လက်တွေ့ဖြစ်၏) ထို့အတူ "အဂ္ဂိဟုတ္တံဇုဝေယျ သဂ္ဂကာမော" "နတ်ပြည်ကို လိုလားသောသူသည် အဂ္ဂိဟုတ္တဟုမ်းကို ပြုရာ၏"ဟူသော အခြားဝါကျကိုလည်း

ထိုဝေဒ၏အစိတ်အပိုင်းတစ်ခုဖြစ်သောကြောင့် အခိုင်အမာဟု အသိအမှတ်ပြုသင့်၏။

၎င်းကို တုံ့ပြန်ချေပသောအားဖြင့် ဤမျှသာဆိုလိုက်၏။

"အကယ်၍ ဤကဲ့သို့ စကားတစ်လုံးမှန်သဖြင့် ပမာဏမြောက်သည်ဟု ဆိုရသော် ပမာဏမမြောက်သော စကားအဘယ်မှာ ရှိတော့အံ့နည်း။ စကားများများပြောသော ပုဂ္ဂိုလ်၏ စကားများအနက် တစ်လုံးမှ မမှန်ဟု မဆိုနိုင်ပေ။ (အရှူးဆယ်ခွန်းပြောသော် တစ်ခွန်းမှန်၏)

- သဒ္ဒသည် ဘယ်တော့မှ ပမာဏမမြောက်နိုင်-ပစ္စက္ခ (သို့မဟုတ်) အနုမာနအားဖြင့် ထင်ရှားသောအနက်သည် ထိုကဲ့သို့ ထင်ရှားစေသော လက်နက်ကိရိယာများတွင် ဝေဒကျမ်းကို ပယ်စွန့်လိုက်သဖြင့် တစ်စုံတစ်ရာ ထိခိုက်ချို့တဲ့ခြင်း မရှိပေ။ မျက်ကွယ်ဖြစ်သော အနက်ကိုလည်း ချက်ချင်းအခိုင်အမာလုပ်ကို မပေးနိုင်။ ထို့ကြောင့် ထို မျက်မှောက် မျက်ကွယ်များတွင် ဝေဒ (=အာဂမ) ကို အသုံးပြုခြင်းလည်း မမှန်နိုင်ပေ။ ထို့ကြောင့် ဤပမာဏအရာ၌ ဝေဒကို အသိအမှတ်ပြုကို မပြုနိုင်။ ဤသို့အားဖြင့် ပရောက္ခ (မျက်ကွယ်) အပရောက္ခ (မျက်မှောက်) ၂ မျိုးစလုံးမှာပင် ဝေဒသို့မဟုတ် သဒ္ဒပမာဏ၏ အခန်းမရှိပေ။

အားလုံးသော အကြောင်းအရာများနှင့် ပတ်သက်၍ စဉ်းစားသောအခါ ကျမ်းဂန်(ဝေဒ)ကို ကိုးကားသင့်၏။ ဝေဒအယူအဆများကို မသိသောသူသည် မီးခိုးကိုမြင်၍ မီးရှိသည်ဟု မယူဆသင့် ဤဉပဒေကို အဘယ်သူက လုပ်ထားသနည်း။

ဝေဒညွှတ်ကွင်းမှ လွတ်ကင်း၍ ဝေဒကျမ်းများကို အကျိုးသို့မဟုတ် အပြစ်ကို မသိသော ရိုးရိုးသားသားပုဂ္ဂိုလ်များ၏ ဦးခေါင်းတွင် ဝေဒအစရှိသော ပမာဏသဘောတရာ မြေဘုတ်ဘီလူးကြီးများကို အဘယ်သူ သွတ်သွင်းထားလေသနည်း။

နောက်ဆုံး၌ ဓမ္မကိတ္တိသည် မီမံသကတို့၏ ပစ္စက္ခ၊ အနုမာနကဲ့သို့သော ပမာဏများကို လွှတ်၍ "လူလုပ်မဟုတ်သော ဝေဒ"စကားအတိုင်း မျက်စိမှိတ်၍ ယုံကြည်မှုနှင့် ပတ်သက်၍ အထူးတလည် ပြင်းပြင်းထန်ထန် ပယ်ဖျက်မှုကို ဥဒါဟရဏ်တစ်ခုပေး၍ ပြုလုပ်ခဲ့၏။

မျောက်မထားသော မိန်းမတစ်ယောက်ကို ယောကျာ်းတစ်ပါးနှင့် သွားလာပျော်မြူးနေစဉ် လင်ဖြစ်သူက တွေ့မြင်ဖမ်းဆီးမိ၏။ လင်ယောကျာ်းက ပြောဆိုဆုံးမသောအခါ မျောက်မထား မိန်းမက အနီးအပါးတွင်ရှိသော မိန်းမများအား တိုင်တန်းလျှက်ပြောလိုက်ပုံမှာ "ညီမတို့ အစ်မတို့ ကျွန်မလင်၏ မိုက်မဲဖျင်းအပုံကို မြင်ကြသည် မဟုတ်ပါလော။ ကျွန်မကဲ့သို့သော တရားဝင်မယားတစ်ဦး၏စကား (သဒ္ဒပမာဏ)ကို မယုံကြည်ဘဲ သူ့မျက်စိ ၂ လုံး (ပစ္စက္ခနှင့် အနုမာန)ကို ယုံကြည်လိုက်လေခြင်းတော်"

ဣလာသရဝါဒီအမြောက်အမြားနှင့် သန္ဒေဟ(သံသယ)ဝါဒီအဘိဓမ္မာဆရာများသည် ကမ္ဘာတွင် ကျိုးကြောင်းဆက်သသောတရား၊ သို့မဟုတ် ဟေတုဝါဒကို လက်မခံကြကုန်။ ဣဆလာမ်အဘိဓမ္မာဆရာများအနက် 'အသျှအရီ' သည် ကျိုးကြောင်းဆက် သဘောတရားကို ဘုရားသခင် (အလ္လာဟ်)၏ အနန္တတန်ခိုးတော် အရှင်ဖြစ်မှုတွင် ကြီးစွာသော အဆီးအတားဖြစ်သည်ဟု အသိအမှတ်ပြု၏။

ကျိုးကြောင်းဆက်သဘောတရားကို တစ်နည်းတစ်လမ်းအားဖြင့် ရုပ်ဝါဒ၏ ပုန်းအောင်းနေသော အထောက်အပံ့ဟု ယူဆ၍ အရာဝတ္ထုများ၏ ပေါက်ပွားဖြစ်ပေါ်မှုတွင် တစ်စုံတစ်ခုသောအကြောင်း ရှေးဦးစွာ ရှိနေနှင့်သည်မဟုတ်။ အလ္လာသခင်သည် အရာဝတ္ထုတိုင်းကို အချိန်တိုင်းမှာပင် လုံးလုံးအသစ် အသစ် အဘာဝမှ ဘာဝဖြစ်အောင် ဖန်ဆင်း၏ဟု ဆိုကြ၏။

အသျှအရီအပြင် အချို့သော သန္ဒေဟဝါဒီခေတ်သစ်ခေတ်ဟောင်း အဘိဓမ္မာဆရာများရှိကြ၏။ ၎င်းတို့သည် ကမ္ဘာပေါ်ရှိ အရာဝတ္ထုများကို စီရင်ရာ၌ တစ်စုံတစ်ခုသော ကျိုးကြောင်းဆက်သဘောတရားကို လက်မခံ ကြကုန်။ ၎င်းတို့၏ အဆိုအားဖြင့် အရာဝတ္ထုများသည် အကြောင်းတစ်စုံတစ် ရာကြောင့်ဖြစ်သည်မဟုတ်။ ၎င်းပြင် ချက်ချင်းပျောက်ကွယ်သွားသော အရာဝတ္ထုများသည် မိမိ၏ရှေ့သွားတရားများ၏ သဘာဝစသည်တွင် တူညီ ၍ဖြစ်ပေါ်ရမည်ဟူသော တစ်စုံတစ်ခုသော စည်းမျဉ်းကို မလိုက်နာကြပေ။ သူတို့အဆိုအားဖြင့်—

"ဆူးအစရှိသည်တွင် ထက်မှုစသည်၏ အကြောင်းတစ်စုံတစ်ခုမရှိသကဲ့သို့ ထို့အတူ ကမ္ဘာတွင် မည်သည့်အရာမဆို အကြောင်းကင်း၍ (အယော

တုက)ဖြစ်ကြ၏”

မမ္မကိတ္တိက တုံ့ပြန်ချေပ၏။

“အကြင်တရား ရှေ့ကဖြစ်သွားပြီးနောက် အကြင်တရား နောက်တွင်ဖြစ်၏။ တစ်နည်း အကြင်တရား ဖောက်ပြန်ပျက်စီးသဖြင့် အကြင်တရား ဖောက်ပြန် ဖြစ်ပေါ်၏။ ထိုရှေးပျက်တရားကို ထိုနောက်ဖြစ် တရား၏ အကြောင်းဟု ခေါ်၏။ ထိုသဘောသည် အဆိုပါ ဆူးများတွင်လည်းရှိ၏”

ဖြစ်ပေါ်လာသော အရာဝတ္ထုတိုင်း အသစ်အသစ်ဖြစ်၏ဟု ဗုဒ္ဓအဘိဓမ္မာ ဆရာများလည်း ယူဆကြ၏။ သို့သော်လည်း ဗုဒ္ဓအဘိဓမ္မာဆရာများက ၎င်းအသစ်အသစ်ဖြစ်လာသော အရာဝတ္ထုများကို ခဏတိုင်းပျက်စီးတတ်သော ဗိန္ဒုတို့၏ အစဉ်အတန်းတွင် ဗိန္ဒုတစ်ခုဟု ယူဆကြ၏။ ဤသို့အားဖြင့် ရှေ့သွားနှင့် နောက်လိုက်မရှိသော ဝတ္ထု ဗိန္ဒုတစ်ခုမှ မရှိ။ ထိုရှေ့သွား ဗိန္ဒုသည်ပင် အကြောင်းဖြစ်၏။ ၎င်းပြင် နောက်လိုက်သည် မိမိ၏ ရှေ့သွား ဗိန္ဒုနှင့် သဘာဝအားဖြင့်တူ၏။ အကယ်၍ ဤသဘောတရားဖြစ်စဉ်မရှိခဲ့သော် သရက်သီးစားသောသူသည် သရက်စေ့ကိုစိုက်ရန် လွန်စွာ စိတ်ထက်သန်မှုမဖြစ်ပေရာ။ အရာဝတ္ထုတစ်ခုရှိမှသာ အခြားသော အရာဝတ္ထုတစ်ခု ရှိခြင်းနှင့် အရာဝတ္ထုတိုင်း မိမိ၏ ရှေ့သွားနှင့်အတူဖြစ်ခြင်းက ဟေတုဝါဒကို အခိုင်အမာပြု၏။ ကမ္ဘာတွင် နေရာတကာ တွေ့မြင်နေရသော ဖြစ်ပေါ်မှု အစဉ်နှင့်တူညီစွာ ဖြစ်ပေါ်မှုသဘောတရားထင်ရှားနေသမျှ အဟေတုဝါဒ သည် လုံးဝမှားယွင်း၏ဟု အသိအမှတ်ပြုခြင်းခံသွားရပေလိမ့်မည်။

**ဂျိန်းဝါဒီတို့၏ အနေကန္တဝါဒကို ပယ်ဖျက်ခြင်း–** ဂျိန်းအဘိဓမ္မာ၏ “ဘဝေယျ” ဝါဒ (သို့မဟုတ်) အနေကန္တဝါဒကို ကျွန်ုပ်တို့ ဖွင့်ဆိုရေးသားပြီးခဲ့လေပြီ။ အနေကန္တဝါဒအရ အိုးသည် အိုးလည်းဟုတ်၏။ ပုဆိုးလည်းဟုတ်၏။ ထို့အတူ ပုဆိုးသည် ပုဆိုးလည်းဟုတ်၏။ အိုးလည်းဟုတ်၏။ ဤဝါဒ ကို မမ္မကိတ္တိက ချေပ စွပ်စွဲခဲ့၏။

“အကယ်၍ အလုံးစုံသော အရာဝတ္ထုတို့သည် မိမိနှင့်အခြားအရာဝတ္ထု ၂ မျိုးစလုံးဖြစ်ခဲ့ကြလျှင် ဒိန်ခဲသည် ဒိန်ခဲသာ ကုလားအုတ်မဟုတ်၊ ကုလားအုတ်သည် ကုလားအုတ်သာ ဒိန်ခဲမဟုတ်ဟူသော ထူးခြားချက်ကို ပယ်လှန်

သဖြင့် တစ်စုံတစ်ယောက်ကို "ဒိန်ခဲစားပါ"ဟုဆိုလျှင် ထိုသူ အဘယ်ကြောင့် ကုလားအတ်ပေါ်စီး၍ မပြေးသနည်း" (နောက်ဆုံး ဒိန်ခဲတွင် ကုလားအုတ် ရှိသကဲ့သို့ ကုလားအုတ်တွင် ဒိန်ခဲရှိနေသည်ဟု ဆိုလိုရာကျ၏)

"ဒိန်ခဲတွင် ထူးခြားမှုတစ်ခုရှိ၏။ ၎င်းထူးခြားမှုနှင့်တကွ ဒိန်ခဲသည် လက်ရှိရှိ၏။ ကုလားအုတ်ကား မရှိဟု ဆိုခဲ့သော် ဤကဲ့သို့သော ထူးခြားမှုသည် ကုလားအုတ်မှ တစ်ပါးသော အခြားသော အရာဝတ္ထုများတွင်လည်း ရှိရာ၏။ ဤကဲ့သို့ မရှိပေ။ ထို့ကြောင့် အရာဝတ္ထုအားလုံး သဘော ၂ မျိုး မရှိ။ စင်စစ်သော်ကား မိမိသဘောနှင့် မိမိဖြစ်၏။ သူတစ်ပါးသဘောနှင့် သူတစ်ပါးဖြစ်၏"

ဓမ္မကိတ္တိ အဘိဓမ္မာ၏ အကျဉ်းချုပ် ဖွင့်ဆိုချက်ကို ၎င်း၏ ဂါထာ တစ်ပုဒ်နှင့်ပင် ကျွန်ုပ်တို့ အဆုံးသတ်လိုက်ပါ၏–

ဝေဒပ္ပာမည်၊ ကဿစိတတ္တုဝါဒေါ။
နှာနေဓမ္မိစ္ဆာ၊ ဇာတိဝါဒါဝလေပေါ။
သန္တာပါရမ္ဘော ပါပဟာနာယစေတိ။
ဓွဿပ္ပညာနံ ပဉ္စလိင်္ဂါနိ ဇာဍျေ။

*(ပမာဏဝတ္တိက–သဝုတ္တိ– ၁၊ ၃၄၂)*

(၁) ဝေဒ (ကျမ်း)ကို အခိုင်အမာပြုခြင်း။ (၂) တစ်စုံတစ်ယောက် (ဣဿရ) အား (ဖန်ဆင်း) ပြုလုပ်သူဟု ယူဆခြင်း။ (၃) ရေချိုးမှုကို (ပြု ခြင်းအားဖြင့်) ဘာသာရေး ကျင့်ဝတ် (ဖြစ်ဖို့) လိုလားခြင်း။ (၄) (ဇာတ် နိမ့်–ဇာတ်မြင့် ခွဲခြား၍) ဇာတိဝါဒဖြင့် မာန်မူခြင်း။ (၅) ၎င်းပြင် မကောင်းမှု ကင်းဝေးစေရန် (ကိုယ်ကာယကို)ပူလောင်စေခြင်း (အစာငတ်ခံခြင်း၊ ကိုယ် ကာယပူပန်သော အကျင့်များကို ကျင့်ခြင်း) ဤငါးမျိုးတို့ကား ဉာဏ်ပညာ ပျက်စီးလျှော့ကျနေသော သူတို့၏ မိုက်မဲမှုအမှတ်လက္ခဏာတို့ပေတည်း။

* * *